တန်ဖိုး – ၃၂၀၀ ကျပ်

# ဖေမြင့်

# စီးပွားရေးတွေးခေါ်ရှင်များ

**Steven Pressman**

**Fifty Major Economists**

စာမူခွင့်ပြုချက်အမှတ်
၄၀၀၇၃၆၀၆၀၇

မျက်နှာဖုံးခွင့်ပြုချက်အမှတ်
၄၀၀၆၉၈၀၇၀၇

မျက်နှာဖုံးသရုပ်ဖော်
အံ့ဘွယ်ဇင်

မျက်နှာဖုံးပုံနှိပ်သူ
ဒေါ်ရွှေ (၀၂၀၇၉)၊ သုခပုံနှိပ်တိုက်၊
၁၂၈၊ ၄၆ လမ်း၊ ရန်ကုန်မြို့။

အတွင်းပုံနှိပ်သူ
ဒေါ်ခင်လှ (၀၁၅၇၈)၊ စာပေလောကပုံနှိပ်တိုက်၊
၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်မြို့။

ထုတ်ဝေသူ
ဦးဖေမြင့် (၀၂၂၅၉)၊ ဖေမြင့်စာပေ၊
အမှတ် N - 6 ၊ ရွှေမာလာရိပ်မွန်၊
ဘုရင့်နောင်လမ်း၊ ကမာရွတ်၊ ရန်ကုန်မြို့။

ပုံနှိပ်ခြင်း
ပထမအကြိမ်၊ ၂၀၀၇ ခုနှစ်၊ သြဂုတ်လ။

အုပ်ရေ - ၁၀၀၀

## မာတိကာ

## အမှာစကား

လွန်ခဲ့သော ၁၄-၅ နှစ်ခန့်က စတင်ကာ စီးပွားရေးဆိုင်ရာ ရေးသားချက်များကို ဂရုပြု ဖတ်ရှုဖြစ်ခဲ့သည်။ ကျွန်တော်တို့ဘဝများနှင့် တိုက်ရိုက်ပတ်သက်လာ၊ လွှမ်းမိုးလာ၊ ထိခိုက်လာသည့် အချို့သော ကိစ္စရပ်များကို အကြောင်းပြုကာ၊ ယင်းတို့၏ သဘောသဘာဝများကို သိတန်သရွေ့ သိရှိနားလည်အောင် စူးစမ်းလေ့လာရင်း၊ အထွေထွေ စာသမားတို့အတွက် မခက်ခဲလွန်းသော စီးပွားရေးပညာ စာအုပ်စာတမ်းများကို ဖတ်ရှုမိခဲ့ခြင်းဖြစ်သည်။

Steven Pressman ၏ Fifty Major Economists စာအုပ်ကို တွေ့ရသည့်အခါ၊ ကျွန်တော်တို့ သိလိုသော အတိုင်းအတာနှင့် အံဝင်ခွင်ကျရှိလှသဖြင့် အထူး စိတ်ဝင်စားသွားမိသည်။ စာအုပ်ရေးသားသူ စတီဗင်ပရက်(စ)မင်းမှာ အမေရိကန်ပြည်ထောင်စု နယူးဂျာဆီပြည်နယ် မွန်မတ်(သ)တက္ကသိုလ်မှ စီးပွားရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ပါမောက္ခဖြစ်ပြီး၊ စီးပွားရေးပညာ စာအုပ်စာတမ်းများ ရေးသားသည့်အပြင်၊ နိုင်ငံရေးဘောဂဗေဒရီဗျူး စာစောင်၏ တွဲဖက်အယ်ဒီတာအဖြစ် ဆောင်ရွက်နေသူလည်း ဖြစ်သည်။

Fifty Major Economists တွင် ပရက်(စ)မင်းက၊ တောမတ်(စ)မန်း၊ အက်ဒမ်စမစ် စသည့် စီးပွားရေးပညာ၏ ကနဦးအစ ပုဂ္ဂိုလ်ကြီးများမှသည် ရောဘတ်လူးကပ်(စ)၊ အမာတီယာဆင်း စသည့် သည်ဘက်ခေတ် နိုဘယ်ဆုရ ပုဂ္ဂိုလ်ကျော်များအထိ၊ ခေတ်အဆက်ဆက် စီးပွားရေးပညာရှင် ဆွေးခေါ်ရှင်ကြီး ၅၀ တို့၏ အကြောင်းကို စုစည်းတင်ပြပေးထားသည်။

ပုဂ္ဂိုလ်တစ်ဦးချင်းနှင့် ပတ်သက်၍၊ ၎င်းဖြတ်သန်းခဲ့သည့် ခေတ်ကာလ ပတ်ဝန်းကျင် သို့မဟုတ် သူ၏ အတ္ထုပ္ပတ္တိအကျဉ်း၊ စီးပွားရေးပညာဆိုင်ရာ သူ၏ အတွေးအမြင် အယူအဆ အရေးအသားများ သို့မဟုတ် သည့်ပညာရပ်အတွက် သူ၏ဖြည့်ဆည်းချက်များ၊ သူ့အယူအဆများအပေါ် ဝေဖန်သုံးသပ်ချက်၊ စီးပွားရေးပညာနယ်ပယ်၌ သူ၏ ဩဇာသက်ရောက်မှု အတိုင်းအတာ စသည်တို့ကို တိုတိုကျဉ်းကျဉ်း ရှင်းလင်းစွာ ရေးသားထားသည်။ ပုဂ္ဂိုလ်များကို ၎င်းတို့မွေးဖွားသည့် ခုနှစ်အစီအစဉ်အတိုင်း အစောဆုံးပုဂ္ဂိုလ်မှစတင်၍ ဖော်ပြထားရာ၊ တစ်ဦးစီအကြောင်းကို ဖတ်ရှုရင်း လွန်ခဲ့သော နှစ်ပေါင်း ၄၀၀ မျှကာလအတွင်း စီးပွားရေးပညာရပ် ဖွံ့ဖြိုးဖြစ်ပေါ်လာပုံ သမိုင်းကိုလည်းကောင်း၊ တိုင်းပြည်ဒေသနှင့် ခေတ်ကာလအသီးသီးရှိ လူအသီးသီးတို့ ခေါင်းထဲ၌ မိမိတို့ ရင်ဆိုင်ကြုံတွေ့ရသည့် ပကတိအနေအထားများပေါ်တွင် မူတည်ကာ စီးပွားရေးဆိုင်ရာ အတွေးအမြင် အယူအဆ အသီးသီး ကိန်းအောင်းတည်ရှိလာပုံ သဘောကို လည်းကောင်း တွေ့ရှိသိမြင်ရမည် ဖြစ်သည်။

စီးပွားရေးအကြောင်းရပ်တွင် စိတ်ဝင်စားသည့် မြန်မာပရိသတ်သို့ ဤစာအုပ်ကို လက်ဆင့်ကမ်း ပေးပို့နိုင်ရန် အားထုတ်သည့်အခါ၌ မူရင်းအာဘော်အတိုင်း တတ်နိုင်သမျှ တိကျမှန်ကန်မှုရှိစေရန် သတိပြုခဲ့ပါသည်။ အချို့သော အကြောင်းအရာ အချက်အလက်နှင့် အဓိပ္ပာယ်အကောက်အယူများအတွက် လက်လှမ်းမီသမျှ စီးပွားရေးပညာဆိုင်ရာ ရည်ညွှန်းစာအုပ်များ၊ စီးပွားရေးပညာရှင် အတ္ထုပ္ပတ္တိများ၊ စီးပွားရေးပညာသမိုင်းကျမ်းများနှင့် တိုက်ဆိုင်ညှိနှိုင်းမှု ပြုပါသည်။ ဘာသာရပ်ဆိုင်ရာ အသုံးအနှုန်းများကို မြန်မာဘာသာဖလှယ်ရာ၌မူ တက္ကသိုလ်များ စာအုပ်ပြုစုရေးကော်မတီထုတ် 'ပညာရပ် ဝေါဟာရများ' ကျမ်းကို အဓိက အသုံးပြုပါသည်။

ဤစာအုပ်ကို ဖတ်ရှုခြင်းဖြင့် စာဖတ်သူ၌ စီးပွားရေးပညာဆိုင်ရာ အသိအမြင် ဗဟုသုတများ တိုးပွားစေနိုင်လိမ့်မည်ဟု မျှော်လင့်ယုံကြည်မိပါသည်။

စာဖတ်သူအား ထာဝစဉ်လေးစားလျက်

ဇေမြင့်

# တောမတ်(စ)မန်း

(၁၅၇၁ – ၁၆၄၁)



၁၇ ရာစုဝန်းကျင်က ဗြိတိန်ပြည်တွင် ကုန်သည်တစ်ပိုင်း စီးပွားရေးပညာရှင်တစ်ပိုင်း ပုဂ္ဂိုလ်များ ပေါ်ပေါက်ခဲ့သည်။ ၎င်းတို့ကို ကုန်သည်–စီးပွားရေးပညာရှင်များ (merchant-economists) ဟူ၍လည်းကောင်း၊ ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီများ (mercantilists) ဟူ၍လည်းကောင်း ခေါ်ဝေါ်ကြသည်။

တောမတ်(စ)မန်း (Thomas Mun) က သည်အစုထဲတွင် လူသိအများဆုံး၊ လေးစားမှုလည်း အခံရဆုံးပုဂ္ဂိုလ် ဖြစ်သည်။ သူတို့လူစုက အင်္ဂလိပ်တို့ စီးပွားရေးတိုးတက်ရန်အတွက် ပြည်ပကုန်သွယ်ရေးတွင် အသာရအောင် ဆောင်ရွက်ရန် အကြံပြုကြသည်။

၁၆၆၄ ခုနှစ်ထုတ် မန်း၏ စာအုပ်တစ်အုပ်တွင်...

'ကျွန်ုပ်တို့၏ နေဥစ္စာ ရတနာများတိုးပွားအောင် ပုံမှန်ဆောင်ရွက်နိုင်သည့် နည်းလမ်းမှာ နိုင်ငံခြားကုန်သွယ်ရေး ဖြစ်သည်။ ဤနည်းလမ်းအတိုင်း ဆောင်ရွက်ရာ၌ လိုက်နာရမည့် ဥပဒေသကား၊ တိုင်းတစ်ပါးသားတို့ထံမှ နှစ်စဉ် ကျွန်ုပ်တို့ ဝယ်ယူစားသုံးသည့် တန်ဖိုးပမာဏထက် ပို၍

ၚင်းတို့အား ရောင်းချရေးဖြစ်သည်။ ကျွန်ုပ်တို့ တင်ပို့လိုက်သော ကုန်ပစ္စည်းများအနက် သွင်းကုန်အဖြစ် ပြန်ဝင်လာခြင်း မရှိသည့် အစိတ်အပိုင်းသည် တိုင်းပြည်အတွက် ဘဏ္ဍာတော်ငွေများ ဆောင်ကြဉ်းလာပေမည်' စသဖြင့် ရေးသားဖော်ပြထားသည်ကို တွေ့ရှိရသည်။

မန်း၏ ပုဂ္ဂိုလ်ရေးဘဝနှင့် စပ်လျဉ်းသည့် အကြောင်းရပ်များကို အကြမ်းဖျင်းလောက်သာ သိရှိရသည်။

သူ့အဘိုးသည် ဘုရင့်ဒင်္ဂါးစက်ရုံ၌ အမှုထမ်းခဲ့ပြီး၊ ဖခင်ကမူ အထည်ကုန်သည်တစ်ဦး ဖြစ်သည် ဟုမှတ်သားရသည်။

မန်းကိုယ်တိုင်မူ ငယ်ရွယ်စဉ်မှာပင် ကုန်သည်ဘဝသို့ ရောက်ရှိခဲ့ပြီး အီတလီပြည်တွင် နှစ်ပေါင်းအတော်ကြာ လုပ်ကိုင်ရှာဖွေကာ နေဥစ္စာများစွာ စုစည်းရရှိခဲ့သည် ဟုဆိုသည်။ နောက်၌ သူသည် အရှေ့အိန္ဒိယကုမ္ပဏီသို့ ဝင်ရောက်ခဲ့သည်။ အရှေ့အိန္ဒိယကုမ္ပဏီမှာ အရှေ့အာရှဒေသနှင့် အဓိကကုန်သွယ်မှုပြုနေသည့် ဗြိတိသျှ အစုစပ်ကုမ္ပဏီကြီးတစ်ခု ဖြစ်သည်။ ၁၆၁၅ ခုနှစ်မှ စတင်ကာ မန်းသည် အရှေ့အိန္ဒိယကုမ္ပဏီ၏ ဒါရိုက်တာလူကြီးတစ်ဦး ဖြစ်လာပြီး ထိုရာထူးတာဝန်၌ ၁၆၄၁ ခုနှစ် သူကွယ်လွန်ချိန်အထိ ဆောင်ရွက်ခဲ့သည်။

ချမ်းသာကြွယ်ဝသလို ဂုဏ်ရည်အဆင့်အတန်းလည်း မြင့်မားလာခဲ့သော မန်းသည် ဗြိတိသျှအစိုးရက ဖွဲ့စည်းသည့် ကော်မရှင်နှင့် ကော်မတီအတော်များများတွင် ပါဝင်ဆောင်ရွက်ရန် တာဝန်ပေးအပ်ခြင်း ခံခဲ့ရသည်။ ၎င်းအဖွဲ့အစည်းများမှ ထုတ်ပြန်ခဲ့သည့် အစီရင်ခံစာများကို ကြည့်ရှုသည့်အခါ အစီရင်ခံစာနောက်၌ ပူးတွဲပါလာလေ့ရှိသည့် ကော်မတီဝင်စာရင်းများထဲတွင် မန်း၏အမည်ကို တွေ့ရတတ်သည်။ သို့သော် သည်အစီရင်ခံစာများထဲတွင် သူ့အာဘော် မည်ရွေ့မည်မျှ ပါသည်ကိုကား မသိနိုင်ကြ။ သူကိုယ်တိုင်ရေးသားသည်ဟု တိတိကျကျ သိရသည်က စီးပွားရေးဆိုင်ရာ စာတမ်းနှစ်စောင်သာ ဖြစ်သည်။

❖



၁၆၂၁ ခုနှစ် ရေးသားသည့် A Discourse of Trade from England unto the East Indies (**အင်္ဂလန်မှ အရှေ့အိန္ဒိယကျွန်းစုသို့ ကုန်သွယ်မှုစာတမ်း**) အမည်ရှိ သူ၏ ပထမစာတမ်းမှာ အရှေ့အိန္ဒိယကုမ္ပဏီအား ကာကွယ်ထားခြင်း ဖြစ်၏။ ဝေဖန်သူတို့က အရှေ့အိန္ဒိယကုမ္ပဏီသည် အရှေ့တိုင်းမှ ဟင်းခတ်အမွှေးအကြိုင်များနှင့် ဖလှယ်ရန်အတွက် တိုင်းပြည်မှ ရွှေနှင့်ငွေများကို အပြင်သို့ ထုတ်လျက်ရှိရာ ၎င်းအဖိုးတန်ရတနာများ ဆုံးရှုံးခြင်းကြောင့် ဗြိတိသျှ၏ စီးပွားရေး ထိခိုက်ကျဆင်းစေသည် ဟုပြစ်တင်ပြောဆိုကြသည်။

အဆိုပါ ဝေဖန်သူတို့အား ချေပရန်သာ အဓိကဦးတည်ခဲ့သည့် မန်း၏ ဤစာတမ်းမှာ (၎င်းတို့အုပ်စုဝင်များ ကိုင်စွဲသည် ဆိုသည့်) ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒ အယူအဆများနှင့် ကွာဟနေခဲ့သည်။ ၎င်းတို့ပြောဟောနေကျ ကုန်သွယ်ရေးပိုငွေပြရေး၊ ရွှေတုံးရွှေခဲများ စုဆောင်းမိရေးဆိုသည်များအစား အရှေ့အိန္ဒိယကုမ္ပဏီကို ကာကွယ်နိုင်မည့် ဆင်ခြေဆင်လက်မျိုးစုံကိုသာ သူ တင်ပြထားခဲ့သည်။

တိုင်းပြည်တွေ ကြွယ်ဝကြသည်ဆိုသည်မှာ မိသားစုများ ကြွယ်ဝကြသည့်နည်းတူ အသုံးအစွဲ ကျစ်လျစ်ချွေတာခြင်း၊ ကိုယ်သုံးစွဲသည်ထက် ပို၍ရအောင် ရှာဖွေခြင်း စသည်တို့ပေါ်မှာပင် အခြေခံကြောင်း၊ အသုံးအစွဲများပြီး အဝင်နည်းသည့်အခါ၌ တိုင်းပြည်များရော မိသားစုများပါ ဆင်းရဲကြကြောင်း၊ ယခုကိစ္စ၌ ကုန်သွယ်မှုအလုပ်ကြောင့် အရှေ့အိန္ဒိယကုမ္ပဏီ အကျိုးအမြတ် ရှိနေသည်ဆိုလျှင် ဗြိတိန်ပြည်က အကျိုးအမြတ် ရရှိနေခြင်းသာဖြစ်ကြောင်း သူကဆိုသည်။

ထို့ပြင် အစားအစာ၊ အဝတ်အထည်နှင့် ခဲယမ်းမီးကျောက်တို့သည် လိုအပ်ပစ္စည်းများဖြစ်ရာ ယင်းတို့ကို တင်သွင်းခြင်းဖြင့် အင်္ဂလန်မှာ လူသုံးပစ္စည်း ပြည့်စုံကာ ပို၍ သာယာဝပြောလာစရာရှိကြောင်း၊ ဇိမ်ခံပစ္စည်းများ တင်သွင်းလျှင်သာ တိုင်းပြည်အတွက် ထိခိုက်စေနိုင်ကြောင်း၊ အရှေ့အိန္ဒိယကုမ္ပဏီသည် စားသုံးရန်လိုအပ်သည့် ကုန်ပစ္စည်းများကိုသာ တင်သွင်းနေခြင်းဖြစ်ကြောင်း သူ ဖြေရှင်းသည်။

တစ်ဖန် အိန္ဒိယနှင့်ဆက်သွယ်သဖြင့် အင်္ဂလန်နိုင်ငံအဖို့ မိမိကုန်ပစ္စည်းများ တင်ပို့ရောင်းချရန် ဈေးကွက်တစ်ခု ရရှိကြောင်း၊ အိန္ဒိယနှင့် စပ်လျဉ်းသည့် နောက်ထပ်ကောင်းကွက်တစ်ခုက သူ့ပေါ်လာသဖြင့် တူရကီနှင့် ကုန်သွယ်ရန် မလိုအပ်တော့ခြင်းဖြစ်ကြောင်း၊ ယခု အိန္ဒိယမှရသည့် ကုန်ပစ္စည်းများကိုပင် တူရကီမှတင်သွင်းမည်ဆိုက အဆမတန် ပိုမို ကုန်ကျနိုင်ကြောင်း။

ထို့နောက် တစ်ဆင့်တက်ကာ မန်းက ...

ခိမ်ခံပစ္စည်းဆိုတာတွေ တင်သွင်းတိုင်းလည်း တိုင်းပြည်အတွက် အကျိုးမယုတ်ကြောင်း၊ တချို့ပစ္စည်းတွေမှာ ပြင်ပမှ သွင်းလာပြီးနောက် ဗြိတိသျှကုမ္ပဏီများက ထပ်ဆင့်မွမ်းမံကာ တိုင်းတစ်ပါးသို့ ပြန်လည်တင်ပို့ရောင်းချကြသည်ဖြစ်ရာ စာရင်းချုပ်သည့်အခါ တိုင်းပြည်ကပင် ဘဏ္ဍာငွေ အကျိုးအမြတ် ရရှိကြောင်း၊ အရှေ့အိန္ဒိယကုမ္ပဏီမှ တင်သွင်းသည့် ကုန်ပစ္စည်းများသည် များသောအားဖြင့် ဗြိတိသျှ ထုတ်ကုန်တင်ပို့သူတို့အတွက် လိုအပ်သော အရာများသာဖြစ်ကြောင်း ချေပပြောဆိုခဲ့ပေသည်။

❖

ပထမစာတမ်း၌ မန်းသည် အရှေ့အိန္ဒိယကုမ္ပဏီဘက်မှ ရှင်းလင်းချေပသူမျှသာ ဖြစ်ခဲ့သော်လည်း၊ သူ၏ စီးပွားရေးအယူအဆများကို ပြည့်ပြည့်ဝဝဖော်ပြနိုင်ခဲ့သည့် England's Treasure by Foreign Trade (ပြည်ပကုန်သွယ်ရေးမှ ရရှိလာမည့် အင်္ဂလန်၏ ဓနဥစ္စာ) အမည်ရှိ ဒုတိယစာတမ်း ထွက်လာပြီးနောက်တွင်ကား မန်းအား စီးပွားရေးပညာခေတ်ဦးကာလ၏ အရေးပါသော တွေးခေါ်ရှင်တစ်ဦးအဖြစ် အသိအမှတ်ပြုလာကြရသည်။

ဤဒုတိယစာတမ်းမှာ သူကွယ်လွန်ပြီး ၃ နှစ်အကြာ ၁၆၆၄ ခုနှစ်တွင်မှ ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သည်။

ဤကျမ်း၏ ထူးခြားချက်က ပထမစာတမ်းထက် သုံးသပ်မှု



နယ်ပယ် များစွာ ကျယ်ဝန်းသွားခြင်း ဖြစ်သည်။ အရှေ့အိန္ဒိယကုမ္ပဏီ၏ စီးပွားရေးတစ်ခုတည်းကိုသာ အာရုံမထားဘဲ တစ်နိုင်ငံလုံး၏ စီးပွားရေးကို သူ ကြည့်လာသည်။ ကုမ္ပဏီလုပ်ငန်း ကွက်ကွက်ကိုသာ မကြည့်ဘဲ ကုန်သွယ်မှုလုပ်ငန်းတစ်ရပ်လုံးကို သူ သုံးသပ်လာသည်။

တိုင်းပြည်တစ်ပြည်သည် ပြည်ပကုန်သွယ်မှုတွင် အသာရခြင်း (သို့မဟုတ်) ပိုငွေပြခြင်း (trade surplus) ဖြင့် ချမ်းသာလာနိုင်ကြောင်း အထောက်အထား သာဓကများဖြင့် သူ တင်ပြသည်။ ထို့ပြင် ပြည်ပကုန်သွယ်ရေးတွင် အသာရရှိစေသည့် အရင်းခံအကြောင်းအချက်များကို ရှင်းလင်းဖော်ပြပြီး ဗြိတိန်ပြည်၏ ပြည်ပကုန်သွယ်ရေး အခြေအနေ တိုးတက်ကောင်းမွန်စေလိုက ဦးဆောင်ပုဂ္ဂိုလ်များအနေနှင့် မည်သို့သော အစီအမံများ ချမှတ်ဆောင်ရွက်သင့်ကြောင်းကိုပါ သူ အကြံပြုသည်။

သူက၊ ကုန်သွယ်မှုတွင် သာခြင်း၊ နာခြင်း ဟူသည် တိုင်းပြည်တစ်ပြည်၏ ပို့ကုန်ပမာဏနှင့် သွင်းကုန်ပမာဏ ခြားနားချက်ကို ကြည့်၍ ပြောခြင်း ဖြစ်သည်။ ပို့ကုန်က သွင်းကုန်ထက်များသည့်အခါ ကုန်သွယ်ရေးတွင် အသာရသည် (ပိုငွေပြသည်) ဟုဆိုသည်။ မိမိ ဝယ်ယူတင်သွင်းရသည့် ပမာဏထက် သူတစ်ပါးထံ တင်ပို့ရောင်းချနိုင်သည့် ပမာဏက များသည့်အခါ မိမိ ပိုမိုတင်ပို့ထားသမျှအတွက်ကို တစ်ဖက်လူက ငွေကြေးဖြင့် ပေးချေရသည်။ ၁၇ ရာစုက ကုန်သွယ်မှုပြုကြရာ၌ ငွေကြေးအဖြစ် အသုံးပြုသော အရာမှာ ရွှေ၊ ငွေ စသည့် အဖိုးတန်သတ္တု (ရတနာ) များဖြစ်၏။ ထို့ကြောင့် တိုင်းတစ်ပါးသို့ မိမိက ပိုမိုရောင်းချနိုင်သည့်အခါ မိမိတိုင်းပြည်တွင် ရွှေငွေရတနာပြည့်တင်းကာ ကြွယ်ဝချမ်းသာလာမည်။ သည်ချမ်းသာမှုကို ပြည်ပကုန်သွယ်ရေးဖြင့်သာ ရရှိနိုင်သည်။ ပြည်တွင်း၌ ရောင်းဝယ်ဖောက်ကားကြသည့်အခါ တစ်ယောက်ထံမှ ရွှေငွေ တစ်ယောက်ထံရောက်၍ တချို့ကပိုချမ်းသာ တချို့ကပိုဆင်းရဲနိုင်သော်လည်း တိုင်းပြည်တစ်ခုလုံး၏ ဓနပမာဏမှာမူ သည်အတိုင်း မပြောင်းမလဲရှိနေမည်ဖြစ်သည်။ ထို့ကြောင့် အင်္ဂလန်ပြည် ချမ်းသာလိုသည်ဆိုက တိုင်းတစ်ပါးသို့ များများ တင်ပို့ရောင်းချနိုင်အောင် ပြည်တွင်းသုံးစွဲမှုကို လျှော့ရမည်။

ငြိမ်းချမ်းအောင် ထိန်းသိမ်းထားရမည်။ တိုင်းတစ်ပါးမှ တင်သွင်းရမှု နည်းနိုင်သမျှ နည်းရန် အတွက်လည်း ပြည်တွင်းဖြစ်ပစ္စည်းများ ဖူလုံနေအောင်၊ တိုင်းတစ်ပါး ကုန်ပစ္စည်းများအပေါ် မှီခိုရခြင်း မရှိအောင် ဆောင်ရွက်ရလိမ့်မည်၊ စသဖြင့် သူ တိုက်တွန်းသည်။

တစ်ဖန် ယင်းသို့ဆောင်ရွက်ခြင်းဖြင့် ကုန်သွယ်ရေး ပိုငွေပြကာ နိုင်ငံအတွင်း ငွေကြေး များပြားလာသည့်အခါ၌ ပြဿနာတစ်ခုတော့ ပေါ်လာနိုင်သည်။ ယင်းက ငွေရှင်လာလျှင် လူအများ ငြိမ်းချမ်းခြင်း မရှိတော့ဘဲ ပစ္စည်းပစ္စယများကို ပုံးပေါလအောင် ဝယ်ယူသုံးစွဲလာနိုင်ခြင်း ဖြစ်သည်။ သည်လိုဝယ်ကြလျှင် ပြည်တွင်းကုန်ပစ္စည်းတွေ ဈေးနှုန်းတက်လာမည်။ သည်အခါ ပြည်ပဈေးကွက်သို့ တင်ပို့ရောင်းချမည့်သူများ တွက်ခြေမကိုက် ဖြစ်မည်။ သည်အခါ ပြည်ပတင်ပို့မှု လျော့နည်းကာ ကုန်သွယ်ရေး အသာရမှုလည်း လျော့ကျသွားလိမ့်မည်။

သို့သော် သည်ပြဿနာကို အလွယ်တကူပင် ဖြေရှင်းနိုင်ကြောင်း မန်းကဆိုသည်။ သူပေးသည့်နည်းက ပြည်ပမှဝင်လာသည့် ကုန်သွယ်ရေး ပိုငွေများကို ငွေရင်းငွေနှီးအဖြစ် ထပ်မံအသုံးချဖို့ ဖြစ်သည်။ ရင်းနှီးမြှုပ်နှံမှု တိုးလာလျှင် ရောင်းကုန်ပစ္စည်းတွေ တိုးလာကာ ပြည်ပသို့ ပိုမိုတင်ပို့ ရောင်းချနိုင်စေမည်။ သည်နည်းဖြင့် တိုင်းပြည်၏စီးပွားရေး ဆင့်ကဲဆင့်ကဲ တိုးတက်လာနိုင်မည်၊ စသဖြင့် မန်းက တင်ပြခဲ့သည်။

❖

သည့်အပြင် ကုန်သွယ်ရေး အသာရရှိအောင် အားပေးမြှင့်တင် နိုင်သည့်နည်းလမ်းများ အကြောင်းကိုလည်း မန်းက ရှင်းလင်းတင်ပြသည်။

ပထမက ဈေးနှုန်းအပိုင်း ဖြစ်သည်။

တိုင်းပြည်အတွက် ဝင်ငွေအမြင့်ဆုံးရလိုလျှင် မိမိတို့ ထုတ်ကုန် ပစ္စည်းများကို အကောင်းဆုံးဈေးနှုန်း (တစ်နည်းဆိုသော် ရနိုင်သည့် အမြင့်ဆုံးဈေးနှုန်း) ဖြင့် ရောင်းနိုင်ဖို့လိုသည်။



သို့သော် ကုန်ပစ္စည်းတိုင်းကို အမြင့်ဆုံးဈေးနှင့် မရောင်းနိုင်။ ကမ္ဘာ့ဈေးကွက်တွင် အင်္ဂလန်တစ်ဦးတည်း၊ သို့မဟုတ် တစ်ဦးတည်းနီးပါး လက်ဝါးကြီးအုပ်ထားနိုင်သော ကုန်ပစ္စည်းများကိုသာ ရနိုင်သမျှ အမြင့်ဆုံး ဈေးတင်၍ ရောင်းနိုင်မည်။ လူတကာ ရောင်းချနေသည့် ပစ္စည်းမျိုးကိုမူ ကိုယ့်ဆီက များများဝယ်လာအောင် တတ်နိုင်သမျှ ဈေးအနိမ့်ဆုံးချ၍ ရောင်းရမည်။ မိမိလောက် ဈေးလျှော့မရောင်းနိုင်သဖြင့် ပြိုင်ဘက်တွေ ဈေးကွက်မှ ထွက်သွားကြပြီး မိမိသာ အဓိကရောင်းသူအဖြစ် ကျန်ရစ်သည့် အခါ ဈေးနှုန်းကို တွက်ခြေကိုက်အောင် တဖြည်းဖြည်း ပြန်တင်ရမည်။ သို့သော် တခြားသူတွေပါ ပြန်ဝင်လာလောက်အောင် အထိကား ဈေးနှုန်း မြင့်မသွားအောင် ထိန်းထားရမည်၊ စသဖြင့် သူ အကြံပြုသည်။

ဒုတိယ မန်း တင်ပြသည်က ကုန်ပစ္စည်းအရည်အသွေး မြင့်မားရေး ဖြစ်သည်။

ဗြိတိန်လုပ် ကုန်ပစ္စည်းများက တိုင်းတစ်ပါးလုပ် အလားတူ ကုန်ပစ္စည်းတွေထက် အရည်အသွေး ကောင်းမွန်မည်ဆိုလျှင် ကမ္ဘာ့ ဈေးကွက်မှာ ဗြိတိသျှပစ္စည်းတွေ မျက်နှာပန်းလှမည်။ အရောင်း တွင်ကျယ်မည်။ သည်အတွက် အစိုးရက ကုန်ပစ္စည်း ထုတ်လုပ်သူများကို စနစ်တကျ ကြပ်မတ်ပေးသင့်သည်။ သည်လို ကြပ်မတ်နိုင်ရန်အတွက် အစိုးရအား ကုန်သွယ်မှုဆိုင်ရာနှင့် စက်မှုလုပ်ငန်းဆိုင်ရာ စည်းမျဉ်း စည်းကမ်းများ ချမှတ်ရေးတွင် ထိထိရောက်ရောက် အထောက်အကူ ပေးနိုင်မည့် ကုန်သွယ်ရေးကောင်စီတစ်ရပ် ဖွဲ့စည်းသင့်သည်။ ဗြိတိန်လုပ် ကုန်ပစ္စည်းတွေ အစဉ်အရည်အသွေး မြင့်မားနေရန်အတွက် စည်းမျဉ်း စည်းကမ်းပိုင်းတွင် တိတိကျကျ ဆောင်ရွက်ဖို့လိုသည်၊ စသဖြင့် သူက တိုက်တွန်းပြောဆိုသည်။

တတိယ၊

နိုင်ငံ၏ အခွန်ကောက်ခံပုံ နည်းစနစ်ကလည်း ကုန်သွယ်ရေး ပိုငွေပြရေး (သွင်းကုန်နည်းပြီး ပို့ကုန်များရေး) ကို အထောက်အကူပြုနိုင် ကြောင်း သူ တင်ပြသည်။

တိုင်းပြည်အတွက် အကျိုးရှိသည်ဖြစ်စေ မရှိသည်ဖြစ်စေ ပြည်ပမှ ဇိမ်ခံပစ္စည်းများ ဝယ်ယူတင်သွင်းလိုသည့် ကုမ္ပဏီတချို့တော့ မုချရှိနေဦးမည်ဖြစ်ရာ၊ သည်ကိစ္စတွင် အစိုးရက နိုင်ငံ့လိုအပ်ချက်နှင့် တစ်ဦးတစ်ဖွဲ့၏ ဆန္ဒတို့ကို ညှိနှိုင်းချိန်ဆပေးသင့်သည်။ အခွန်အတုတ်ကောက်ခံမှု စနစ်ကို သည်နေရာ၌ ကောင်းစွာအသုံးချနိုင်သည်၊ ဟူ၍ သူကဆိုသည်။ ထို့နောက် ပြည်ပသို့ တင်ပို့ရောင်းချသူများကို အားပေးမြှင့်တင်ရန်အတွက် ပို့ကုန်ပေါ်တွင် အခွန်ကောက်ခံမှု လျှော့ချသင့်ကြောင်း၊ ပြည်တွင်းသို့ တင်သွင်းလာပြီး ပြည်တွင်း၌ ထပ်ဆင့်မွမ်းမံကာ ပြည်ပသို့ ပြန်လည်ရောင်းချမည့် ပစ္စည်းမျိုးကိုလည်း အခွန်နည်းနည်းသာ ကောက်ခံပြီး၊ ပြည်တွင်း၌ စားသုံးကြရုံသက်သက်အတွက် တင်သွင်းလာသည့် ပစ္စည်းမျိုးကိုမူ အခွန် မြင့်မြင့်မားမား ကောက်ခံသင့်ကြောင်း သူ အကြံပြုသည်။

ယစ်မျိုးခွန် (excise)၊ ရောင်းခွန် (sales tax) များ ကောက်ခံသည့် ကိစ္စမှာ ပြဿနာမရှိဟု သူ သဘောထားသည်။ အကြောင်းမူ ၎င်းတို့ကြောင့် အဝတ်အထည်နှင့် စားသောက်ကုန်ဈေးနှုန်းများ တက်လာနိုင်သော်လည်း တစ်ဖက်တွင် လုပ်ခများလည်း လိုက်လျောညီထွေ တိုးမြင့်လာမည်ဖြစ်ရာ ၎င်းအခွန်တာဝန်ကို လုပ်ငန်းရှင်များသာ ခံကြရမည့်သဘောဖြစ်ကြောင်း သူကဆိုသည်။

သည်ကိစ္စနှင့်စပ်လျဉ်း၍ သူ အကျယ်မဖွင့်ခဲ့သော်လည်း သူ့ခေါင်းထဲတွင် နောက်လူတို့ ပြောလာကြမည့် 'နေနိုင်ရုံလုပ်ခသီအိုရီ' (subsistance theory of wages) နှင့်ဆင်တူသည့် အမြင်မျိုး ရှိနေခဲ့ပုံရသည်ဟု မှန်းဆနိုင်သည်။

အခြေခံပစ္စည်းများ ဈေးတက်သော်လည်း တစ်ဖက်မှ လုပ်ခလည်း တက်ပါက အလုပ်သမားများ၏ လူနေမှုအဆင့်အတန်းမှာ ပုံမှန်အတိုင်း ရှိနေမည်ဖြစ်ကြောင်း၊ တစ်ဖန် ၎င်းအခွန်များကို တာဝန်ယူရမည့် လုပ်ငန်းရှင် လူချမ်းသာများ အနေနှင့် ရွေးချယ်နိုင်သည့် နည်းလမ်းနှစ်ရပ်ရှိကြောင်း၊ တစ်နည်းမှာ အလုပ်ကို ပိုမိုတိုးတက်လုပ်ကိုင်ခြင်းဖြစ်၍ နောက်တစ်နည်းမှာ ဇိမ်ခံပစ္စည်းများ လျှော့ပေါ့သုံးစွဲသောနည်းဖြစ်ကြောင်း၊



နည်းလမ်းနှစ်ရပ်လုံးပင် တိုင်းပြည်အတွက် အကျိုးပြုကြောင်း သူက သုံးသပ်ပြသည်။

အခွန်နှင့်စပ်လျဉ်း၍ မန်း၏ သဘောထားတစ်ခုက အခွန်များများကောက်ခံမှုကို အားမပေးလိုခြင်း ဖြစ်သည်။ အခွန်ငွေတွေ အများအပြားကောက်ခံကာ အရေးမကြီး အသုံးမဝင်သည့် ကိစ္စများ၌ သုံးဖြုန်းပစ်ခြင်းကို သူ မလိုလားပေ။ အစိုးရအနေနှင့် အခွန်ဘဏ္ဍာငွေများကို တိုင်းတစ်ပါးနှင့် စစ်မက်ဖြစ်ပွားခြင်း စသည်တို့ကဲ့သို့ နိုင်ငံ့အရေးပေါ်ကိစ္စများတွင် အသုံးပြုရန်သာ စုဆောင်းထားသင့်သည်၊ သည်လို သိမ်းဆည်းရာ၌လည်း တိုင်းပြည်၏ ကုန်ထုတ်လုပ်ငန်းများအတွက် ငွေအရင်းအနှီး လျော့ပါးအားနည်းသွားလောက်အောင်အထိ များများစားစားကြီး မသိမ်းဆည်းသင့်ဟု သူ ယူဆသည်။

❖

မန်းသည်လည်းကောင်း၊ သူ ကိုင်စွဲသည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒ (mercantilism) သည်လည်းကောင်း၊ ၁၈ ရာစု ၁၉ ရာစုများရောက်သည့်အခါ အကြီးအကျယ် ဝေဖန်ထိုးနှက်ခြင်း ခံရသည်။

စကော့တွေးခေါ်ရှင် ဒေးဗစ်ဟျူးမ် (David Hume ၁၇၁၁-၇၆) က ကုန်သွယ်ရေးမညီမျှမှုများဟူသည် အချိန်တန်သော် သူ့အလိုအလျောက် ပြန်လည်ထိန်းညှိမျှတသွားမည့် အရာမျိုးသာဖြစ်ကြောင်း ရှင်းလင်းပြောဆိုသည်။ ပြင်သစ်စီးပွားရေးပညာရှင် ဖရွန်ဆွာကင်နေး (François Quesnay ၁၆၉၄-၁၇၇၄) နှင့် စကော့ စီးပွားရေးတွေးခေါ်ရှင်ကြီး အက်ဒမ်စမစ် (Adam Smith ၁၇၂၃-၉၀) တို့ကလည်း ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒကို အပြင်းအထန် ဝေဖန်သည်။ လုပ်ငန်းလောက၌ အစိုးရ ထိန်းချုပ်ကန့်သတ်မှု လျော့နည်းလေ ပြည်တွင်းကုန်ထုတ်လုပ်မှု တိုးတက်လေသာဖြစ်ကြောင်း ၎င်းတို့က အဆိုပြုကြသည်။ ဗြိတိသျှစီးပွားရေးတွေးခေါ်ရှင် ဒေးဗစ်ရီကာဒို (David Ricardo ၁၇၇၂-၁၈၂၃) ကလည်း ကုန်သွယ်မှု

လွတ်လပ်ခွင့်ရှိဖို့ အရေးကြီးကြောင်း အကြိတ်အနယ် တင်ပြသည်။

ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒကို ဆန့်ကျင်သည့် ၎င်းပုဂ္ဂိုလ်တို့၏ အယူအဆများကို ထိုကာလ စီးပွားရေးပညာရှင်အများစုတို့ နှစ်သက်လက်ခံခဲ့ကြသည်။

၂၀ ရာစုနှစ်အတွင်းမှ ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒ တစ်နည်းတစ်ဖုံ ပြန်လည်ဆန်းသစ်မှု ရှိခဲ့သည်။ အင်္ဂလိပ်စီးပွားရေးပါရဂူ ဂျွန်မေးနတ်ကိန်း(စ) (John Maynard Keynes ၁၈၈၃–၁၉၄၆) က ကုန်သွယ်ရေး ပိုငွေပြသည့်အခါ ဝယ်လိုအားတိုးတက်လာပြီး ယင်းကြောင့် စီးပွားရေး ဖွံ့ဖြိုးလာနိုင်ကြောင်း ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီတို့ သဘောပေါက်ခဲ့ခြင်းအတွက် ချီးကျူးပြောဆိုသည်။ ကိန်း(စ)၏ 'အလုပ်အကိုင်၊ အတိုးနှင့် ငွေကြေး တို့ဆိုင်ရာ အထွေထွေသီအိုရီ' (The General Theory of Employment, Interest and Money) ကျမ်း၊ အခန်း (၂၃) တွင် 'ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒနှင့် စပ်လျဉ်းသည့် မှတ်ချက်များ' ဟုခေါင်းစဉ်တပ်ကာ နိုင်ငံများအနေနှင့် ကုန်သွယ်ရေး အသာရခြင်းဖြင့် မိမိနိုင်ငံသားတို့အတွက် အလုပ်အကိုင်များ ဝင်ငွေများ ဖန်တီးပေးနိုင်ကြောင်း၊ ပြည်ပမှ ဝင်လာသော ငွေကြောင့် လုပ်ငန်းများအတွက် ငွေရင်းငွေနှီး တိုးတက်လာစေကြောင်း မန်းတို့ သိမြင်ခဲ့သည့် အချက်ကို အလေးအနက် ဖော်ပြခဲ့သည်။

မန်းတို့၏ အယူအဆကို တကယ်လက်တွေ့ထိရောက်စွာ အသုံးချနိုင်ကြောင်း သာဓကတစ်ခု အာရှတိုက်တွင် လာ၍တွေ့ရသည်။ ယင်းက ဂျပန်နိုင်ငံ ဖြစ်သည်။ ၂၀ ရာစု ဒုတိယပိုင်းကာလအတွင်း ဂျပန့်စီးပွားရေး တစ်ဟုန်ထိုး တိုးတက်အောင် မြှင့်တင်ပေးခဲ့သည့် ပေါ်လစီများသည် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒတွင် အခြေခံတည်ဆောက်ခဲ့ခြင်း ဟုတ်မဟုတ် အတပ် မပြောနိုင်သော်လည်း စိတ်ဓာတ်ပိုင်း သဘောထားပိုင်းတွင်ကား တူညီနေကြောင်း တွေ့ရသည်။ ဥပမာ၊ ဂျပန်အစိုးရက ဂျပန်ပြည်လုပ်ကုန်ပစ္စည်းများ၏ အရည်အသွေးကို မြင့်မြင့်မားမား မြှင့်တင်သတ်မှတ်ပေးခြင်းမျိုး ဖြစ်သည်။ ၎င်းသတ်မှတ်ချက်များအတိုင်း တိတိကျကျ



လုပ်ဆောင်ကြသဖြင့် ဂျပန်ပစ္စည်းတွေ အရည်အသွေး မြင့်မားသည်ဟု ပြည်ပဈေးကွက်တွင် အသိအမှတ်ပြုခံလာရသည်။ ထို့ပြင် သွင်းကုန်ပစ္စည်းများအပေါ် အကောက်ခွန် တိုးမြှင့်ကောက်ခံခြင်း အပါအဝင် သွင်းကုန်တားဆီးကာကွယ်ရေး နည်းလမ်းမျိုးစုံ ကျင့်သုံးခြင်း၊ ဂျပန်ထုတ်ကုန်များ ပြည်ပသို့ တိုးတက်တင်ပို့ရောင်းချဖြစ်အောင် အားပေးကူညီခြင်း စသည်တို့ကလည်း ဂျပန့်စီးပွားရေး အောင်မြင်မှုအတွက် အထောက်အကူပြုခဲ့သည်။

❖

မန်းကား ယနေ့ခေတ် စီးပွားရေးပညာရှင်တို့ မြင့်မြင့်မားမား အလေးထားကြသည့် ပုဂ္ဂိုလ်များထဲတွင် မပါဝင်တော့ပါ။

သို့သော်၊

ပြည်ပကုန်သွယ်ရေးတွင် မိမိတိုင်းပြည်က အသာရရှိရန်အတွက် အစိုးရက ပေါ်လစီချမှတ်ဆောင်ရွက်သင့်သည် ဟူသောအယူအဆနှင့် ပြည်ပတင်ပို့မှုကို တိုးမြှင့်ခြင်းအားဖြင့် နိုင်ငံ့စီးပွားရေးဖွံ့ဖြိုးတိုးတက်လာနိုင်သည် ဟူသောအယူအဆနှစ်ရပ်ကား စီးပွားရေးအတွေးအခေါ်နယ်ပယ်သို့ မန်း၏ ဖြည့်ဆည်းချက်များအဖြစ် ထင်ရှားတွင်ကျန်ရစ်ပေသည်။

# ဝီလျံပက်တီ
(၁၆၂၃ – ၈၇)



ဝီလျံပက်တီ (William Petty) က စီးပွားရေး အကြောင်းရပ်များကို စနစ်တကျ စဉ်းစားသုံးသပ်ကာ စာအုပ်စာတမ်းများ ရေးသားသူ၊ စီးပွားရေးဆိုင်ရာ သဘောတရားများကို လက်တွေ့လောက၌ စမ်းသပ်သုံးစွဲကြည့်သူ ကနဦးပုဂ္ဂိုလ်တစ်ဦး ဖြစ်သည်။

သူ့ရေးသားချက်များတွင် ငှားခ (rent) နှင့် အခွန်ကောက်ခြင်း (taxation) တို့၏ သဘောသဘာဝများအကြောင်း ဆစ်ပိုင်းဝေဖန်တင်ပြချက်များ ပါဝင်သည်။ သို့သော် ပက်တီအား အများဆုံးသိကြသည်က စီးပွားရေးပညာကို စာရင်းဇယားများ ကိန်းဂဏန်းများနှင့် ဖော်ပြသည့် သိပ္ပံနည်းကျပညာရပ်တစ်ခု ဖြစ်လာအောင် အားထုတ်ခဲ့ခြင်းအတွက် ဖြစ်၏။ ယင်းသို့ စနစ်တကျ တွက်ချက်ဖော်ပြသည့် နည်းနာကို 'နိုင်ငံရေးဂဏန်းသင်္ချာ' (political arithmetic) ဟု ပက်တီက ခေါ်ဝေါ်ခဲ့ပါသည်။

❖

ဝီလျံပက်တီကို ၁၆၂၃ ခုနှစ်တွင် အင်္ဂလန်ပြည်တောင်ပိုင်း တက်(စ) (Test) မြစ်ကမ်းပေါ်ရှိ ဟင့်(ပ)ရှိုင်ယာ (Hampshire) ဈေးမြို့ကလေးတွင် မွေးဖွားသည်။ မိဘများမှာ ဆင်းရဲသည်။ ထို့ကြောင့် ထိုခေတ်က အောက်ခြေလူတန်းစား သားသမီးများ တက်ရသည့် အဆင့်နိမ့်ကျောင်းမျိုးမှာ နေခဲ့ရသည်။ သို့သော် သူက သိချင်တတ်ချင်စိတ်များသူဖြစ်ရာ ကျောင်းသင်ခန်းစာနှင့် မတင်းတိမ်၊ အခြား ဝိဇ္ဇာနှင့်သိပ္ပံ ဘာသာရပ်များဆိုင်ရာ စာအုပ်စာတမ်းတို့ကို ငယ်ငယ်ရွယ်ရွယ်မှာပင် သူ လက်လှမ်းမီသလောက် လိုက်လံဖတ်ရှုခဲ့သည်။

အသက်ဆယ့်သုံးလေးနှစ်လောက်တွင် ကျောင်းထွက်ပြီး အင်္ဂလိပ်ရေလက်ကြားကို ကူးသန်းနေသည့် သင်္ဘောတစ်စီး၌ လက်တိုလက်တောင်း သင်္ဘောသားလေးအဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ သို့သော် အလုပ်ဝင်၍ တစ်နှစ်မပြည့်မီ ခြေထောက်ကျိုးရာ အသုံးမဝင်တော့သော သူ့အား အလုပ်ရှင်က ပြင်သစ်ဘက်ကမ်းမှာ ထားပစ်ခဲ့သည်။

ပက်တီလည်း ပြင်သစ်ပြည်မှာပင် ဆက်နေကာ ကော်(န) (Caen) မြို့ရှိ ဂျေဆွိုက်ကောလိပ် (Jesuit College) သို့ တက်ရောက်ရန် ဆုံးဖြတ်ခဲ့သည်။

၁၆၄၀ ခုနှစ်တွင် ကော်(န)မှ ထွက်ခွာပြီး၊ ရေတပ်ထဲတွင် ၃ နှစ်မျှ အမှုထမ်းသည်။ ထို့နောက်မှ ဟော်လန်ပြည်သို့သွားကာ ခန္ဓာဗေဒနှင့် ဆေးပညာဘာသာရပ်များကို သင်ယူသည်။

၁၆၄၆ ခုနှစ်တွင် အင်္ဂလန်သို့ ပြန်လာပြီး အောက်စဖို့ဒ်တက္ကသိုလ်၌ ဆေးပညာ ဆက်လက်ဆည်းပူးသည်။ ဆေးပညာဘွဲ့ ရပြီးနောက် အောက်စဖို့ဒ်မှာပင် ခန္ဓာဗေဒဆရာအဖြစ် ခန့်ထားခြင်း ခံရသည်။ သို့သော် ဆရာဖြစ်စကာလမှာပင် သင်ကြားရေးအလုပ်က မိမိနှင့် မကိုက်ညီဟု သဘောရကာ အောက်စဖို့ဒ်မှထွက်ပြီး ကုသရေးဘက်သို့ ရွှေ့ပြောင်းခဲ့ရာ အိုင်းရစ်စစ်တပ်တွင် ဆေးမှူးချုပ် ဖြစ်လာသည်။ တစ်ချိန်တည်းတွင် ပက်တီသည် အိုင်ယာလန်၏ မြေတိုင်းအရာရှိချုပ် အဖြစ်လည်း ဆောင်ရွက်ခွင့်ရခဲ့ရာ ၎င်းအလုပ်မှ ရရှိသည့် အတွေ့အကြုံ ဗဟုသုတများကို အသုံးချပြီး



မြေယာဖြင့် ကြွယ်ဝသူတစ်ဦး ဖြစ်လာအောင် လုပ်ကိုင်နိုင်ခဲ့သည်။

၁၆၆၀ ကျော်နှစ်များအတွင်း လန်ဒန်၌ ပညာရှင်အသိုင်းအဝိုင်းက သဘာဝရေးရာအသိပညာများ ဖွံ့ဖြိုးတိုးတက်စေရန် ဟူသော ရည်ရွယ်ချက်ဖြင့် တော်ဝင်အသင်း (Royal Society) ကို စည်းရုံးထူထောင်ကြရာ ဝိုင်းဝန်း ကမကထပြုကြသူများထဲတွင် ပက်တီလည်း ပါဝင်ခဲ့သည်။ ထိုစဉ်က တော်ဝင်အသင်း၏ အစီအစဉ်မှာ အင်္ဂလိပ်တွေးခေါ်ရှင် ဖရန်စစ်ဘေကွန် (Francis Bacon ၁၅၆၁ – ၁၆၂၆) ၏ သိပ္ပံနည်းစနစ် (scientific method) အတိုင်း စနစ်တကျရှုမှတ်ခြင်း (observation) နှင့် လက်တွေ့ စမ်းသပ်ခြင်း (experimentation) တို့ကို အသုံးပြုကာ သဘာဝလောကကို လည်းကောင်း၊ လူ့အဖွဲ့အစည်းကိုလည်းကောင်း စူးစမ်းလေ့လာကြရန် ဖြစ်သည်။

❖

ပက်တီ၏ နိုင်ငံရေးဂဏန်းသင်္ချာမှာ တော်ဝင်အသင်းက ဖော်ဆောင်လျက်ရှိသည့် သိပ္ပံနည်းကျသုတေသန အစီအစဉ်ကို စီးပွားရေးရာဘက်တွင် သုံးစွဲကြည့်ရာမှ ပေါ်ပေါက်လာခြင်း ဖြစ်၏။

သူရေးသားသည့် Political Arithmetic စာတမ်း (၁၆၇၁) တွင် ပက်တီက သူ၏ရည်ရွယ်ချက်မှာ ထိုစဉ်က အများအယူအဆဖြစ်သည့် အင်္ဂလန်ပြည်စီးပွားရေး ကျဆင်းနေပြီ၊ ကုန်သွယ်ရေးဘက်တွင်လည်း ဆုတ်ယုတ်နေသည် ဟူသောအချက်များ မှားယွင်းကြောင်း သက်သေပြရန် ဖြစ်သည်ဟု ကြေညာခဲ့သည်။ သူက အင်္ဂလန်သည် စီးပွားမကျရုံမက ပို၍ပင် တက်နေသေးသည် ဟုဆိုသည်။ ထို့နောက် သည်အချက်ကို ကိန်းဂဏန်းနှင့်တကွ အခိုင်အမာပြနိုင်ရန် သူကြိုးစားသည်။

သို့သော် ၁၇ ရာစု အင်္ဂလန်ပြည်တွင် စီးပွားရေး သတင်းအချက်အလက်များကို ပုံမှန်ထုတ်ပြန်နေသည့် ဌာနဆိုင်ရာအဖွဲ့အစည်းလည်း မရှိ၊ သတင်းစာများကလည်း ယခုခေတ်ကဲ့သို့ စီးပွားရေးနှင့် ငွေကြေးဆိုင်ရာ

စာရင်းဇယားများ ကိန်းဂဏန်းများ ဖော်ပြသည့် အလေ့အထ မရှိသေးရာ စနစ်တကျ တွက်ချက်ပြလိုသည့် ပက်တီမှာ ကိန်းဂဏန်း အချက်အလက်များကို ကိုယ်တိုင် ရှာဖွေပြုစုသည့်အဆင့်မှ စတင်ရသောသဘော ရှိခဲ့သည်။

ပက်တီက စီးပွားရေးရာနှင့် စပ်လျဉ်း၍ လူတစ်ဦးချင်းတို့၏ အတွေးအထင်များ၊ အကြိုက်များ၊ ဖြစ်စေချင်သည် မဖြစ်စေချင်သည်များ ရောစွက်နေသည့် ဝေဖန်သုံးသပ်မှုမျိုးကို လက်မခံ။ နိုင်ငံရေးဂဏန်းသချာ၏ အလုပ်မှာ မျက်မြင်ဒိဋ္ဌ အရှိပကတိ ကိစ္စများကို ခိုင်မာတိကျသော ကိန်းဂဏန်းများ အတိုင်းအထွာ အချိန်အတွယ်များအားဖြင့် ဆုပ်ဆုပ်ကိုင်ကိုင် တင်ပြရန်ပင်ဖြစ်ကြောင်း ပြောဆိုခဲ့သည်။ သူက စီးပွားရေးဆိုင်ရာနှင့် လူမှုရေးဆိုင်ရာ ဖြစ်စဉ်များကို ပမာဏခွဲခြင်းနည်းစနစ်များ (quantitative methods) ဖြင့် ပိုင်းခြားစိတ်ဖြာကြည့်သည်။ ထိုဖြစ်စဉ်တို့၏ အရှိပကတိ အခြေအနေကို ကိန်းဂဏန်းများ အတိုင်းအထွာများအားဖြင့် တိကျစွာ ဖော်ပြရန်ဖြစ်ပြီး၊ နောက်တစ်ဆင့်တွင် ယင်းကိန်းဂဏန်း အချက်အလက်ကို အခြေတည်ကာ ယင်းဖြစ်စဉ်များ သို့မဟုတ် အရှိပကတိလောက၏ သဘောသဘာဝများကို ကောက်ချက်ချ ပြောဆိုရန် ဖြစ်သည်။

ဥပမာပြောရသော် ကိန်းဂဏန်းအချက်အလက်တို့၏ ပြညွှန်ချက်အရ A နှင့် B တို့သည် အတူတကွ တိုးမြင့်ကြသည်ဟု တွေ့ရှိရသည်ဆိုပါစို့။ ၎င်းအချက်မှနေ၍ ပက်တီက A တိုးမြင့်စေလိုလျှင် B ကိုလည်း တိုးမြင့်ပေးရမည်။ B တိုးမြင့်စေလိုလျှင် A ကိုလည်း တိုးမြှင့်ပေးရမည်ဟူသော ကောက်ချက်မျိုးချမည် ဖြစ်သည်။

နိုင်ငံရေးဂဏန်းသချာက တင်လာသည့် အထင်ရှားဆုံး အချက်သည် စီးပွားရေးရာ ခွဲခြမ်းစိတ်ဖြာရာ၌ လူတစ်ဦးချင်းတို့၏ ပင်ကို အခွဲအလမ်းများ အတွေးအမြင်အယူအဆများကို ဘေးဖယ်ထားရေး ဖြစ်သည်။ ဤနည်းအားဖြင့် စီးပွားရေးကိစ္စရပ်များကို ဓမ္မဓိဋ္ဌာန်ကျစွာ စူးစမ်းလေ့လာနိုင်မည်ဟု ပက်တီက ယုံကြည်ခဲ့သည်။

စင်စစ် သိပ္ပံနည်း သို့မဟုတ် လက်တွေ့စမ်းသပ်သည့်နည်းမျိုးကို စီးပွားရေးပညာတွင် အသုံးပြုဖို့ မလွယ်ကြောင်း အများသိကြပါသည်။



ဥပမာ ဆေးပညာ၌ ဆေးဝါးသစ်တစ်ခု၏ အာနိသင်ကို စမ်းသပ်လိုလျှင် အခြေအနေတူသည့် အစမ်းသပ်ခံ လူ သို့မဟုတ် တိရစ္ဆာန်များကို နှစ်စုခွဲထားပြီး တစ်စုကို ၎င်းဆေးသစ်အား တကယ်ပေးကာ ကျန်တစ်ခုကို ဆေးမပေးဘဲထားခြင်း၊ သို့မဟုတ် မည်သည့်အာနိသင်မျှ မရှိသည့် အခြားပစ္စည်းတစ်ခုခုကို ၎င်းဆေးသစ်နှင့် ပုံစံတူပြု၍ ပေးခြင်းမျိုးဖြစ်၏။ ဒုတိယအစုမှာ ဆေးသစ်အား တကယ်သုံးစွဲခဲ့သည့် ပထမအစုမှ စမ်းသပ်ခံများ၌ ဆေးအာနိသင် မည်မျှ သက်ရောက်သည် မသက်ရောက်သည်ကို နှိုင်းယှဉ်တွက်ချက်နိုင်ရန်အတွက် အနှိုင်းခံများအဖြစ် သုံးခြင်းဖြစ်၏။

ဤစမ်းသပ်နည်းမျိုးကို အသုံးပြုကာ ဆေး၏အာနိသင် အပြင်းအပျော့နှင့် ကောင်းကျိုး ဆိုးကျိုးတို့ကို တိတိကျကျ တွက်ချက်သိရှိနိုင်ကြသည်။ အခြားသိပ္ပံပညာရပ်များ၌လည်း ၎င်းပုံစံစမ်းသပ်နည်းများက အလွန် ထိရောက်အသုံးဝင်ပါသည်။

သို့သော်စီးပွားရေးပညာ၌မူ ယင်းကဲ့သို့အစမ်းခံနှင့် အနှိုင်းခံ (test and control) ဟူ၍ နှစ်စုခွဲထားပြီး လက်တွေ့စမ်းသပ်နိုင်သည့် အနေအထားမျိုး ရဖို့ရာ မလွယ်ပါ။ အကြောင်းမူ စီးပွားရေးအနေအထားချင်းတူညီသည့် လူအုပ်စုနှစ်ခု သို့မဟုတ် မြို့နှစ်မြို့ သို့မဟုတ် တိုင်းပြည်နှစ်ပြည် ဦးစွာရှာထားပြီး၊ တစ်ခုတွင် စီးပွားရေးဆိုင်ရာ အပြောင်းအလဲတစ်ခု စမ်းသပ်လုပ်ကိုင်ကြည့်၍ နောက်တစ်ခု၌ မူလအနေအထားအတိုင်း မပြောင်းမလဲ တည်နေအောင် ထိန်းထားကာ၊ သတ်မှတ်ထားသည့် အချိန်ကာလ ရောက်သောအခါ ၎င်းတို့၏ စီးပွားရေးအခြေအနေကို နှိုင်းယှဉ်သုံးသပ်လျက် ယင်းမှ ကောက်ချက်ထုတ်ယူရမည့် သဘောရှိသောကြောင့်ဖြစ်သည်။

သို့သော်နိုင်ငံရေးဂဏန်းသချာသမားက သည်အခက်အခဲတစ်ခုရှိနေ၍ဘော့ လက်လျှော့မသွားပါ။ တိကျသေချာသော လက်တွေ့စမ်းသပ်မှုမျိုး မပြုလုပ်နိုင်သဖြင့် ခိုင်မာမှုအားလျော့သွားခြင်းကို ကိန်းဂဏန်း အချက်အလက်များအား ခွဲခြမ်းစိတ်စစ်သော အလုပ် (statistical analysis) ဖြင့် အစားနည်းတစ်ဖုံ ထေ၍ဖြည့်၍ ရနိုင်သည် ဟုယူဆသည်။

ဥပမာ၊ လန်ဒန်သည် ချမ်းသာကြွယ်ဝသောမြို့ဖြစ်ကြောင်း၊ လန်ဒန်၏စီးပွားရေးသည် ကြီးထွားတိုးတက်လျက်ရှိကြောင်း သက်သေထူနိုင်ရန်အတွက် ပက်တီက သူ ရရှိနိုင်သမျှကိန်းဂဏန်းများကို အခြေတည်ကာ လန်ဒန်နှင့်ပါရီကို နှိုင်းယှဉ်ပြသည်။

လန်ဒန်မြို့နှင့် ပါရီမြို့တို့၏ လူဦးရေစာရင်းများ သူ့မှာ မရှိပါ။ သို့သော် တစ်နှစ်အတွင်း သေသူဦးရေစာရင်း သို့မဟုတ် သုသာန်၌ မြှုပ်နှံသင်္ဂြိုဟ်သူဦးရေ စာရင်းများတော့ သူ ရှာ၍ရသည်။ သို့နှင့်၊ ဦးစွာ လန်ဒန်နှင့် ပါရီမှာ ပြီးခဲ့သည့် ၃ နှစ်အတွင်း မြှုပ်နှံသင်္ဂြိုဟ်သူစာရင်းများကို ရယူပြီး တစ်နှစ်စီအတွက် ပျမ်းမျှကို တွက်ကြည့်လိုက်သည့်အခါ လန်ဒန်၌ သင်္ဂြိုဟ်သူ ၂၂၃၃၇ ဦး ရှိပြီး ပါရီ၌ ၁၉၈၈၇ ဦး ရှိသဖြင့် လန်ဒန်က သေသူဦးရေ ပိုကြောင်း သိရသည်။

ထို့ကြောင့် အကယ်၍ လူသေပျောက်သည့်နှုန်းထားမှာ လန်ဒန်နှင့် ပါရီ၌ အထူးတလည် ခြားနားနေစရာ အကြောင်းမရှိဟု လက်ခံမည်ဆိုပါက လန်ဒန်၌ သေသူဦးရေ များခြင်းသည် လူဦးရေများခြင်းကြောင့်ဟု မှတ်ယူနိုင်ပြီး ယင်းနှင့်တစ်ဆက်တည်းပင် လန်ဒန်သည် ပါရီထက် ချမ်းသာကြွယ်ဝကြောင်း ကောက်ချက်ချနိုင်သည်ဟု ပက်တီကဆိုပါသည်။

ဤတွင် လူဦးရေနှင့်စပ်လျဉ်းသည့် ထိုစဉ်က အမြင်တစ်ရပ်ကို ဖော်ပြရန် လိုပါသည်။ ယင်းက တိုင်းပြည်၏ ဓနဥစ္စာ အနည်းအများသည် ယင်းတိုင်းပြည်၏ လူဦးရေ အနည်းအများပေါ်တွင် မူတည်သည်ဟူသော အမြင် ဖြစ်ပါသည်။ ယနေ့ခေတ်တွင် ဆင်းရဲသောတိုင်းပြည် အများအပြားပင် လူနေထူထပ်ကျပ်သိပ်နေပြီး လူဦးရေ တိုးပွားနှုန်းကလည်း ချမ်းသာသော တိုင်းပြည်များမှာထက် အဆမတန် မြန်ဆန်လျက်ရှိသည်ကို မျက်မြင်ဒိဋ္ဌ တွေ့နေရရာ၊ ပက်တီတို့ခေတ်က အမြင်ကို နားလည်နိုင်ရန် ခဲယဉ်းနေမည် ဖြစ်သည်။ သို့သော် သူတို့ခေတ်လူများ အဖို့မူ ကျိုးကြောင်းသင့်မြတ်သော အမြင်တစ်ရပ်သာ ဖြစ်ပါသည်။ အကြောင်းက သူတို့၏ ၁၇ ရာစု အင်္ဂလန်၊ ဥရောပနှင့် ယနေ့ကမ္ဘာ့နိုင်ငံများ ကွာခြားကြခြင်းကြောင့် ဖြစ်ပါသည်။



ပဋိသန္ဓေတားဆေးများ တားဆီးသည့်နည်းစနစ်နှင့် အစီအမံများ မပေါ်ပေါက်သေးသည့် ထိုခေတ်ကာလက တိုင်းပြည်တစ်ပြည်၏ လူဦးရေသည်လည်းကောင်း၊ လူဦးရေတိုးပွားနှုန်းသည်လည်းကောင်း၊ ကလေးအသေအပျောက် နည်းပါးခြင်းပေါ်တွင် မူတည်ခဲ့သည်။ တစ်ဖန် မွေးလာသော ကလေးတစ်ယောက် အဖတ်တင် မတင်ဟူသည် မိဘက ဂရုတစိုက် ကျွေးမွေးသုတ်သင်မှု ပြုမပြု သို့မဟုတ် မိဘတို့ မည်မျှပြည့်စုံကြွယ်ဝသလဲ ဟူသော အချက်ပေါ်တွင် များစွာမူတည်ပြန်ရာ ထိုသဘောအရကြည့်လျှင် ကလေးအရေအတွက် တိုးပွားများပြားနေခြင်းသည်ပင် တိုင်းပြည် ကြွယ်ဝပြည့်စုံနေခြင်းကိုပြသည့် သာဓကတစ်ခုဟု ဆိုရမည် ဖြစ်သည်။

ထို့ကြောင့်၊ လန်ဒန်မြို့ကြီး လူဦးရေများပြားနေခြင်းသည် ပါရီထက် ပိုမိုကြွယ်ဝကြောင်း ပြသနေသည့် လက္ခဏာရပ်ဖြစ်သည် ဟူသော ပက်တီ၏ ကောက်ချက်သည် ထိုခေတ်လူများအဖို့ ဆီလျော်သင့်မြတ်သည့် ကောက်ချက်တစ်ခုအဖြစ် လက်ခံစရာ ဖြစ်ပါသည်။

❖

ပက်တီက အင်္ဂလန်အနေနှင့် တခြားနိုင်ငံများနှင့် ကုန်သွယ်ရာ၌ အသာရအောင် သို့မဟုတ် ကုန်သွယ်ရေး ပိုငွေပြအောင် ကြိုးပမ်းရန် မကြာခဏ တိုက်တွန်းလေ့ရှိရာ ယင်းကို အကြောင်းပြု၍ သူ့အား ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီ (mercantilist) တစ်ဦး အဖြစ်လည်း အချို့က သတ်မှတ်ကြပါသည်။

စင်စစ် ပက်တီ၌ တောမတ်(စ)မန်း အစရှိသည့် ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီ စစ်စစ်များနှင့် ကွဲပြားသောအချက် တော်တော်များများ ရှိပါသည်။ တစ်အချက်၊ သူက ကုန်သွယ်ရေးပိုငွေကို ဓနဥစ္စာ စုဆောင်းမှု သက်သက်အတွက် အလိုရှိခြင်းမဟုတ်။ အလုပ်အကိုင်သစ်များ တိုးပွားလာစေနိုင်သော အကြောင်းတစ်ရပ်အဖြစ်သာ အလိုရှိခြင်း ဖြစ်၏။ ဒုတိယ၊ သူက ပြည်ပနှင့် လွတ်လပ်စွာ ကုန်သွယ်မှုပြုလုပ်ခြင်းဖြင့် မည်သို့သော

အကျိုးကျေးဇူးများ ရရှိလာနိုင်ကြောင်းကိုလည်း ဖော်ထုတ်ပြောဆိုခဲ့သည်။ နောက်တစ်ချက် ကွဲလွဲသည်က တိုင်းပြည်စီးပွား တိုးတက်အောင် ဆောင်ရွက်ရာ၌ ပြည်ပကုန်သွယ်ရေးကို ပဓာနကိစ္စဟု သူ သဘောမထားခြင်း ဖြစ်သည်။

နိုင်ငံစီးပွားတိုးတက်ရေးတွင် ကုန်သွယ်ရေးပေါ်လစီထက် အစိုးရ၏ အခွန်ငွေကောက်ခံမှုပေါ်လစီနှင့် ပြည်သူ့ဘဏ္ဍာ ခန့်ခွဲသုံးစွဲရေးပေါ်လစီများကသာ ပို၍အရေးပါသည်ဟု သူမြင်သည်။ စင်စစ် ပက်တီက အင်္ဂလန်၏ ဘဏ္ဍာရေးစနစ်နှင့်ပတ်သက်၍ ပြင်းပြင်းထန်ထန် ဝေဖန်လေ့ရှိသူတစ်ဦး ဖြစ်ခဲ့သည်။ အင်္ဂလန်တွင် ကျင့်သုံးနေသော အခွန်ကောက်ခံပုံစနစ်သည် တိုင်းပြည်စီးပွားတိုးတက်ရေးကို နှောင့်ယှက်နေသည့် ကြီးမားသော အဟန့်အတားတစ်ခု ဖြစ်သည်ဟု သူကဆိုသည်။ ၁၇ ရာစု အင်္ဂလန်တွင် အခွန်တော်ကောက်ခံရသည့် စရိတ်က ကြီးမားသည်။ အခွန်တော်ငွေနှုန်းထား သတ်မှတ်ချက်များက တိကျရေရာမှု မရှိ။ တကယ်လက်တွေ့ကောက်ခံသည့် နေရာ၌လည်း မတရားမှု မမျှတမှုတွေ အလွန်အကျွံဖြစ်နေသည်။ အခွန်တော်ကို စိတ်ပျက်သည့်အခါ လူတွေ လုပ်ငန်း လုပ်ကိုင်ထူထောင်ချင်စိတ် လျော့ပါးသည်။ သည်အခါ လူတစ်ဦးချင်းတွေရော တစ်တိုင်းပြည်လုံးပါ စီးပွားကျဆင်းသည်။ အဲသည်လို သူကမြင်သည်။

သို့သော် ပက်တီက အခွန်ငွေကောက်ခံမှုကို လုံးလုံးလျားလျား ဆန့်ကျင်သည်ကား မဟုတ်။ အခွန်ကောက်ခံမှုမှန်သမျှသည် မကောင်း၊ တိုင်းပြည်အတွက် ထိခိုက်သည်ဟု သူ မဆို။ အင်္ဂလိပ်အစိုးရ၏ အခွန်မူဝါဒကိုသာ သူ မကျေနပ်ခြင်း ဖြစ်သည်။ ထိုစဉ်က ကျင့်သုံးနေသော လူခွန် (poll tax) ကောက်ခံသည့် စနစ်ကို သူ အပြင်းအထန် ဝေဖန်သည်။ တစ်ဦးချင်း၏ ဝင်ငွေနှင့်ဓနအင်အားကို မကြည့်ဘဲ လူတစ်ယောက်ကို ဘယ်လောက်ဟူ၍ မူသေသတ်မှတ် ကောက်ခံခြင်းသည် ဝင်ငွေနည်းသူများကို ဝန်ပိစေပြီး ဝင်ငွေများသူတို့အတွက် သက်သာစေသည့် နှုန်းလျှော့အခွန်စနစ် (regressive taxation) ဖြစ်ကြောင်း သူသုံးသပ်ပြောဆိုသည်။ အခွန်ဘဏ္ဍာရရှိရေးအတွက် ထိဖွင့်သည့်စနစ်သည်လည်း စဉ်းစားဉာဏ်



နည်းသူ ကံဆိုးသူများထံမှ အခွန်ကောက်သော သဘောဖြစ်၍ မသင့်လျော်ဟု သူယူဆသည်။ တကယ်တမ်း ကျင့်သုံးသင့်သည်က လူတစ်ဦးချင်းစီ၏ ဓနဥစ္စာ အနည်းအများကိုလိုက်၍ အဆင့်ဆင့် တိုးမြှင့်ကောက်ခံသည့် နှုန်းတိုးအခွန် (progressive taxation) စနစ်ဖြစ်ကြောင်း သူ တင်ပြသည်။ ထို့ပြင် စားသုံးမှု အနည်းအများကိုလိုက်၍ ကောက်ခံသည့် အချိုးကျအခွန် (proportional tax on consumption) စနစ် ကျင့်သုံးသင့်ကြောင်းလည်း သူ တိုက်တွန်းလေ့ရှိသည်။

သို့သော် အခွန်ကောက်ခံမှုထက် ပို၍အရေးကြီးသည်က အခွန်ဘဏ္ဍာငွေများကို မည်သို့ ခန့်ခွဲသုံးစွဲသနည်း ဟူသောအချက်ဖြစ်ကြောင်း သူက ဆိုသည်။ အခွန်ကြောင့် စီးပွားရေးထိခိုက်သည်ဆိုရာ၌ အခွန်တော်အဖြစ် ကောက်ခံသည့် ဘဏ္ဍာငွေများကို ပြန်ထုတ်သုံးစွဲသဖြင့် ငွေပမာဏသည် ပုံမှန်လှည့်လည်ငွေထဲသို့ ပြန်လည်ရောက်ရှိမည် ဆိုပါက အခွန်အတုတ်ကြောင့် လုပ်ငန်းများ ကျဆင်းခြင်း၊ အလုပ်အကိုင်များ လျော့ပါးသွားခြင်းတို့ ဖြစ်ပေါ်စရာ မရှိကြောင်း သူတင်ပြသည်။

❖

ပက်တီက လက်တွေ့ စီးပွားရေးပြဿနာများဘက်တွင် ပို၍ စိတ်အားထက်သန်တာ မှန်သော်လည်း သီအိုရီပိုင်းမှာလည်း သူ၏ ဖြည့်ဆည်းချက်တွေ ရှိခဲ့သည်။

သူက အစွန်းထွက် သို့မဟုတ် အပိုထွက် (surplus) ဟူသည်နှင့်စပ်လျဉ်း၍ ပထမဆုံး အမိပ္ပာယ်ဖွင့်ဆိုခဲ့သည့် စီးပွားရေးပညာရှင်ဖြစ်သကဲ့သို့၊ မြေငှားခ (land rent) ဟူသည်ကို အဆိုပါ အပိုထွက်သဘောတရားပေါ်တွင် အခြေခံ၍ စတင် ရှင်းလင်း ပြောဆိုခဲ့သူလည်းဖြစ်သည်။

နောက်ပိုင်း၌ ငှားခဟူသည် အစွန်းထွက်တန်ဖိုးဖြစ်သည် ဟူသောသဘောတရားကို မြေအဓိကစီးပွားရေးဝါဒီ (physiocrat) တို့၏ ငှားခ

ဆိုင်ရာသီအိုရီအဖြစ် အများသိမှတ်ခဲ့ကြသော်လည်း သည်သဘောတရားကို စတင်ဖော်ထုတ်သူမှာ ဖီဆီယိုကရက်ခေါင်းဆောင် ဖရွှန်ဆွာကင်နေး (François Quesnay) မဟုတ်၊ ဝီလျံပက်တီသာ ဖြစ်ပေသည်။

ဤနေရာ၌ အပိုထွက် (surplus) ၏ သဘောကို အနည်းငယ် ရှင်းရသော် . . .

ဥပမာ၊ 'ပြောင်း' တစ်မျိုးတည်းစိုက်သည့် ကနဦး စိုက်ပျိုးစီးပွားရေးစနစ်တစ်ခု ဆိုပါစို့၊ ကုန်ထုတ်လုပ်မှုဖြစ်စဉ်၌ ပြောင်းသည် အသွင်း (input) လည်းဖြစ်၊ အထုတ် (output) လည်းဖြစ်၏။ ပြောင်းစိုက်ပျိုးထုတ်လုပ်ရေး လုပ်ငန်းထဲသို့ ပြောင်းကို မျိုးစေ့အဖြစ်လည်းကောင်း၊ စိုက်ပျိုးလုပ်သားများအတွက် လခရိက္ခာအဖြစ်လည်းကောင်း ထည့်သွင်းပေးရ၏။ လုပ်ငန်းစဉ်အဆုံးပိုင်းတွင် ပြောင်းကိုပင် ရိတ်သိမ်းရရှိကာ၊ နောက်နှစ်၌ မျိုးစေ့နှင့်လုပ်အားခ (စားနပ်ရိက္ခာ) အဖြစ် အသုံးပြုမည် ဖြစ်၏။

ဤတွင် တစ်နှစ်အတွင်း ပြောင်းစိုက်ပျိုးရေးထဲသို့ ထည့်ပေးရသည့် ပြောင်း အသွင်းပမာဏနှင့် နှစ်ကုန်တွင် ရိတ်သိမ်းရရှိသည့် ပြောင်းအထုတ်ပမာဏအကြား ခြားနားမှုရှိမည်ဖြစ်ရာ ယင်းပိုမိုသော ပမာဏကို ပြောင်းစိုက်ပျိုးရေးလုပ်သဖြင့် ရလာသည့် အပိုထွက်ပစ္စည်း (ဝါ) စီးပွားရေးအပိုအလျှံ (economic surplus) ဟု ပက်တီက ခေါ်ဆိုခဲ့သည်။

မြေရှင်များသည် ထိုအပိုထွက်နှင့် ညီမျှသောတန်ဖိုးကို ငှားခသဘောဖြင့် ရရှိနေကြခြင်း ဖြစ်သည်ဟု သူသုံးသပ်သည်။

မြေရှင်ထံမှ မြေကို ငှားရမ်းစိုက်ပျိုးကြသူ လယ်သီးစားများသည် လယ်ရှင်အား အခကြေးငွေ (သီးစားခ) အဖြစ် အဆိုပါ အပိုထွက်ထဲမှပင် ပေးရလိမ့်မည်။ သည့်ထက်ပိုပေးစရာ သူ့မှာမရှိ။ သို့ဖြစ်လျှင် အပိုထွက်ထဲမှ မည်မျှကို သူ ပေးမည်နည်း။ ဤသည်က အဆိုပါ မြေယာကို ငှားရမ်းလုပ်ကိုင်လိုသူဦးရေ မည်မျှရှိသနည်း ဟူသည့်အချက်ပေါ်တွင် အဓိကမူတည်လိမ့်မည်။ လုပ်ကိုင်လိုသူနည်းသော် မြေရှင်က သူ့အား အပိုထွက်ထဲမှ တစ်စိတ်တစ်ဒေသကို မျှဝေခံစားခွင့်ပေးကာ စိုက်ပျိုးခိုင်းလိမ့်မည်။ လုပ်ကိုင်လိုသူ များနေမည်ဆိုက ငှားခကို အပြိုင်အဆိုင် တိုးပေးရသည့်



သဘော သက်ရောက်ကာ နောက်ဆုံး၌ အပိုထွက်နှင့်ငှားခ တူမျှသည့် အနေအထား သို့မဟုတ် အပိုထွက်အားလုံးကို မြေရှင်အား သီးစားခအဖြစ် ပေးရသည့် အနေအထားသို့ ရောက်ရှိမည် ဖြစ်သည်။

❖

အထက်တွင် ဆိုခဲ့သည့်အတိုင်း အခွန်ဘဏ္ဍာ စီမံခန့်ခွဲမှုနှင့် စပ်လျဉ်းသည့် သုံးသပ်တင်ပြချက်များ၊ အပိုထွက်ပမာဏနှင့် မြေငှားခတို့၏ သဘောကို ဖွင့်ဆို ရှင်းလင်းခြင်းများအားဖြင့် စီးပွားရေးပညာရပ်ကို ဖြည့်ဆည်းခဲ့သည် မှန်သော်လည်း ပက်တီအား ၁၇ ရာစုနှစ်၏ အရေးပါဆုံး စီးပွားရေးပညာရှင်အဖြစ် အများ အသိအမှတ်ပြုကြသည်က စီးပွားရေးလောက၏ အရှိပကတိ အနေအထားများကို တိတိကျကျ နားလည်သိရှိနိုင်ရန်အတွက် ကိန်းဂဏန်းများ စာရင်းဇယား အချက်အလက်များကို အသုံးပြုရန် လိုအပ်ကြောင်း အလေးအနက် ဖော်ထုတ်ခဲ့ခြင်းအတွက် ဖြစ်၏။

တိကျခိုင်မာသော စာရင်းဇယားများ မရှိဘဲ စီးပွားရေးတစ်ရပ်၏ တိုးတက်မှု ဆုတ်ယုတ်မှုတို့ကို ဝေဖန်ချင့်တွက်ရန် မဖြစ်နိုင်ကြောင်း သူ ပြောဆိုခဲ့ပြီး၊ သူ့ခေတ်ကာလ ဗြိတိန်၏ စီးပွားရေးအနေအထားကို အကဲဖြတ်နိုင်ရန်အတွက် ကိန်းဂဏန်း အချက်အလက်များ ရှာဖွေစုစည်းရန် သူ အားထုတ်ခဲ့သည်။

သို့သော် သူ အသက်ထင်ရှား ရှိခဲ့သည့် ၁၇ ရာစု အတွင်းကမူ အားကိုးအားထားပြုလောက်သည့် တိကျပြည့်စုံသော ကိန်းဂဏန်းများ ရရှိဖို့မှာ တကယ် လက်တွေ့ မဖြစ်နိုင်ခဲ့။ သူ မျှော်လင့်ရည်မှန်းခဲ့သည့် အနေအထားမျိုးသည် နောက်ပိုင်း နှစ်ပေါင်း ၂၅၀ ခန့်အကြာ ၂၀ ရာစု အလယ်ပိုင်း စီးပွားရေးပညာရှင် ဆိုင်မွန်ကုဇနက်(စ) (Simon Kuznets) တို့ ခေတ်လောက်ကျမှသာ ပေါ်ပေါက်ခဲ့ပေသည်။

# ဂျွန်လော့ခ်

(၁၆၃၂ - ၁၇၀၄)



ဂျွန်လော့ခ် (John Locke) မှာ နိုင်ငံရေး အတွေးအခေါ် နယ်ပယ်၌ အထူးထင်ရှားသော ပုဂ္ဂိုလ်တစ်ဦး ဖြစ်သည်။ ထို့ကြောင့်၊ စီးပွားရေးပညာရပ်နယ်ပယ်သို့ သူ၏ဖြည့်ဆည်းချက်များမှာလည်း အဓိက အားဖြင့် အတွေးအခေါ်ပိုင်းဆိုင်ရာ ဖြည့်ဆည်းချက်များပင် ဖြစ်ခဲ့သည်။

သူက ပုဂ္ဂလိက ပစ္စည်းပိုင်ဆိုင်မှုစနစ် သင့်လျော်မှန်ကန်ကြောင်းနှင့်၊ စီးပွားရေးကိစ္စ၌ နိုင်ငံတော်၏ ပါဝင်ပတ်သက်မှု လျှော့ချသင့်ကြောင်း ကျိုးကြောင်းပြပြောဆိုခဲ့သည့် ကနဦးပုဂ္ဂိုလ် ဖြစ်သည်။ ဂျွန်လော့ခ်၏ အယူအဆများသည် ၁၇ ရာစု အင်္ဂလန်ပြည်တွင် ဖြစ်ထွန်းစပြုလာနေသည့် အရင်းရှင်စီးပွားရေးစနစ်အတွက် အမှီသဟဲပြုစရာ အတွေးအခေါ်အုတ်မြစ် ဖြစ်ခဲ့သည်။

အဆိုပါ ဒဿနအခြေခံများအပြင် စီးပွားရေးရာနှင့် တိုက်ရိုက်ပတ်သက်သည့်အရာများလည်း သူတင်ပြခဲ့သေးရာ အဓိကမှာ ငွေကြေး (money) နှင့် အတိုးနှုန်း (interest ratc) ဆိုင်ရာ သီအိုရီများ ဖြစ်သည်။

❖

ဂျွန်လော့ခ်ကို ၁၆၃၂ ခုနှစ်တွင် အင်္ဂလန်ပြည် ဆမ်းမားဆက်နယ်၌ မွေးသည်။ မိဘများမှာ အတော်အသင့်ပြည့်စုံသူများ ဖြစ်သည်။ ဖခင်က ရှေ့နေတစ်ဦးဖြစ်ပြီး မြေယာအတော်များများလည်း ပိုင်ဆိုင်သည်။ ရှေ့နေအလုပ်ကို အကြောင်းပြု၍ ပါလီမန်အမတ်တစ်ဦးဖြစ်သူ အလက်ဇန္ဒားပေါဖမ်နှင့် ရင်းနှီးကျွမ်းဝင်ရာ ပေါဖမ်၏ အကူအညီဖြင့် သားဖြစ်သူ ဂျွန်လော့ခ်အား ထိုစဉ်က အင်္ဂလန်တွင် အကောင်းဆုံးစာသင်ကျောင်းတစ်ခုဖြစ်သည့် ဝက်(စ)မင်စတာကျောင်းသို့ အပ်နှံခွင့်ရခဲ့သည်။

ဂျွန်လော့ခ်သည် ဝက်(စ)မင်စတာကျောင်းတွင် ထူးချွန်သဖြင့် အောက်စဖို့ဒ်တက္ကသိုလ်သို့တက်ရန် စကောလားရှစ်ဆုရရသည်။ သို့နှင့် ၁၆၅၂ ခုနှစ်တွင် အောက်စဖို့ဒ်တက္ကသိုလ် ခရိုက်(စ)ချာ့ချ်ကောလိပ်သို့ တက်ခွင့်ရသည်။ ၁၆၅၆ တွင် ဝိဇ္ဇာဘွဲ့ရပြီး၊ နောက်သုံးနှစ်အကြာတွင် မဟာဘွဲ့ရသည်။ ထို့နောက် အောက်စဖို့ဒ်မှာပင် သင်ကြားရေးအလုပ်လုပ်ကိုင်ရာ ၁၆၆၀ တွင် ဂရိဘာသာပို့ချရပြီး၊ ၁၆၆၂ တွင် ရက်တားရစ် (rhetoric) ဘာသာ သင်ကြားပို့ချသူ ဖြစ်လာသည်။ (ရက်တားရစ်ဆိုသည်မှာ အရေးအပြောဆိုင်ရာတို့နှင့် စပ်လျဉ်းသည့် ဆွဲဆောင်အားကောင်းသော အစီအကုံး အနှုန်းအဖွဲ့များအကြောင်း လေ့လာသောပညာဖြစ်သည်။)

တက္ကသိုလ်တွင် ဆရာအလုပ်လုပ်ရင်း၊ တစ်ဘက်ကလည်း ဂျွန်လော့ခ်သည် သူ့ခေတ်က ပေါ်ပေါက်သည့် သိပ္ပံဆိုင်ရာ ရှာဖွေတွေ့ရှိချက်များ၊ အတွေးအမြင် အယူအဆသစ်များကို စူးစမ်းလေ့လာခဲ့သည်။ ဝီလျံဟာဗေး ဖော်ထုတ်တင်ပြခဲ့သည့် ခန္ဓာကိုယ်အတွင်း သွေးလည်ပတ်လှုပ်ရှားပုံသဘောတရားကို သဘောကျသွားရာမှ ဆေးပညာကို လေ့လာဖြစ်သည်။ လေ့လာသည်ဆိုရာ၌ သာမန်မျှမဟုတ်၊ ထိုစဉ်က အောက်စဖို့ဒ်ရှိ ဆေးပညာ သင်ရိုးညွှန်းတမ်းအတိုင်း ပြည့်ပြည့်ဝဝ လေ့လာခဲ့ခြင်းဖြစ်ရာ ယင်း၏အကျိုးဆက်အဖြစ် ဘဏ္ဍာရေးဝန်ကြီး လော့ဒ်အက်ရှလီ၏ သမားတော်ကြီး ဖြစ်လာသည်။ လော့ဒ်အက်ရှလီနှင့် ရင်းနှီးသည့်အခါ ၎င်းထံမှ ထိုခေတ်ကာလ သူ့တိုင်းပြည်အတွက် အရေးကြီးသော စီးပွားရေးရာ



ပြဿနာများအကြောင်း ကြားသိခွင့်ရသည်။ ဗြိတိန်နှင့် ယင်း၏ကိုလိုနီနယ်မြေများအကြား ကုန်သွယ်မှုကိစ္စ၊ ငွေရေးကြေးရေးဆိုင်ရာတွင် အတိုးနှုန်းများကိစ္စ၊ စသည်များ။

ကိုလိုနီရေးရာ ပြဿနာများကို စိတ်ဝင်တစား လေ့လာရင်း ကျွမ်းကျင်သူတစ်ဦး ဖြစ်လာကာ ၁၆၇၃ ခုနှစ်တွင် ကုန်သွယ်ရေးနှင့် နယ်ခြားစိုက်ခင်းနယ်မြေများဆိုင်ရာ ကောင်စီ၌ အတွင်းဝန်အဖြစ် ခန့်အပ်ခြင်း ခံရသည်။

နောက် ၂ နှစ်ခန့်အကြာ၌မူ အမှုထမ်းဘဝမှထွက်ကာ လွတ်လပ်စွာနေထိုင်ရင်း နောက်ပိုင်းတွင် သူ ပို၍ စိတ်ဝင်စားလာသည့် အတွေးအခေါ်ဘာသာရပ်ကို စူးစိုက်လေ့လာနေခဲ့သည်။ ထို့နောက် နှစ်အနည်းငယ်အတွင်းတွင် An Essay Concerning Human Understandin (လူ၏အသိပညာဆိုင်ရာစာတမ်း) အမည်ရှိ ဒဿနကျမ်း (၁၆၉၀ ခုနှစ်ထုတ်) နှင့် Two Treatises on Government (အစိုးရရေးရာစာတမ်းနှစ်စောင်) အမည်ရှိ နိုင်ငံရေးအတွေးအခေါ်ကျမ်း (၁၆၉၀ ခုနှစ်ထုတ်) တို့ကို ရေးသားပြုစုခဲ့ရာ သည်ကျမ်းနှစ်အုပ်ကြောင့်ပင် ဂျွန်လော့ခ်က အရေးပါသော တွေးခေါ်ရှင်ကြီးတစ်ဦးအဖြစ် အသိအမှတ်ပြုခြင်း ခံခဲ့ရသည်။

သို့သော် တစ်ဘက်တွင် သူက စီးပွားရေးပြဿနာများနှင့် စပ်လျဉ်း၍လည်း စိတ်ဝင်စားမှု ရှိခဲ့ပြီး ငွေကြေးစနစ်၊ အတိုးနှုန်း၊ ကုန်သွယ်မှု စသည်တို့အကြောင်း စာတမ်းကြီးငယ်များ ရေးသားဖြန့်ချိပြီး ဆွေးနွေးဝေဖန်ခြင်းများ မပြတ်ပြုလုပ်နေခဲ့ရာ ကွယ်လွန်ချိန်အထိ အင်္ဂလန်၌ နိုင်ငံရေး စီးပွားရေးဘက်တွင် သြဇာလွှမ်းမိုးမှု ရှိခဲ့သည်။

❖

စီးပွားရေးပညာနယ်ပယ်သို့ လော့ခ်၏ ဖြည့်ဆည်းမှု ၅ ခုရှိရာ ၎င်းအနက် ၃ ခုသည် ဒဿနပိုင်းဆိုင်ရာဖြစ်၍ ကျန်နှစ်ခုသည် စီးပွားရေးနှင့် တိုက်ရိုက်ပတ်သက်သည်။

အတွေးအခေါ်ပိုင်းဆိုင်ရာ ဖြည့်ဆည်းမှုများအနက် အဓိက အရေးပါဆုံး အချက်မှာ ပုဂ္ဂလိကပစ္စည်းပိုင်ဆိုင်ခွင့်နှင့်စပ်လျဉ်း၍ ထောက်ခံပြောဆိုခြင်း ဖြစ်သည်။

၁၇ ရာစု အင်္ဂလန်ပြည်တွင် ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းများ အလျင်အမြန် ဖွံ့ဖြိုးတိုးတက်သည့်အခါ နဂိုမူလ လွှမ်းမိုးကြီးစိုးနေခဲ့သည့် မြေရှင်စနစ် အလေ့အကျင့်များ၊ ဘာသာရေးထုံးဓလေ့များနှင့် ပဋိပက္ခ ဖြစ်လာသည်။ ဘာသာရေးဆိုင်ရာပုဂ္ဂိုလ်တို့ အမြင်အရ ဤကမ္ဘာသည် ဘုရားသခင်က လူအားလုံးတို့အတွက် ဖန်ဆင်းပေးထားခြင်း ဖြစ်သည်။ အကယ်၍ တစ်စုံတစ်ယောက်သောသူက ဤကမ္ဘာ၏ ရင်းမြစ်အချို့ကို တစ်ဦးတည်းပိုင် ပြုလုပ်မည်ဆိုက အခြားသူများ သုံးစွဲခွင့်ရတော့မည် မဟုတ်။ ထို့ကြောင့် ပုဂ္ဂလိကပစ္စည်းပိုင်ဆိုင်မှုဟူသည် မတရား၊ မသင့်တော်ဟူ၍ ၎င်းတို့က သဘောထားကြသည်။

လော့ခ်က သည်သဘောထားကို လက်မခံ။ လူသည် မိမိကိုယ်ကိုလည်းကောင်း၊ မိမိ၏လုပ်အားကိုလည်းကောင်း၊ မိမိလုပ်အား၏ အသီးအပွင့်ကိုလည်းကောင်း သုံးစွဲခွင့် ရယူခံစားပိုင်ခွင့် ရှိရမည်ဟူ၍ ဆိုခဲ့သည်။

သည်အဆိုကို အများ မငြင်းနိုင်။

တစ်ဖန် သူက၊

လူသည် မိမိ စိုက်ပျိုးစားသောက်ရန်အတွက် သဘာဝမြေလွတ် မြေရိုင်းကို ခုတ်ထွင်ရှင်းလင်းမည်၊ သူ ရှင်းလင်းသဖြင့်လည်း မြေလွတ်တွေ ကုန်မသွားဘဲ အခြားသူများ ခုတ်ထွင်လိုလျှင် ခုတ်ထွင်ရန်နေရာ ကျန်ရှိနေဦးမည်ဆိုက၊ မြေရိုင်းနှင့် သူ့လုပ်အားတို့ ပေါင်းစပ်၍ ဖြစ်ပေါ်လာသည့် စိုက်ပျိုးမြေကို တရားသဖြင့် သူပိုင်ဆိုင်ခွင့်ရှိရမည်ဟူ၍ တင်ပြသည်။

ထို့နောက် တစ်ဆင့်တက်ကာ သူက၊ ငွေကြေး (money) သို့မဟုတ် အရင်းအနှီး (capital) ဟူသည် တစ်ချိန်က လုပ်အားတို့၏ ရလဒ်ဖြစ်ရာ ယင်းတို့ကို ပိုင်ဆိုင်ခြင်းသည်လည်း လုပ်အား၏အသီးအပွင့်ကို ပိုင်ဆိုင်ခြင်းဖြစ်၍ အပြစ်တင်စရာ အကြောင်းမရှိကြောင်း၊ ထို့ပြင် လူတစ်ဦးချင်းတို့၌ မြေယာအပါအဝင် ပစ္စည်းပိုင်ဆိုင်ခွင့်၊ ဓနဥစ္စာ စုဆော



ခွင့်များ ပေးထားခြင်းဖြင့် အလုပ်အကိုင်များ ပိုမိုအားထုတ်လုပ်ကိုင်ကာ ကုန်ထုတ်လုပ်မှု တိုးတက်လာစေသည့် အကျိုးကျေးဇူးလည်းရှိကြောင်း သူက ပြောဆိုခဲ့သည်။

ဒဿနပိုင်းဆိုင်ရာ ဒုတိယအချက်က၊ စီးပွားရေးရာ၌ နိုင်ငံတော်၏ အခန်းကဏ္ဍနှင့်ပတ်သက်၍ ဖြစ်သည်။

လော့ခ်က လူတစ်ဦးချင်းတို့သည်သာ နိုင်ငံရေးအာဏာ၏ မူလရင်းမြစ်ဖြစ်သည်ဟု ခံယူသည်။ တစ်ဦးချင်းသော ပုဂ္ဂိုလ်တို့ စုဝေးကာ တစ်စုံတစ်ယောက်သောသူအား အားလုံးအကျိုးအတွက် မိမိတို့ကို စီမံအုပ်ချုပ်နိုင်ရန်၊ မိမိတို့အသီးသီး၏ မူလအခွင့်အရေးအချို့ကို စွန့်လွှတ်ပေးအပ်ခြင်းဖြင့် အစိုးရ (နိုင်ငံတော်) ဟူသော သဘော စတင်တည်ရှိလာခဲ့ခြင်းဖြစ်သည်ဟူ၍ သူရှုမြင်သည်။ စီးပွားရေးပုံသဏ္ဌာန်ဖြင့် ခိုင်းနှိုင်းပြောရသော် နိုင်ငံတော်ဟူသည် ကုမ္ပဏီတစ်ခုသဖွယ်ဖြစ်ပြီး ပိုင်ဆိုင်မှုအသီးသီး ရှိကြသော ပြည်သူတို့သည် ယင်းကုမ္ပဏီ၏ အစုရှယ်ယာရှင်များသဖွယ် ဖြစ်ကြသည်။

လူတို့သည် မိမိတို့၏ အသက်စည်းစိမ်၊ အိုးအိမ်မြေယာနှင့် လွတ်လပ်စွာ လုပ်ဆောင်ပိုင်ခွင့်များကို ကာကွယ်ရန်အလို့ငှာ အုပ်စိုးမှုတစ်ခု၏အောက်သို့ ဝင်ရောက်ကြခြင်း ဖြစ်ရာ၊ သည်သဘောအရမူ တစ်ဦးချင်းသော ပြည်သူနှင့်အုပ်စိုးသူတို့အကြားတွင် ကြေညာပြီးဖြစ်စေ ကြေညာဘဲဖြစ်စေ၊ အပြန်အလှန်နားလည်သိမှတ်ထားသည့် ဆက်ဆံရေး ပဋိညာဉ် (social contract) တစ်ခု ရှိနေသည်။ နိုင်ငံသားများအဖို့ တိုင်းပြည်နိုင်ငံနှင့် နေထိုင်သဖြင့် လုံခြုံမှုအကျိုးကျေးဇူးရှိရာ၊ ယင်းအတွက် အစိုးရ၏ အုပ်စိုးမှုကို သိမှတ်လက်ခံကြရမည် ဖြစ်သကဲ့သို့၊ နိုင်ငံတော်ဘက်ကလည်း အုပ်စိုးခံပြည်သူတို့၏ အကျိုးစီးပွားများကို ကာကွယ်ပေးရန် တာဝန်ရှိသည်။ ထိုသို့မဟုတ်က ပဋိညာဉ်ပျက်ပြယ်သောသဘော ဖြစ်သည်၊ စသဖြင့် သူ သုံးသပ်ပြောဆိုခဲ့သည်။

ဒဿနပိုင်းဆိုင်ရာ တတိယဖြည့်ဆည်းချက်က စီးပွားရေးနည်းပညာ (methodology of economics) နှင့် ပတ်သက်သည်။

လော့ခ်က လူဟူသည် မိမိအကျိုးကို အဓိကကြည့်တတ်သူ ဖြစ်သကဲ့သို့ ချင့်တွက် ဝေဖန်တတ်သော သဘောရှိသူလည်း ဖြစ်သည်။ ထို့ကြောင့် လူသည် စီးပွားရေးနှင့်ပတ်သက်လျှင်လည်း မိမိအကျိုးအမြတ်ကို ချင့်တွက်ကာ တုံ့ပြန်လှုပ်ရှားတတ်သော သဘာဝရှိသည်၊ ဟုသုံးသပ်သည်။

ဥပမာ၊ ကုန်ပစ္စည်းတစ်ခု ဈေးတက်သွားလျှင် စားသုံးသူတို့က ၎င်းကို ဝယ်ယူစားသုံးမှု လျော့သွားပြီး၊ ၎င်းအစား ဈေးသက်သာသည့် အမျိုးအစားတူ ပစ္စည်းကို ဝယ်ယူစားသုံးကြခြင်းမျိုး၊ တစ်ဖက်တွင်လည်း ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချကြသူတို့က အဝယ်လိုက်လာသောပစ္စည်း၊ များများရောင်းရ၍ အကျိုးအမြတ်များများ ရရှိစေမည့် ပစ္စည်းမျိုးကို ပိုမို ထုတ်လုပ်လာကြခြင်းမျိုး ဖြစ်သည်။

စီးပွားရေးနှင့်စပ်လျဉ်း၍ လူတို့၌ ယင်းသို့ ခန့်မှန်းတွက်ချက်နိုင်သည့် တုံ့ပြန်ပုံသဘာဝများ ရှိနေခြင်းကို အခြေခံကာ လော့ခ်က ရူပဗေဒ ဓာတုဗေဒတို့တွင် နယူတန်၏ နိယာမ၊ ဘွိုင်းလ်(စ)၏ နိယာမ စသည်တို့ ရှိသကဲ့သို့ စီးပွားရေးဆိုင်ရာတွင်လည်း အလားတူ ဥပဒေသများ နိယာမများ ဖော်ထုတ်၍ ရနိုင်ကြောင်း ရှုမြင်ခဲ့သည်။

❖

စီးပွားရေးပညာနှင့် တိုက်ရိုက်ပတ်သက်သည့် သူ့ဖြည့်ဆည်းချက်များမှာ အထက်တွင်ဆိုခဲ့သည့် 'ငွေကြေး' ဆိုင်ရာနှင့် 'အတိုးနှုန်း' ဆိုင်ရာ အယူအဆများဖြစ်သည်။

အတိုးနှုန်းနှင့် စပ်လျဉ်း၍ ၁၇ ရာစုအလယ်ပိုင်းလောက်တွင် အင်္ဂလန်၌ အရှေ့အိန္ဒိယကုမ္ပဏီ အကြီးအကဲတစ်ဦးဖြစ်သူ ဂျိုဆိုင်ယာချိုင်း (Josiah Child) ၏ သဘောထားများ ပျံ့နှံ့တွင်ကျယ်လျက်ရှိသည်။ ကုန်သည်တစ်ပိုင်း စီးပွားရေးပညာရှင်တစ်ပိုင်းဖြစ်သူ ချိုင်းက၊ နိုင်ငံတော် အစိုးရအနေနှင့် အတိုးနှုန်းများကို ၄ ရာခိုင်နှုန်းထက် မပိုရအောင် ကန့်သတ်သင့်ကြောင်း၊ အတိုးနှုန်း လျော့နည်းသည့်အခါ ကုန်သည်များအပါအဝင်



ချေးငွေဖြင့် လုပ်ငန်းလုပ်လိုသူတို့အတွက် အလုပ်ဖြစ်ကြောင်း၊ သည်အခါ တစ်တိုင်းပြည်လုံးအနေနှင့် အကျိုးအမြတ်ရှိကြောင်း၊ သည်မူဝါဒအရ ထိခိုက်သူရှိမည်ဆိုက ယင်းမှာ အတိုးကြီးစားနေသည့် ငွေချေးသမား တစ်စုသာ ဖြစ်နိုင်ကြောင်း ပြောဆိုသည်။

လော့ခ်က ယင်းအဆိုကို လက်မခံ။ အစိုးရက အတိုးနှုန်းများကို ကန့်သတ်ထိန်းချုပ်သည့် အစီအစဉ်ကို သူ အပြင်းအထန် ကန့်ကွက်သည်။ အတိုးနှုန်းကိုထိန်းချုပ်ခြင်းဖြင့် တိုင်းပြည်အတွက် ဘာမှ အကြောင်းထူးလော။ ကုန်သွယ်မှုမှရသည့် အမြတ်ငွေကို ကုန်သည်နှင့် ငွေရင်းထုတ်ပေးသူ ငွေချေးသမားတို့ ခွဲဝေယူကြသည့် နေရာ၌သာ သက်ရောက်မှုရှိသည်ဟု သူကဆိုသည်။ ဥပမာ၊ ကုန်သည်သည် ချေးငွေဖြင့် ကုန်သွယ်မှုပြုရာမှ ၁၀ ရာခိုင်နှုန်း အမြတ်အစွန်းရသည် ဆိုပါစို့။ အကယ်၍ ချေးငွေအတွက် ပေးရသည့် အတိုး ၅ ရာခိုင်နှုန်း ရှိမည်ဆိုပါက ကုန်သွယ်မှုမှရသည့် အမြတ်ကို ငွေချေးသူနှင့် ကုန်ရောင်းကုန်ဝယ်လုပ်သူတို့ တစ်ယောက်တစ်ဝက် (၅ ရာခိုင်နှုန်းစီ) ခွဲယူရသောသဘော ဖြစ်မည်။ အကယ်၍ အတိုးငွေအဖြစ် ၄ ရာခိုင်နှုန်းသာ ပေးရမည်ဆိုက ကုန်သည်အတွက် ၆ ရာခိုင်နှုန်းကျန်မည် ဖြစ်သည်။ ထို့ကြောင့် အတိုးနှုန်းများလျှင် ငွေချေးသူ တွက်ခြေကိုက်ပြီး အတိုးနှုန်းနည်းလျှင် ကုန်သည် တွက်ခြေကိုက်သော သဘောသာရှိရာ အတိုးနှုန်းကြောင့် တိုင်းပြည်စီးပွားရေးမှာ ဘာမှ သိသိသာသာ သက်ရောက်မှု မရှိနိုင်။ စဉ်းစားမည်ဆိုက သက်ရောက်နိုင်သည့် အကြောင်းတစ်ခုသာ မြင်ရသည်။ ယင်းက အတိုးနှုန်း နည်းလွန်းလျှင် ငွေရှင်များ ချေးငှားလိုစိတ် ရှိမှာမဟုတ်သည့်အတွက် ကုန်သည်များမှာ အရင်းအနှီး လျော့ပါးသွားမည်။ သည်အခါ ကုန်သွယ်မှုလျော့သဖြင့် နိုင်ငံအတွက် အကျိုးအမြတ် နည်းသွားနိုင်သည်၊ စသဖြင့် သူ သုံးသပ်သည်။

ထို့ကြောင့် လော့ခ်၏သဘောတွင် အတိုးနှုန်းကို အစိုးရက အမိန့်ထုတ်ပြန် သတ်မှတ်ပေးခြင်းထက် လွတ်လပ်သော ဈေးကွက်၏ ရောင်းလိုအား ဝယ်လိုအားတို့ကို လိုက်၍ တက်နိုင်ကျနိုင်သည့်သဘာဝ အတိုးနှုန်းအတိုင်း ထားခြင်းသာ အကောင်းဆုံးဖြစ်မည် ဟုမြင်သည်။

ထိုသဘောအရ ဈေးကွက်၌ ငွေနည်းပါးနေသည့်အခါ (ငွေထုတ်ချေးလိုသူနည်းသောအခါ) ငွေ၏တန်ဖိုး သို့မဟုတ် ငွေကို ချေးငှားလိုလျှင် ပေးရမည့် အတိုးနှုန်းက တက်လာမည်။ ငွေထုတ်ချေးသူတို့က အတိုးများများ တောင်း၍ ရနိုင်မှန်း သိသည့်အတွက် တင်၍တောင်းကြမည်။ ဈေးကွက်၌ ငွေများပြားနေသည့်အခါ (ငွေထုတ်ချေးလိုသူတွေ များသောအခါ) ၎င်း၏ တန်ဖိုး သို့မဟုတ် အတိုးနှုန်းက ကျလာမည်။ ငွေထုတ်ချေးလိုသူတို့က ငွေချေးမည့်သူကို ဆွဲဆောင်နိုင်ရန် အတိုးနှုန်းကို လျှော့ပေးလာကြရမည်၊ စသဖြင့် သူ ရှုမြင်ခဲ့သည်။

လော့ခ် အကြိတ်အနယ် ဆွေးနွေးဝေဖန်ခဲ့သည့် ငွေကြေးဆိုင်ရာ အခြားပြဿနာတစ်ခုက ဒင်္ဂါးသစ်များ သွန်းလုပ်သည့်ကိစ္စ ဖြစ်သည်။

၁၇ ရာစု အင်္ဂလန်တွင် ဒင်္ဂါးအားလုံးကို အဖိုးတန်သတ္တုများ ဖြစ်သည့် ရွှေ၊ ငွေ တို့ဖြင့် သွန်းလုပ်လေ့ရှိခဲ့သည်။ ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများကို လူထုအကြား လှည့်လည်သုံးစွဲစေသောအခါ လူအများအပြားကပင် မိမိထံ ရောက်လာသည့် ဒင်္ဂါးများကို တစ်စဉ်းဖြင့် အတော်အတန်စီတိုက်ကာ ရသည့် အမှုန့်အစများကို စုဆောင်းထားပြီး များလာသည့်အခါ ရွှေဈေး ငွေသားဈေး တို့ဖြင့် ပြန်ရောင်းသော အလေ့အထ ရှိလာခဲ့သည်။ တဖြည်းဖြည်းနှင့် လူတို့သည် မိမိတို့ထံ သိပ်မပွန်းပဲ့သည့် ဒင်္ဂါးမျိုး ရောက်လာလျှင် တော်ရုံနှင့် ထုတ်မသုံးဘဲ သိမ်းထားကြပြီး၊ ရုပ်ဆင်းမလှပသည့် ဒင်္ဂါးအညံ့အဖျင်းများ အကြောင်းကြောင်းကြောင့် ရရှိလာလျှင် ကိုယ့်လက်ကထွက်အောင် မြန်မြန် ပြန်ထုတ်ကြခြင်းဖြင့် လည်ပတ်ငွေထဲတွင် ဒင်္ဂါးကောင်းတွေ ရှာမတွေ့ဘဲ ဒင်္ဂါးညံ့တွေချည်းသာ ပေါ်များလာသည်။ ဒင်္ဂါးညံ့ဆိုသည်မှာ ဖဲ့စွန်းတိုက်စားထားသဖြင့် ပုံသဏ္ဌာန်လည်း ပျက်၊ အလေးချိန်လည်း မပြည့်တော့သည့် ဒင်္ဂါးများ ဖြစ်သည်။ တစ်ကျပ်သားဟု ရိုက်နှိပ်ထားသည့် ရွှေဒင်္ဂါးတစ်ပြားမှာ အလေးချိန်တစ်ကျပ်သား မပြည့်သည့်အခါ သူ့အား တစ်ကျပ်သားဒင်္ဂါး အဖြစ် လက်ခံဖို့ ခက်လာသည်။

ဤသို့ဖြင့် ဒင်္ဂါးညံ့တွေကြောင့် ရောင်းဝယ်ဖလှယ်ရာတို့တွင် ပြဿနာ အခက်အခဲတွေ ရှိလာသည့်အခါ အင်္ဂလိပ်အစိုးရက ဒင်္ဂါးသစ်များ



ထုတ်လုပ်ရန် စီစဉ်သည်။ ဒင်္ဂါးသစ်များ၌ ရွှေဒင်္ဂါးကိုလည်း ရွှေရည်အပြည့် မထည့်၊ ငွေဒင်္ဂါးကိုလည်း ငွေရည်အပြည့် မထည့်ဘဲ အခြား တန်ဖိုးနည်း သတ္တုတို့ဖြင့် ရောနှော၍ ပြုလုပ်မည်။ တစ်နည်းဆိုရသော်၊ ရွှေဒင်္ဂါး ငွေဒင်္ဂါးတို့၏ ပင်ကိုသဘာဝတန်ဖိုးကို လျှော့ချမည်။ ထိုသို့ပြုလုပ်ခြင်းဖြင့် ဒင်္ဂါးကို ပွတ်တိုက်ဖဲ့ယူမှုများ လျော့ပါးသွားနိုင်မည်၊ ဟုဆိုသည့်အခါ လော့ခ်က ယင်းအစီအစဉ်ကို ကန့်ကွက်သည်။

ဒင်္ဂါးထဲတွင် တန်ဖိုးရှိသတ္တုပါဝင်မှု (ဥပမာ၊ ငွေဒင်္ဂါးထဲတွင် ငွေသားပါဝင်မှု) လျော့နည်းသွားမည်ဆိုက ပစ္စည်းရောင်းသူတို့က နဂိုမူလ တန်ဖိုးနှင့်ကိုက်အောင် ဒင်္ဂါးသစ်အရေအတွက်ကို တိုးမြှင့်တောင်းခံလာကြ လိမ့်မည်။ ဥပမာ၊ ငွေသားစစ်စစ်ဒင်္ဂါး ၁၀ ပြား တန်သည့် ပစ္စည်းကို ငွေသား ၅၀ ရာခိုင်နှုန်းသာပါသည့် ဒင်္ဂါးသစ်နှင့် ဝယ်မည်ဆိုက ကုန်ပစ္စည်းရှင်က ဒင်္ဂါးပြား ၂၀ တောင်း လာလိမ့်မည်။ အစိုးရတို့အနေနှင့် ဒင်္ဂါးပြားတစ်ခုပေါ်တွင် နှစ်သက်ရာတန်ဖိုးကို ရေးနိုင်သော်လည်း၊ ၎င်း ဒင်္ဂါးပြားတွင် ပါဝင်နေသည့် 'သတ္တု'၏ ပင်ကိုတန်ဖိုး သို့မဟုတ် သဘာဝ တန်ဖိုးကိုကား ပြုပြင်ပြောင်းလဲ၍ မရနိုင်။ ထို့ကြောင့် ဒင်္ဂါးပြားကို တန်ဖိုးလျှော့ခြင်း၊ တန်ဖိုးနည်းသတ္တုနှင့် ရောနှောခြင်းများ ပြုလုပ်က ငွေကြေးဖောင်းပွမှုနှင့် ကုန်ဈေးနှုန်းကြီးမြင့်မှုတို့သာ အဖတ်တင်မည် ဖြစ်ကြောင်း သူကပြောဆိုသည်။

လော့ခ်၏ ယင်းတင်ပြချက်မှာ နောင်ပေါ်ပေါက်လာမည့် ငွေကြေး ပမာဏသီအိုရီ (Quantity Theory of Money) (ဈေးနှုန်းတို့သည် ငွေကြေးပမာဏနှင့် တိုက်ရိုက်အချိုးကျသည် ဟူသောသီအိုရီ) ၏ ရှေ့ပြေး ဖြစ်သည်ဟု ဆိုစမှတ်ပြုကြပါသည်။

❖

ယင်းသို့ ငွေကြေးဆိုင်ရာပြဿနာများတွင်ပါ ပါဝင်တင်ပြခဲ့ခြင်းများ ရှိခဲ့သော်လည်း စီးပွားရေးပညာနယ်ပယ်၌ လော့ခ်အား ပို၍အလေးထား

အသိအမှတ်ပြုကြသည်က ဒဿနပိုင်းဆိုင်ရာ ဖြည့်ဆည်းချက်များ ဖြစ်သည့် (၁) ပုဂ္ဂလိကပိုင်ဆိုင်မှုကို ထောက်ခံတင်ပြသည့် အယူအဆနှင့်၊ (၂) စီးပွားရေးဆိုင်ရာကိစ္စတွင် အစိုးရတို့က အပြင်မှ ဝင်ရောက်စွက်ဖက်မှု မပြုဘဲ ၎င်းဘာသာ လွတ်လပ်စွာ ဖြစ်ပေါ်ခွင့်ပြုရေး အယူအဆများ ဖြစ်သည်။ သည်အယူအဆနှစ်ရပ်ကိုကား ယနေ့ခေတ်တိုင် စီးပွားရေး ပညာရှင်အများစုတို့ လက်ခံကိုင်စွဲလျက် ရှိကြပေသည်။

## ရစ်ချတ်ကင်တေးလွန်
## (၁၆၈၇ ခုနှ – ၁၇၃၄ ခုနှ)

ရစ်ချတ်ကင်တေးလွန် (Richard Cantillon) ၏ ဘဝဇာတ်လမ်းက လျှို့ဝှက်ဆန်းကြယ်သည်။ သူ၏ ငယ်စဉ်ဘဝအကြောင်းကို ကောင်းကောင်းမသိရ။ သူ၏ ကိုယ်ပိုင်စီးပွားရေးကိစ္စများအကြောင်းနှင့် သူကွယ်လွန်ပုံအကြောင်းတို့မှာလည်း တိတိကျကျ မရှိ။ အမျိုးမျိုး ဝိဝါဒကွဲလွဲနေကြသည်။

သူ့ဘဝတစ်လျှောက်လုံးပင် စီးပွားရှာသော အလုပ်ကို နှစ်မြှုပ်လုပ်ကိုင်ခဲ့သည် ဟုဆိုသည်။ သို့သော် တစ်ဘက်၌ သူက စီးပွားရေးရာကို ပညာရပ်တစ်ခုသဖွယ် စိတ်ဝင်စားခဲ့ပြီး စီးပွားရေးယန္တရားအတွင်း အသီးသီးသော အစိတ်အပိုင်းတို့ တစ်ခုနှင့်တစ်ခု ဆက်စပ်ပတ်သက်ပုံ၊ အပြန်အလှန် သက်ရောက်ကြပုံများကို စူးစမ်းလေ့လာ၍ စာတစ်စောင် တစ်ဖွဲ့ ရေးသားပြုစုခဲ့သည်။ ထို့ပြင် ငွေကြေးဆိုင်ရာနှင့်စပ်လျဉ်း၍ တောင်တွေ့ရှိ ပြောဆိုခဲ့သည်များ ရှိသကဲ့သို့ စီးပွားရေးစနစ်အတွင်း စွန့်ဦးတီထွင်လုပ်ငန်းရှင် (entrepreneur) တို့၏ အခန်းကဏ္ဍ အရေးပါပုံ အကြောင်းကိုလည်း သူပင် ဦးစွာပထမ ရှင်းလင်းတင်ပြခဲ့သည်။

ယင်းဆောင်ရွက်ချက်များကြောင့် သူ့အား စီးပွားရေးပညာသုတေသီတို့က ပထမဆုံး စီးပွားရေးရာစာတမ်းစစ်စစ် ရေးသားသူ (သို့မဟုတ်) ကနဦး စီးပွားရေးပညာရှင်စစ်စစ်ဟူ၍ မှတ်တမ်းတင် ပြောဆိုလေ့ရှိခဲ့ကြပါသည်။

❖

ကင်တေးလွန်ကို အိုင်ယာလန်ပြည် အနောက်မြောက်ပိုင်းရှိ ဘယ်လီရိုနန်မြို့ကလေးတွင် ကက်သလစ်ဘာသာဝင် မိဘများမှ မွေးဖွားသည်။ မွေးဖွားသည့် ခုနှစ်ကို အတိအကျ မသိရ။ ၁၆၈၀ နှင့် ၁၆၉၀ ခုနှစ်များ ကြားလောက်တွင် ဖြစ်လိမ့်မည် ဟူ၍သာ ခန့်မှန်းနိုင်ကြသည်။ သူ့အတ္ထုပ္ပတ္တိပြုစုသူတစ်ဦးကမူ ၁၇၀၈ ခုနှစ်တွင် ကင်တေးလွန် ပြင်သစ်နိုင်ငံသားအဖြစ် ခံယူခဲ့သည့် အချက်ကို အခြေခံကာ ထိုနှစ်တွင် သူ အသက် ၂၁ နှစ် ပြည့်ခြင်း ဖြစ်လိမ့်မည်။ သို့ဆိုလျှင် သူ့မွေးဖွားသည့်နှစ်မှာ ၁၆၈၇ ခုနှစ် ဖြစ်နိုင်မည်ဟူ၍ ခန့်မှန်းခဲ့သည်။

ကလေးဘဝ သူ ကြီးပြင်းခဲ့ပုံအကြောင်းနှင့် အိုင်ယာလန်မှ မည်သည့်ကာလတွင် မည်သည့်အကြောင်းကြောင့် ထွက်ခွာခဲ့သည် ဆိုသည်များကို ရေရေရာရာ မသိရ။

၁၇၁၁ ခုနှစ်မှ ၁၇၁၃ ခုနှစ်အထိ ကာလအတွင်း သူသည် စပိန်ပြည်တွင် စစ်ပွဲဆင်နွှဲနေသည့် ဗြိတိသျှတပ်များအတွက် လခရိက္ခာ ထောက်ပံ့ရေးတာဝန် ယူထားရသည့် ဗြိတိသျှအရာရှိကြီး၏ စာရေးအဖြစ် ဆောင်ရွက်နေခဲ့ကြောင်း သိရှိရသည်။

၁၇၁၆ တွင်မူ ပြင်သစ်ပြည်သို့ သွားရောက်ကာ သူ့ညီအစ်ကိုတော် တစ်ဦး၏ ဘဏ်ကို လွှဲပြောင်းတာဝန်ယူရသည်။

၁၇၂၀ ခုနှစ်တွင် ကင်တေးလွန်သည် စကော့လူမျိုး စီးပွားရေး စွန့်စားသူ ဂျွန်လော (John Law) ၏ မစ္စစ္စပီစီမံကိန်းကို အကြောင်းပြုကာ ငွေကြေး အမြောက်အမြား ရရှိခဲ့သည်။ ဂျွန်လော၏ အစီအစဉ်မှာ အမေရိကန်ပြည် မစ္စစ္စပီမြစ်ဝှမ်းဒေသတွင် အလျှံပယ်ရှိနေသည်ဟု ယူဆ



ရသည့် ရွှေနှင့်ငွေသတ္တုများကို တူးဖော်ရယူရေးဖြစ်ရာ ယင်းအတွက် ငွေအရင်းအနှီး ရရှိရန် အစုရှယ်ယာများ ရောင်းချလေသည်။ သည်တွင် ကင်တေးလွန်က မစ္စစ္စပီစတော့ရှယ်ယာများတွင် ဈေးကစား အရောင်းအဝယ်ပြုလိုသော သူများအား ငွေထုတ်ချေးသည်။ သို့သော် ပြင်သစ်ပြည်တွင် ငွေတိုးကြီးစားမှုကို တားမြစ်သည့် ဥပဒေ (usury law) များ ရှိနေရာ ယင်းတို့ကို တိမ်းရှောင်နိုင်ရန်အတွက် ကင်တေးလွန်က ငွေချေးသည့် အလုပ်ကို နိုင်ငံခြားငွေဖလှယ်သည့် ပုံစံမျိုးဖြင့် လုပ်ကိုင်သည်။ ဥပမာ သူက ပြင်သစ်ငွေပေးလိုက်ပြီး တစ်ဘက်လူက သူ့အား အင်္ဂလိပ်ငွေ၊ စပိန်ငွေ စသည့် အခြားငွေတစ်ခုခုဖြင့် ပြန်ချေစေကာ အလဲအလှယ်နှုန်းတို့မှ သူ့ဘက်က အတိုးတွက်ကိုက်အောင် ချိန်ဆသတ်မှတ်ထားခြင်းမျိုး ဖြစ်သည်။

သည်လို အကြံအဖန်တွေ အလုည့်အပတ်တွေ များသည့်အခါ အရှုပ်အရှင်းတွေ ဖြစ်လာပြီး၊ အမှုအခင်း တရားတဘောင်တွေ ရင်ဆိုင်လာရသည်။ ကြာတော့ သည်ပြဿနာတွေကို သူ သည်းမခံနိုင် ဖြစ်လာသည်။ သူ့မှာ ငွေချေးလုပ်ငန်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများမှ ရရှိခဲ့သည့် နေ့ဥစ္စာတွေလည်း မြောက်မြားစွာ ရှိနေပြီဖြစ်ရာ သည်ဟာတွေဖြင့် အေးအေးဆေးဆေး ချမ်းချမ်းသာသာ နေထိုင်တော့မည် ဟုဆုံးဖြတ်ကာ အင်္ဂလန်သို့ သူ ပြန်လာသည်။

သည်တွင် ကင်တေးလွန်နှင့် စပ်လျဉ်း၍ အကြီးအကျယ် သံသယ ပွားစရာ ကိစ္စတစ်ရပ် ဖြစ်ပေါ်သည်။

ယင်းက သူ အင်္ဂလန်သို့ ပြန်ရောက်ပြီး များမကြာမီ ၁၇၃၄ ခုနှစ် မေလ ၁၄ ရက်နေ့ညဘက်တွင်၊ လန်ဒန်မြို့ အယ်လဘာမားလ်လမ်းရှိ သူ၏ နေအိမ်ကို မီးလောင်ခြင်း ဖြစ်သည်။ မီးလောင်ပြီးနောက် ကင်တေးလွန် သေဆုံး၊ သို့မဟုတ် ပျောက်ဆုံးသွားသည်။ မီးက မတော်တဆမီးလိုလို၊ လူစုံတစ်ယောက်က ကင်တေးလွန်အား သတ်ဖြတ်ပြီးနောက် သဲလွန်စ မကျန်အောင် အိမ်ကို မီးရှို့သွားသလိုလို အမျိုးမျိုး ပြောကြသည်။ မီးလောင်သည့်အချိန် အိမ်မှာ ကင်တေးလွန် မရှိဟု ဆိုသူကလည်း ဆိုသည်။

ကင်တေးလွန်သည် မရှင်းလင်းမပြီးပြတ်သေးသည့် ငွေကြေးအမှုအခင်းများကို ရှောင်တိမ်းနိုင်ရန်အတွက် သူသေသွားပြီဟု တမင်တကာ လုပ်ကြံဖန်တီးခြင်းဖြစ်ကြောင်း တချို့က စွပ်စွဲကြသည်။ ကင်တေးလွန်သည် မီးလောင်မှု မဖြစ်မီနေ့က ဘဏ်မှ ပေါင်ငွေ ၁၀၀၀၀ (ထိုခေတ်အဖို့ များပြားလှသည့် ငွေပမာဏ) ကို ထုတ်သွားခဲ့ကြောင်း၊ အိမ်နီးချင်းတစ်ဦးကလည်း အိမ်နှင့်အတူ မီးလောင်ကျွမ်းသွားသည့် ကင်တေးလွန်၏ ရုပ်အလောင်းဆိုသော အရာတွင် ဦးခေါင်းပိုင်းကို မတွေ့ရှိရဟု ပြောဆိုကြောင်း၊ ထို့ပြင် နောက်နှစ်ပေါင်းအတော်ကြာပြီးသည့် နောက်၌ တောင်အမေရိကရှိ ထိုစဉ်က ဒတ်(ချ)ပိုင် ဆူရီနမ်နယ်တွင် ကင်တေးလွန်၏ စာရွက်စာတမ်းများ တွေ့ရှိရကြောင်း၊ စသဖြင့် စွပ်စွဲသူတို့က အထောက်အထားပြ ပြောဆိုကြသည်။

❖

သူ့ဘဝဇာတ်လမ်း ရှုပ်ထွေးသော်လည်း စီးပွားရေးအကြောင်းရပ်နှင့်စပ်လျဉ်း၍မူ ရှင်းရှင်းလင်းလင်း စနစ်တကျ သူရေးသားသွားနိုင်ခဲ့သည်။

စီးပွားရေးပညာဆိုင်ရာ ကင်တေးလွန်၏ ရေးသားချက်များအနက် ယနေ့တွေ့ရှိရသည်က Essay on the Naturc of Commercc (ကူးသန်းရောင်းဝယ်ရေး၏ သဘောသဘာဝများအကြောင်း စာတမ်း) အမည်ရှိ ကျမ်းတစ်အုပ်သာ ဖြစ်သည်။ စာတမ်းမှာ မူလက ပြင်သစ်ဘာသာနှင့် ရေးသားထားခြင်းဖြစ်၍ သူကွယ်လွန်ပြီး၊ သို့မဟုတ် လန်ဒန်နေအိမ် မီးလောင်ပြီး နှစ်ပေါင်း ၂၀ လောက်အကြာ ၁၇၅၅ ခုနှစ်တွင် ပုံနှိပ် ထုတ်ဝေခဲ့ကြသည်။ ၎င်းစာအုပ်၌ စာကိုယ်အစအဆုံး ပါဝင်သော်လည်း စာကိုယ်ထဲတွင် ညွှန်းထားသည့် နောက်ဆက်တွဲ စာရင်းဇယားများမှာ စာအုပ်စီစဉ်သူတို့ ရှာမရသဖြင့် မထည့်သွင်းနိုင်ခဲ့ဟုဆိုသည်။

ဤကျမ်းအပြင် ကင်တေးလွန် ရေးသားသည့် အခြားစာများ ရှိသေးသည်ဟု ဆိုကြသော်လည်း ၎င်းတို့ကို လုံးဝ မတွေ့ရှိကြရတော့ပေ



'ကူးသန်းရောင်းဝယ်ရေး၏ သဘောသဘာဝများအကြောင်း စာတမ်း' မှာ နိုင်ငံ့စီးပွားရေးယန္တရားတစ်ခု လှုပ်ရှားလည်ပတ်ပုံအကြောင်းနှင့် ယင်းအပေါ် လွှမ်းမိုးသည့် အခြေခံတရားများအကြောင်း ရှင်းလင်းဖော်ပြထားခြင်း ဖြစ်သည်။

စာအုပ်၌ အပိုင်း (၃) ပိုင်း ပါရှိသည်။ ပထမပိုင်း၌ စီးပွားရေးဆိုင်ရာ အရှိပကတိသဘောများဖြစ်သည့် ကုန်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ယင်းအတွက် လူများကို ငှားရမ်းသုံးစွဲခြင်း စသည်တို့ဆိုင်ရာ အခြေခံတရားများကို ဖော်ပြသည်။ ဒုတိယပိုင်း၌ ငွေကြေးစနစ်၏ သဘောသဘာဝကို ထုတ်ဖော်ကာ ငွေကြေးနှင့် စီးပွားရေးအဆောက်အအုံတို့ ဆက်စပ်ပတ်သက်ပုံကို ရှင်းပြသည်။ တတိယပိုင်း၌မူ နိုင်ငံတကာကုန်သွယ်ရေးနှင့် နိုင်ငံခြားငွေလဲလှယ်ရေးကိစ္စများအကြောင်း သူ တင်ပြသည်။

အပိုင်း (၁) ၌ စီးပွားရေးတစ်ရပ်ဟူသည် အစိတ်အပိုင်းတစ်ခုနှင့် တစ်ခု ချိတ်တွယ်ဆက်စပ်နေသည့် ယန္တရားစနစ်တစ်ခုဖြစ်ကြောင်း၊ စီးပွားရေး အဆောက်အအုံအတွင်း ငွေနှင့်ကုန်ပစ္စည်းတို့သည် စက်ဝိုင်းပတ်သဖွယ် လှည့်လည်စီးဆင်းလျက်ရှိကြောင်း ဖော်ပြထားပြီး၊ အစိတ်အပိုင်းတစ်ခုနှင့် တစ်ခု အပြန်အလှန် တုံ့ပြန်ဖန်တီးပုံသဘောကိုလည်း ရှင်းလင်းပြသသည်။

ကင်တေးလွန်က ကုန်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းဝယ်လှယ်ခြင်း စက်ဝိုင်းပတ်ယန္တရားကို ရှင်းလင်းစွာ သိမြင်နိုင်ရန်အတွက် မြေပိုင်ရှင်တို့ ငွေကြေးသုံးစွဲခြင်းမှ စတင်လည်ပတ်ပြသည်။

ဦးစွာပထမ၊ အိတ်ထဲတွင် ငွေရှိနေသော မြေပိုင်ရှင် (landowner) တို့က ငွေကြေးကို ထုတ်၍သုံးစွဲသည့်အခါ ယင်းငွေသည် မြို့ကြီးမြို့ငယ်များရှိ ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချသူ (manufacturer) များထံသို့ ရောက်သည်၊ ကျေးလက်တောရွာများရှိ စိုက်ပျိုးရေးလုပ်သားများ ထံသို့လည်း ရောက်သည်။ မြေပိုင်ရှင်၏ ငွေက မြို့ပြနှင့် ကျေးလက်တွင် အလုပ်အကိုင်များ ဖြစ်ပေါ်စေပြီး ယင်းမှ ဝင်ငွေများ ရရှိစေသည်။ ဝင်ငွေရရှိသည့် မြို့ပြကုန်ပစ္စည်းလုပ်သားနှင့် ကျေးလက်စိုက်ပျိုးရေးလုပ်သားတို့သည် သုံးစွဲရန်အလို့ငှာ စက်ရုံအလုပ်ရုံထွက် ပစ္စည်းများကို တတ်နိုင်

သရွေ့ ဝယ်ယူကြမည်၊ စားသုံးရန်အလို့ငှာလည်း လယ်ယာထွက်ကုန်ပစ္စည်းများကို မဝယ်မဖြစ် ဝယ်ယူကြမည်။ ထိုအခါ လယ်ယာနှင့် စက်မှုလက်မှုတည်းဟူသော စီးပွားရေးနယ်ပယ်နှစ်ရပ်လုံးတွင် အလုပ်အကိုင်များဝင်ငွေများ ဖြစ်ပေါ်စေမည်။ သို့သော် ယင်းကုန်ပစ္စည်းနှစ်မျိုးအနက် စိုက်ပျိုးရေးထုတ်ကုန်သည် ပို၍အခြေခံကျသော၊ မရှိမဖြစ်သောအရာဖြစ်ရာ စက်ရုံအလုပ်ရုံဘက်သို့ ဝင်သွားသော ငွေကြေးအများအပြားသည်လည်း လယ်ယာဘက်သို့ ရွေ့ပြောင်းရောက်ရှိဦးမည် ဖြစ်သည်။ တစ်ဖန် လယ်ယာလုပ်သားများသည် အချိန်တန်သော် မြေပိုင်ရှင်အားသူ့မြေယာ၌ ထွန်ယက်စိုက်ပျိုးရခြင်းအတွက် အဖိုးအခများကို ပေးကြရမြဲဖြစ်ရာ ငွေကြေးသည် မြေပိုင်ရှင်၏ အိတ်ထဲသို့ပြန်လည်ရောက်ရှိလာပြီး၊ နောက်တစ်ဖန် သုံးစွဲမှု–ထုတ်လုပ်မှု ယန္တရား လည်ပတ်ရန်အတွက် အသင့်ဖြစ်ပြန်လေသည်။

ကင်တေးလွန်က ယင်းသို့ ဖော်ပြခဲ့ပြီးနောက် အလုပ်အကိုင်အသီးသီးတို့၏ ထုတ်လုပ်မှုပမာဏ အနည်းအများသည် ယင်းတို့မှထုတ်လုပ်သည့် ကုန်ပစ္စည်းအသီးသီးအပေါ် တောင်းဆိုမှု (ဝယ်လိုအား)မည်မျှရှိသနည်း ဟူသည့်အချက်ပေါ်တွင် မူတည်ကြောင်း ဆက်၍ ဆိုပြန်သည်။ ဥပမာ၊ အကယ်၍ မြေပိုင်ရှင်တို့က စားသုံးကုန်ပစ္စည်းထက် စက်ရုံအလုပ်ရုံထုတ် ကုန်ပစ္စည်းများကို အများအပြား ပို၍ တောင်းဆိုသုံးစွဲလာသည် ဆိုပါစို့။ လူအင်အားနှင့် ငွေကြေးအရင်းအနှီးများသည် လယ်ယာကဏ္ဍမှ စက်မှုလက်မှုကဏ္ဍသို့ ရွေ့ပြောင်းကြမည် ဖြစ်သည်။ သည်အခါစက်ရုံအလုပ်ရုံထုတ် ပစ္စည်းတွေ များများထွက်ပြီး လယ်ယာထုတ်ကုန်တွေအတွက် နည်းလာမည်။ ယခုခေတ် ဥပမာတစ်ခုနှင့် ပြရသော်၊ စားသုံးသူသို့မဟုတ် လူငယ်အများစုက ရိုးရိုး သားရေရှူးဖိနပ်တွေအစား ဝေါ့ကင်းရှူးတွေ တောင်းဆိုလာသည့်အခါ သမားရိုးကျ သားရေရှူးဖိနပ်သမားတွေအလုပ်အကိုင် ကျဆင်းလာကြမည်၊ သည်အထဲမှ တချို့က စီးပွားပျက်သွားကြမည်၊ တချို့က ရိုးရိုးရှူးဖိနပ်လုပ်ငန်းကို ရပ်သိမ်းကာ ဝေါ့ကင်းရှူးတွေ ပြောင်းလဲထုတ်လုပ် လာကြလိမ့်မည်၊ ဟူသောသဘော ဖြစ်ပါသည်။



လူနှင့် ငွေအရင်းအနှီးတို့သည် လုပ်ငန်းတစ်ခုမှ တစ်ခုသို့ရွေ့ပြောင်းခြင်းများ ဖြစ်သကဲ့သို့၊ နေရာဒေသတစ်ခုမှ အခြားနေရာဒေသတစ်ခုသို့ ရွေ့ပြောင်းခြင်းများလည်း ဖြစ်တတ်သည်။ ဥပမာ၊ မြို့ပြတွင်စက်မှုလက်မှု လုပ်ငန်းများအတွက် လုပ်သားများ တိုးတက်လိုအပ်နေပြီး၊ ကျေးလက်၌ လယ်ယာကဏ္ဍအတွက် လုပ်သားလိုအပ်ချက် မတိုးတက်သည့်အခါ ကျေးလက်မှ လုပ်သားများ မြို့ပြသို့ ရွေ့ပြောင်းလာခြင်းမျိုးဖြစ်သည်။

ကင်တေးလွန်က ကုန်ထုတ်လုပ်မှုဆိုင်ရာ စက်ဝိုင်းပတ်ဖြစ်စဉ်အတွင်း စီးပွားရေးစွန့်စားဆောင်ရွက်သူ (စွန့်ဦးတီထွင်လုပ်ငန်းရှင်) (entreprencur) တို့၏ အခန်းကဏ္ဍကိုလည်း ခွဲခြမ်းစိတ်စစ်ပြောဆိုသည်။ entrepreneur ဟူသောစကားကို ရှေးခေတ်နှင့် အလယ်ခေတ်ကာလများဆီကပင် သုံးစွဲခဲ့ကြသည်။ ထိုစဉ်က အဓိပ္ပာယ်မှာ အလုပ်အကိုင်များပြီးစီးအောင် ဆောင်ရွက်ပေးသူဟူ၍ ဖြစ်သည်။ ၁၈ ရာစု စောစောပိုင်းလောက်တွင်မှ အွန်ထရာပရင်နာဆိုသည်မှာ လုပ်ငန်းကန်ထရိုက်တာကိုခေါ်သည့်အမည် ဖြစ်လာသည်။ ၎င်းပုဂ္ဂိုလ်များမှာ အဓိကအားဖြင့် အစိုးရ၏ အလုပ်များကို ကန်ထရိုက် ရကြခြင်းဖြစ်ရာ စီးပွားရေးအရ စွန့်စားဆောင်ရွက်ရသည့် သဘောမျိုး မရှိခဲ့။ ကင်တေးလွန်က လခစားဆန်သောအဆိုပါ အစိုးရကန်ထရိုက်တာများအတွက် သုံးစွဲသောအမည်ကို အကျိုးအမြတ် မသေချာသော စီးပွားရေးလုပ်ငန်းများတွင် စွန့်စားရင်းနှီးမြှုပ်နှံကြသည့် ပုဂ္ဂိုလ်များသို့ ပြောင်းလဲသုံးစွဲခဲ့ခြင်း ဖြစ်သည်။

ကင်တေးလွန် အမြင်၌ အနာဂတ်ဟူသည် သေချာပေါက်ပြောနိုင်ရိုးထုံးစံ မရှိရာ စီးပွားရေးရင်းနှီးမြှုပ်နှံမှု မှန်သမျှသည် အနည်းနှင့်အများ စွန့်စားရသော အရာများချည်း ဖြစ်သည်။ သို့သော် နောင်ရရှိမည့်အကျိုးအမြတ်အတွက် လောလောဆယ် ငွေကြေးစိုက်ထုတ်မြှုပ်နှံမည့်သူများလည်း ရှိဦးမှ ဖြစ်မည်။ သို့မဟုတ်လျှင် ကုန်ထုတ်လုပ်မှု (လုပ်ငန်း)ဟူသည်လည်း ရှိမည်မဟုတ်။ ကုန်ထုတ်လုပ်မှု မရှိလျှင် ရောင်းဝယ်ဖောက်ကားမှု မရှိ၊ စားသုံးမှု မရှိ၊ အလုပ်အကိုင် မရှိ၊ ဝင်ငွေ မရှိ၊ စားသုံး

နိုင်စွမ်း မရှိ၊ ရင်းနှီးမြှုပ်နှံနိုင်စွမ်းလည်း မရှိ၊ စသည်ဖြင့် ဖြစ်လိမ့်မည်။ ထို့ကြောင့် ကုန်ထုတ်လုပ်မှုဆိုင်ရာ စက်ဝိုင်းပတ်ဖြစ်စဉ် လည်ပတ်တည်ရှိနေရေး၊ သို့မဟုတ် စီးပွားရေး လှုပ်ရှားရှင်သန်နေရေးတွင် စီးပွားရေးစွန့်စားဆောင်ရွက်သူများသည် မရှိမဖြစ်ပုဂ္ဂိုလ်များ ဖြစ်သည်၊ ဟူ၍ သူဆိုခဲ့သည်။

❖

စာအုပ် အပိုင်း (၂) တွင်မူ၊ အဆိုပါ ကုန်ထုတ်လုပ်မှုဖြစ်စဉ်အတွင်း ငွေကြေး၏ အခန်းကဏ္ဍအကြောင်းကို ဖော်ပြသည်။

ယင်းသို့၊ နိုင်ငံ့စီးပွားရေးတွင် ငွေကြေး၏ သက်ရောက်ပုံအကြောင်း ရှင်းလင်းတင်ပြခဲ့ခြင်းအတွက် ကင်တေးလွန်အား ငွေကြေးဆိုင်ရာသီအိုရီကို စတင်ပုံဖော်ခဲ့သူအဖြစ် အသိအမှတ်ပြုကြသည်။

၁၈ ရာစုနှစ်တွင် ငွေကြေး (money) ဟူသည် ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများ ဖြစ်သည်။ တိုင်းပြည်၌ ငွေကြေးရရှိအောင် ဖန်တီးနိုင်သည့် နည်းလမ်းနှစ်ရပ်ရှိရာ ယင်းတို့မှာ၊ (၁) ရွှေသတ္တုတွင်း ငွေသတ္တုတွင်းများ တူးဖော်သောနည်းနှင့်၊ (၂) တိုင်းတစ်ပါးသို့ ကုန်စည် ပို့ဆောင်ရောင်းချသောနည်းများ ဖြစ်သည်။ သတ္တုတူးဖော်သူများနှင့် ကုန်သွယ်ရေးသမားများ၌ ငွေကြေးများများ ရရှိလာသည့်အခါ ကုန်ပစ္စည်းတွေ တိုးတက် သုံးစွဲ ဝယ်ယူလာသည်။ ဝန်ဆောင်မှုအလုပ်တွေ တိုးတက် ခိုင်းစေ သုံးစွဲလာသည်။ ထိုအခါ စက်မှုလက်မှုနှင့် ဝန်ဆောင်မှုအလုပ်များ ဖွံ့ဖြိုး၍ အလုပ်အကိုင်များ တိုးပွားလာမည်။ ယင်းကဏ္ဍများ၌ ထုတ်လုပ်မှုများလည်း တိုးတက်လာမည်။

ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများအတွက် ဝယ်လိုအား ပိုမိုလာသည့်အခါ ယင်းတို့၏ ဈေးနှုန်းများလည်း တိုးမြင့်လာစရာရှိသည်။ သို့သော် စီးပွားရေးထဲသို့ ငွေကြေးများ ဝင်ရောက်လာတိုင်း ယင်းနှင့်အချိုးညီစွာ ဈေးနှုန်းများ တိုးမြင့်လာလိမ့်မည် ဟူ၍ကား တစ်သမတ်တည်းယူဆ၍ မရ။ အကြောင်းမူ ဈေးနှုန်းတွေ တက်လာသည့်အခါ ထုတ်လုပ်သူ



တို့က အကျိုးအမြတ်ကိုမျှော်ကာ တိုးတက်ထုတ်လုပ်လာသဖြင့် ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများ တိုးပွားများပြားလာကာ ဈေးနှုန်းကို ပြန်ထိန်းသလိုဖြစ်သွားနိုင်သောကြောင့် ဖြစ်သည်။ ထို့ပြင် နောက်တစ်ချက်က အသစ်ဝင်လာသည့် ငွေကြေးတိုင်းလည်း ဝယ်ယူသုံးစွဲသည့်ဘက်သို့ မရောက်ခြင်းဖြစ်သည်။

ယင်းသို့ ငွေကြေး၏ တိတိကျကျ မခန့်မှန်းနိုင်သည့် သက်ရောက်မှုသဘောကို ယနေ့ခေတ် စီးပွားရေးပညာရှင်တို့က ကင်တေးလွန်အာနိသင် (Cantillon Effect) ဟူ၍ ခေါ်ဝေါ်ကြပါသည်။

အသစ်ဝင်လာသော ငွေကြေးကြောင့် မည်သို့ သက်ရောက်မှုရှိမည်ကို တိတိကျကျ မပြောနိုင်ရသည့် အကြောင်းမှာ၊ ထိုငွေကြေးသည် မည်သူတို့လက်ထဲ ရောက်ရှိပြီး၊ ၎င်းတို့က ထိုငွေကြေးဖြင့် ဘာတွေလုပ်ကြသနည်း ဟူသော အချက်များပေါ်တွင် မူတည်၍ သက်ရောက်မှု အမျိုးမျိုးပေါ်ပေါက်နိုင်ခြင်းကြောင့် ဖြစ်၏။ အကယ်၍ ငွေကြေးအများစုသည် ကုန်သည်များ၊ ပြည်ပသို့ ကုန်ပစ္စည်းတင်ပို့ရောင်းချသူများထံ ရောက်ရှိမည်ဆိုက စုဆောင်းသည့်ဘက်၊ ရင်းနှီးမြှုပ်နှံသည့်ဘက်တို့တွင် ငွေပမာဏတိုးတက်များပြားလာမည်။ ထိုအခါ ကုန်ထုတ်လုပ်မှု တိုးတက်သဖြင့် ထုတ်ကုန် ပေါများကာ ဈေးနှုန်းများ မတက်နိုင်ဘဲ ရှိလိမ့်မည်။ အကယ်၍ ငွေသည် လုပ်ငန်းရင်းနှီးမြှုပ်နှံမှုထက် ကိုယ်ပိုင်သုံးစွဲမှုဘက်တွင် ပိုအားသန်သည့် မြေပိုင်ရှင်များထံသို့ အဓိကရောက်ရှိမည်ဆိုက ၎င်းတို့ ဖောဖောသီသီ ဝယ်ယူကြခြင်းကြောင့် ကုန်ပစ္စည်းများ ဈေးတက်မည်၊ အထူးသဖြင့် ဇိမ်ခံပစ္စည်းဈေးနှုန်းများ သိသိသာသာ တက်လာကြမည် ဖြစ်သည်။

တစ်ဖန်၊ တိုင်းပြည်တွင်းသို့ ငွေကြေးသစ်များ ဝင်ရောက်သဖြင့် ပေါများကြွယ်ဝသလို ဖြစ်လာမှုသည် အနေအထားတစ်ခု ရောက်သောအခါ ရပ်တန့်သွားနိုင်ကြောင်းလည်း ကင်တေးလွန်က စဉ်းစားသုံးသပ်ခဲ့သည်။ ယင်းမှာ အဓိကအားဖြင့် နိုင်ငံတကာ ကုန်သွယ်ရေးပေါ်တွင် ငွေကြေး၏ သက်ရောက်မှုကြောင့် ဖြစ်ပေါ်ကြောင်း သူက ရှင်းပြသည်။

ကုန်ပစ္စည်းများ ဈေးနှုန်းတက်သည့်အခါ ပြည်ပဈေးကွက်တွင် ဈေးနှုန်းအရ မယှဉ်ပြိုင်နိုင်သဖြင့် ပို့ကုန်ကျဆင်းလာမည်။ တစ်ဖန် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများက ဈေးနှုန်းချိုသာသဖြင့် လူအများ ဝယ်ယူသုံးစွဲလာကြသည့်အခါ သွင်းကုန်ပမာဏ တိုးပွားလာမည်။ ပြည်ပ ကုန်သွယ်ရေးတွင် အရောင်းထက် အဝယ်က များသည့်အခါ ငွေကြေး (ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးတွေ) အဝင်ထက် အထွက်က များသဖြင့် ပြည်တွင်း ငွေကြေးပမာဏ လျော့ပါးလာမည်။ ထိုအခါ ရင်းနှီးမြှုပ်နှံမှုလည်း လျော့ကာ ကုန်ထုတ်လုပ်မှု နှေးကွေးကျဆင်းလာမည်၊ စသဖြင့် ကင်တေးလွန်က သုံးသပ်ပြောဆိုခဲ့သည်။

ကင်တေးလွန်၏ ယင်းသုံးသပ်တွေ့ရှိချက်ကို ဒင်္ဂါးငွေစီးဆင်းမှုဖြစ်စဉ် (specie flow mechanism) ဟူ၍ ခေါ်ဆိုကြပါသည်။

❖

အပိုင်း (၃) ၌ ကုန်သွယ်ရေးဆိုင်ရာ မူဝါဒ (trade policy) များအကြောင်း ဆွေးနွေးထားပါသည်။

ကုန်သွယ်ရေးနှင့်ပတ်သက်လျှင် ကင်တေးလွန်က တောမတ်(စ)မန်း အစရှိသည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီ (mercantilist) များ၏ အယူအဆကို ထောက်ခံသည့်သဘော ရှိပါသည်။ ပြည်ပမှ ဝင်လာမည့် ကုန်ပစ္စည်းများကို အခွန်အတုတ် တိုးမြှင့်ကောက်ခံခြင်းဖြင့် ဈေးနှုန်း ကြီးမြင့်စေကာ ပြည်တွင်းဖြစ် ကုန်ပစ္စည်းအား (ဈေးနှုန်းအရ) မယှဉ်နိုင်အောင် အကာအကွယ်ပေးရေး၊ ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချသော လုပ်ငန်းများကို အားပေးမြှင့်တင်ခြင်းဖြင့် ပြည်ပကုန်သွယ်ရေးတွင် မိမိတိုင်းပြည်က ပိုငွေပြအောင် ဆောင်ရွက်ရေးတို့ကို သူ လိုလားလက်ခံခဲ့သည်။

ကုန်သွယ်ရေးတွင် ထိန်းချုပ်ကွပ်ကဲမှုပြုရေးကို သူ ထောက်ခံသည်မှာ အဓိကအားဖြင့် စီးပွားရေးရာသက်သက်ကြောင့် မဟုတ်။ စစ်ရေးသို့မဟုတ် နိုင်ငံလုံခြုံရေး ရှုထောင့်မှကြည့်၍ ထောက်ခံခြင်း ဖြစ်၏။



ကုန်သွယ်ရေးထိန်းချုပ်မှုပေါ်လစီကို လိုက်နာကျင့်သုံးခြင်းဖြင့် တိုင်းပြည် (ဗြိတိန်ပြည်) ၌ လူဦးရေ တိုးပွားလာမည်ဟု သူမြင်၏။ ကုန်ပစ္စည်းတွေ တိုးတက်ထုတ်လုပ်ရောင်းချခြင်းဖြင့် ကုန်သွယ်ရေး ပိုငွေပြသော် စားနပ်ရိက္ခာ တိုးတက်ဝယ်ယူတင်သွင်းနိုင်မည်။ စားနပ်ရိက္ခာ တိုးပွားလာကာ ယခုထက် လူဦးရေများများကို ကျွေးမွေးထားနိုင်သည်။ သည်အခါ ဗြိတိန်သည် လူအင်အားများပြားသည့် တောင့်တင်းခိုင်မာသော နိုင်ငံတစ်ခု ဖြစ်လာမည်၊ စသဖြင့် သူ သုံးသပ်ပြခဲ့သည်။

❖

စီးပွားရေးပညာနယ်ပယ်၌ ကင်တေးလွန်အား သူ့နောက်တွင် ပေါ်ပေါက်ထင်ရှားလာမည့် ဖရန်ဆွာကင်နေး (François Quesnay) ဦးဆောင်သည့် မြေအဓိကစီးပွားရေးဝါဒီ (Physiocrat) များအပေါ် ဩဇာလွှမ်းမိုးခဲ့သူ အဖြစ်လည်းကောင်း၊ အစဉ်အလာ ငွေကြေးသီအိုရီကို စတင်ဖော်ဆောင်ခဲ့သူ ဟူ၍လည်းကောင်း အသိအမှတ်ပြုလေ့ရှိကြပါသည်။

သို့သော် စီးပွားရေးပညာ သမိုင်းရှုထောင့်မှ ကြည့်လျှင်မူ ကင်တေးလွန်အား ယင်းထက်ပို၍ အလေးဂရုပြုစရာ ရှိပါသည်။

သူ၏ Essay on the Nature of Commerce စာတမ်းသည် ပထမဆုံး ပေါ်ပေါက်သည့် စီးပွားရေးရာစာတမ်းစစ်စစ် ဖြစ်သည်။ ထို့ကြောင့် ထိုစာတမ်းကို ရေးသားပြုစုသူ ကင်တေးလွန်သည်လည်း ပထမဆုံးပေါ်ပေါက်သည့် စီးပွားရေးပညာရှင်စစ်စစ်ဟူ၍ ဆိုကြရမည် ဖြစ်ပါသည်။

# ဖရွန်ဆွာကင်နေး
## (၁၆၉၄ - ၁၇၇၄)



ဖရွန်ဆွာကင်နေး (François Quesnay) က စီးပွားရေးပုံကားချပ် (Tableau Économique သို့မဟုတ် Economic Picture) ဟုခေါ်သည့် စီးပွားရေးဆိုင်ရာ အဦးဆုံးပုံစံ (model) တစ်ခုကို တည်ဆောက်ပြခဲ့သူ အဖြစ်လည်းကောင်း၊ ပထမဆုံး စီးပွားရေးအတွေးအမြင်ဂိုဏ်း ဟုဆိုအပ်သည့် မြေအဓိကစီးပွားရေးဝါဒီ (Physiocrat) အုပ်စု၏ ဦးဆောင်ပုဂ္ဂိုလ် အဖြစ်လည်းကောင်း သိမှတ်ခြင်း ခံရသူ ဖြစ်သည်။ ထို့ပြင်၊ လွတ်လပ်စွာ စီးပွားရှာခွင့် (laissez-faire) ဆိုင်ရာ သူ၏ တင်ပြချက်များ၊ စီးပွားရေး အပိုထွက် (economic surplus) ဖြစ်ပေါ်ထွက်ရှိပုံနှင့် ယင်းအား ဖြန့်ဝေပုံတို့အကြောင်း ခွဲခြမ်းစိတ်ဖြာပြချက်များ၊ စီးပွားရေး အဆောက်အအုံတစ်ခုဟူသည် တစ်ခုနှင့်တစ်ခု ဆက်စပ်မှီတွဲနေသည့် အစိတ်အပိုင်းတို့ ကျစ်လျစ်စွာ ပေါင်းဖွဲ့လှုပ်ရှားနေသည့် အရာတစ်ခုဖြစ်ကြောင်း သူ၏ ရှုမြင်သုံးသပ်ပြချက်များ၊ စသည်တို့အတွက်လည်း သူ့အား လေးစားသိမှတ်ကြပါသည်။

❖

ကင်နေးကို ၁၆၉၄ ခုနှစ်တွင် ပြင်သစ်ပြည် ပါရီမြို့ အနောက်တောင်ဘက် ဗာဆိုင်းနန်းတော်မြို့၏ အနောက်ဘက် ၁၅ မိုင်ခန့်အကွာရှိ မီရေရွာကလေးတွင် မွေးဖွားသည်။ ဖခင်မှာ လယ်သမားတစ်ယောက်ဖြစ်၍ တစ်ဖက်က ဈေးဆိုင်ကလေး ဖွင့်ထားသည်။ ကင်နေးငယ်စဉ်က ကျောင်းပညာ ကောင်းစွာ မသင်ရ။ သို့သော် သူက စာဖတ်ဝါသနာပါသည်။ စာအုပ်ကို အလွန်နှစ်ခြိုက်စွဲလမ်းသည်။ ထို့ကြောင့်၊ မကြာခဏ ပါရီမြို့အထိ ခြေကျင်လျှောက်ကာ စာအုပ်ဟောင်းများ သွားဝယ်သည်။ ပလေးတိုး၊ အရစ္စတိုတယ် စသည့် ရှေးဆရာကြီးများ၏ ကျမ်းများကို အဲသည်လိုဝယ်ယူကာ စောစောစီးစီး ငယ်ငယ်ရွယ်ရွယ်မှာပင် သူ ဖတ်ရှုဖြစ်ခဲ့သည်။

အသက် ၁၇ နှစ်လောက် ရောက်သောအခါ သမားတော်တစ်ဦးအဖြစ် အသက်မွေးဝမ်းကျောင်းပြုရန် သူဆုံးဖြတ်သည်။ ဆေးပညာကိုတကယ်လက်တွေ့သင်ကြားရသည့် အခါ၌မူ သွေးသံရဲရဲများကို သူ မကြည့်နိုင်ခဲ့။ သို့သော် ပညာကိုကား နောက်မဆုတ်ဘဲ ဆက်လက်သင်ယူခဲ့ရာ အသက် ၂၃ နှစ်ခန့်တွင် ဆေးပညာစာမေးပွဲ အောင်မြင်၍ ကုသခွင့်လိုင်စင်ရသည်။ ပါရီမြို့တောင်ဘက်နားရှိ ရွာတစ်ရွာတွင် အခြေစိုက်ကာ ဆေးဝါးကုသသော အလုပ်ကို လုပ်ကိုင်ရင်း ဆေးပညာဆိုင်ရာ စာအုပ်စာတမ်းများရေးသားရာ တစ်နေ့တခြား ထင်ရှားလာသည်။ ၁၇၄၄ (အသက် ၅၀ ခန့်)တွင် ဆေးပညာပါရဂူဘွဲ့ ချီးမြှင့်ခြင်း ခံရပြီး၊ ပြင်သစ်သိပ္ပံပညာအကယ်ဒမီ၏ အဖွဲ့ဝင်တစ်ဦး ဖြစ်လာသည်။ နောက် ၅ နှစ်ခန့် အကြာတွင်မူ ဘုရင်လူဝီ ၁၅ ၏ ကြင်ဖော်တစ်ဦးဖြစ်သူ မဒမ်ပွန်ပေဒေါ၏ သမားတော်ကြီးဖြစ်လာသည်။ မဒမ်ပွန်ပေဒေါမှာ တရားဝင်မိဖုရား မဟုတ်သော်လည်းသြဇာတိက္ကမကြီးသူတစ်ဦးဖြစ်ရာ သူမ၏ သမားတော်ကြီးမှာ ရှင်ဘုရင်၏ သမားတော်ကြီးလည်း ဖြစ်လာခဲ့သည်။

သို့သော် ထိုကာလလောက် (အသက် ၅၅ နှစ်ခန့်) မှာပင် သမားတော်ကြီး ကင်နေးက စီးပွားရေးပညာနှင့် သင်္ချာပညာများကိုပါ စိတ်ဝင်စားလာခဲ့သည်။ ပြင်သစ်တွေးခေါ်ရှင် စာပေပညာရှင် ဒီဒါရိုး (Denise Diderot) က သူ့ခေတ်ကာလ အသိပညာ အတတ်ပညာနှင့်



အတွေးအမြင်သစ်များကို စုစည်းတင်ပြသည့် စွယ်စုံကျမ်းကြီး (၁၇၅၁ – ၁၇၇၂) ကို ဦးဆောင်ပြုစုသည့်အခါ ကင်နေးအားလည်း ဆောင်းပါးစာတမ်းအများအပြားရေးသားရန် ဖိတ်ခေါ်သည်။ တစ်တွဲပြီးတစ်တွဲ ထွက်လာသည့် စွယ်စုံကျမ်းများတွင် ပါရှိလာသည့် သူ၏ ရေးသားချက်များကိုဖတ်ရှုကာ သူ့ကို သဘောကျသူတွေ များပြားလာသည်။ ထိုနောက်မှ စီးပွားရေးဆိုင်ရာ သူ့အယူအဆ အတွေးအမြင်များကို နှစ်သက်လက်ခံကြသည့် သူ၏ နောက်လိုက်တပည့်အုပ်စုကြီးတစ်ခု ပေါ်ပေါက်လာသည်။ သည်လူစုက ကင်နေး၏ La Physiocratie ခေါင်းစဉ်တပ် စီးပွားရေးရာစာပေါင်းစုတစ်ခု၏ အမည်ကို အစွဲပြုကာ သူတို့ကိုယ်သူတို့ Physiocrat (ပြင်သစ်ဘာသာအားဖြင့် Physiocrate) များ ဟုခေါ်ဝေါ်ကြသည်။ Physiocrate ၏ အဓိပ္ပာယ်မှာ rule of nature (သဘာဝအုပ်စိုးမှု) ဟူ၍ဖြစ်သည်။

စွယ်စုံကျမ်း ဆောင်းပါးများထဲတွင် ကင်နေးက စီးပွားရေးဖြစ်စဉ်ဟူသည် ငွေ၊ ကုန်ပစ္စည်းနှင့် လူတို့ စီးပွားရေးကဏ္ဍနယ်ပယ်တစ်ခုမှ အခြားကဏ္ဍနယ်ပယ်တစ်ခုသို့ လှည့်လည်စီးဆင်းနေသော စက်ဝိုင်းပတ်ဖြစ်စဉ်တစ်ခုဖြစ်၍၊ ခန္ဓာကိုယ်အတွင်း သွေးလှည့်ပတ်စီးဆင်းနေပုံနှင့် ဆင်တူကြောင်း ရှင်းလင်းစိတ်ဖြာပြသည်။ ၎င်းဆောင်းပါးများထဲတွင် "ကောက်ပဲသီးနှံ" အကြောင်းဆောင်းပါးက အရေးပါဆုံး ဖြစ်သည်။ အကြောင်းက၊ လယ်ယာကဏ္ဍသည်သာ တိုင်းပြည်စီးပွားရေးအတွက် တကယ် အကျိုးအမြတ်ထွက်သည့် တစ်ခုတည်းသော ကဏ္ဍဖြစ်ကြောင်း ယင်းဆောင်းပါး၌ပထမဆုံး စတင်ထုတ်ဖော်လိုက်ခြင်းကြောင့် ဖြစ်သည်။ အဓိပ္ပာယ်က၊ လယ်ယာကဏ္ဍတွင်သာ အပိုထွက်ရှိမှု (surplus) ဖြစ်ပေါ်ကြောင်း၊ လယ်ယာလုပ်ငန်းသို့ စိုက်ထုတ်ပေးသွင်းရသည့် အသွင်း (input) ပမာဏထက် ၎င်းမှ ပြန်လည်ရရှိလာသည့် အထွက် (output) ပမာဏက ပိုမိုကြောင်း သူ ဆိုလိုက်ခြင်း ဖြစ်သည်။ ကင်နေးက ယင်းအပိုထွက်သည် မြေ၏ ဖန်တီးထုတ်လုပ်ပေးနိုင်သည့် သဘာဝစွမ်းရည်ကြောင့် ပေါ်ပေါက်ခြင်း ဖြစ်သည်ဟု မှတ်ယူသည်။ ယင်းအယူအဆမှာ အရေးကြီးသည်။

အကြောင်းမူ၊ ဓန (wealth) ဟူသည် ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီတို့ ယူဆသကဲ့သို့ ကုန်သွယ်မှု (ဝါ) ရောင်းဝယ်ဖလှယ်မှုမှ ဖြစ်ပေါ်ခြင်း မဟုတ်ဘဲ ကုန်ထုတ်လုပ်မှုဖြစ်စဉ်မှသာ ထွက်ပေါ်ခြင်းဖြစ်ကြောင်း ပြောဆိုရာရောက်သောကြောင့် ဖြစ်သည်။ သို့သော်၊ တစ်ဖက်တွင်မူ၊ ကင်နေး အနေနှင့် စက်မှုလက်မှုသမားတို့၏ ကုန်ချောထုတ်လုပ်ငန်း (manufacturing) ကိုမူ လယ်ယာလုပ်ငန်းကဲ့သို့ အမှန်တကယ် အပိုအမြတ် မထွက်ဘဲ သွင်းသလောက်သာ ပြန်ထုတ်ပေးသည့် အလုပ်မျိုးဟု ခံယူပေရာ ယင်းအချက်ကို အများကပင် ငြင်းဆန်ဝေဖန် ကြပါသည်။

ကင်နေးမတိုင်မီ အိုင်ယာလန်သား စီးပွားရေးပညာရှင် ရစ်ချတ်ကင်တေးလွန် (Richard Cantillon) က စီးပွားရေးတစ်ရပ်ဟူသည် အစိတ်အပိုင်း တစ်ခုနှင့်တစ်ခု ချိတ်တွယ်ဆက်စပ် လည်ပတ်နေသည့် စက်ဝိုင်းပတ်ယန္တရားတစ်ခုဖြစ်ကြောင်း တင်ပြခဲ့ပြီး ဖြစ်သည်။ ကင်နေးက သည်သဘောတရားကို ပို၍ပီပြင်အောင် ရုပ်လုံးဖော်သည်။ သူက တိုင်းပြည်စီးပွားရေး၏ ကဏ္ဍအစိတ်အပိုင်းတို့ ဆက်စပ်သည်ဆိုရာ၌ မည်သို့သော အတိုင်းအတာပမာဏအထိ ဆက်စပ်ကြကြောင်း ကိန်းဂဏန်းနှင့်တကွ ချင့်တွက်ပြသနိုင်ရန်အတွက် စီးပွားရေးပုံကားချပ်ဟူသည့် ပုံစံများ တည်ဆောက်ပြသည်။ ၎င်းကို အကြောင်းပြုကာ သူ့အား စီးပွားရေးတစ်ရပ်ကို ကိန်းဂဏန်းများ ပါဝင်သော ပုံစံတစ်ခုချ၍ စနစ်တကျ စဉ်းစားပြသည့် ကနဦးပုဂ္ဂိုလ်အဖြစ် အသိအမှတ်ပြုကြခြင်း ဖြစ်ပါသည်။

❖

ကင်နေးက စီးပွားရေးအဆောက်အအုံကို လူတန်းစားသုံးရပ်သို့မဟုတ် ကဏ္ဍသုံးခု ခွဲခြားကာ ရှင်းလင်းဖော်ပြသည်။ ပထမကဏ္ဍက လယ်ယာစိုက်ပျိုးရေးကဏ္ဍ (agricultural sector) ဖြစ်သည်။ သည်ကဏ္ဍမှ စားနပ်ရိက္ခာ၊ ကုန်ကြမ်းပစ္စည်း နှင့် အခြားလယ်ယာထွက်ကုန်များ ထုတ်လုပ်ပေးသည်။ ဒုတိယက စက်မှုလက်မှုထုတ်ကုန်ကဏ္ဍ (manufacturing sector) ဖြစ်၍၊ အဝတ်အထည်၊ အိုးအိမ် စသည်တို့နှင့် စိုက်ပျိုးရေးလုပ်သား ကုန်ထုတ်လုပ်သား တို့အတွက် ကိရိယာ တန်ဆာပလာများပါ ထုတ်လုပ်ပေးသည်။ ထို့ပြင် ယနေ့ခေတ်၌ ဝန်ဆောင်မှုကဏ္ဍ (service sector) ဟုခေါ်ကြသည့် လုပ်ငန်းပိုင်းကိုလည်း ကင်နေးက ဤကဏ္ဍထဲတွင်ပင် ထည့်သွင်းသည်။ တတိယကား မြေရှင်လူတန်းစား (landowner) များကဏ္ဍ ဖြစ်သည်။ ဤတတိယကဏ္ဍသည် စီးပွားရေးအရ တန်ဖိုးရှိသည့် မည်သည့်အရာတစ်ခုကိုမျှ ထုတ်လုပ်ခြင်း မရှိ။ သို့သော် ၎င်းတို့သည် လယ်ယာစိုက်ပျိုးရေးမှ ထွက်ရှိလာသည့် အပိုထွက်ကို ရယူပိုင်ခွင့်ရှိသူများ ဖြစ်သည်ဟု ကင်နေးတို့က ရှုမြင်သည်။ မြေရှင်ပိုင်သော မြေကို လယ်သမားက ငှားရမ်းလုပ်ကိုင်သည့်အခါ ၎င်းမြေသို့ လယ်သမား ထည့်သွင်းလိုက်သည့် မျိုးစပါး၊ လုပ်ငန်းကိရိယာနှင့် လုပ်အားစသည့် အသွင်းများထက် ပိုလျှံသော အထွက်များ ရရှိလာသည်။ ယင်းအသွင်းနှင့် အထွက် ခြားနားချက်သည် မြေကပေးသည့် အပိုထွက် ဖြစ်သည်။ မြေရှင်များ မြေငှားခရကြသည် ဆိုရာ၌ ယင်းအပိုထွက်ကို ရရှိခြင်းပင် ဖြစ်သည်ဟု ကင်နေးတို့က ရှုမြင်ရာ ယင်းကို မြေအဓိကစီးပွားရေးဝါဒီတို့၏ ငှားခသီအိုရီ ဟုခေါ်ဆိုကြပါသည်။

ကောက်ပဲသီးနှံအကြောင်း ဆောင်းပါးတွင် ဆိုသည့်အတိုင်း ကင်နေးက စိုက်ပျိုးရေးတစ်ခုတည်းသည်သာ အမှန်တကယ် အပိုအလျှံထွက်သည့် ကုန်ထုတ်လုပ်ငန်းဖြစ်ကြောင်း ဖော်ပြသည်။ သူ၏ စီးပွားရေးပုံကားချပ်အများစုတွင် စိုက်ပျိုးရေးထဲသို့ ထည့်ဝင်သည့် အသွင်းများမှနေ၍ ယင်း၏ နှစ်ဆမျှရှိသော အထွက်များ ရရှိကြောင်း ပြသထားလေ့ရှိသည်။ သို့သော်၊ ယင်းအနေအထားအတိုင်း အခါခပ်သိမ်း တစ်သမတ်တည်း ဖြစ်မည်ဟု ကင်နေး မဆိုပါ။ အသွင်းပမာဏ မည်မျှပေါ်မူ အထွက်ပမာဏ မည်မျှရရှိမည်နည်း ဟူသောအချက်သည် စိုက်ပျိုးရေးကဏ္ဍတွင် ကျင့်သုံးနေသည့် ကုန်ထုတ်နည်းနာများပေါ်တွင် မူတည်ကြောင်း သူ သိမြင်ခဲ့ပြီး၊ လယ်ယာကုန်ထုတ်လုပ်မှုစွမ်းရည် တိုးတက်စေရန်အတွက် မည်သို့သော မူဝါဒများ ချမှတ်ကျင့်သုံးသင့်ကြောင်းလည်း သူ ပြောဆိုခဲ့ပါသည်။

နောက်တစ်ချက်အနေနှင့် ကင်နေးက၊ စီးပွားရေး အဆောက်အအုံ အတွင်း ဝင်ငွေ (income) အားလုံးကို သုံးစွဲကြကြောင်း၊ လယ်ယာထွက်ကုန်ပစ္စည်းအတွက် သုံးစွဲမှုနှင့် စက်မှုလက်မှုထွက်ကုန် ပစ္စည်းများအတွက် သုံးစွဲမှုတို့သည် အညီအမျှပင် ရှိကြကြောင်း ရှုမြင်ကာ ယင်းရှုမြင်ချက်နှင့် လျော်ညီစွာ သူ၏ ထင်ရှားသော ခေါက်တုံ့ခေါက်ပြန် တံတောင်ဆစ်ချိုး စီးပွားရေးပုံစံ (zig-zag model) ကို ဖော်ထုတ်ပြသခဲ့သည်။




The *Tableau Économique*

သူ့ခေတ်ကာလ ပြင်သစ်ပြည်၏ စီးပွားရေးဖွဲ့တည်မှု ပုံသဏ္ဍာန်ကို အခြေခံကာ ထိုစဉ်က တွက်ချက်နိုင်မှု အတိုင်းအတာများအရ ကင်နေး ဖန်တီးတည်ဆောက်ပြသည့် ယင်းပုံစံဇယားတွင်၊ ကဏ္ဍသုံးရပ်အကြား စီးပွားရေးအရ ဆက်ဆံကြပုံသဘောနှင့်၊ ကဏ္ဍအသီးသီးသို့ ဝင်ငွေများ ဖြန့်ကြက်ရောက်ရှိပုံတို့ကို ပြသထားသည်။

ယင်းပုံစံကို၊ မြေရှင်၏အိတ်ထဲသို့ ဝင်ငွေရောက်ရှိခြင်းမှ စတင်သည်။



မြေရှင်သည် မြေငှားခအဖြစ် ရရှိသော ငွေ ၁၀၀၀ အနက်မှ ၅၀၀ ကို စိုက်ပျိုးရေးထွက်ကုန်ပစ္စည်းများ ဝယ်ယူရာ၌ သုံးစွဲ၍၊ ကျန်ငွေ ၅၀၀ ကို စက်မှုလက်မှုထုတ်ကုန်ပစ္စည်းများ ဝယ်ယူရာ၌ အသုံးပြု၏။ ထိုအခါ လယ်ယာကဏ္ဍနှင့် စက်မှုလက်မှုကဏ္ဍတို့သည် ဝင်ငွေ ၅၀၀ စီ အသီးသီး ရရှိကြ၏။

ယင်းကဏ္ဍနှစ်ရပ်တွင် လုပ်ကိုင်နေကြသူများသည် မိမိတို့ကဏ္ဍသို့ ရောက်ရှိလာသည့် ဝင်ငွေအသီးသီး၏ ထက်ဝက်စီကို အခြားကဏ္ဍထွက် ပစ္စည်းများ ဝယ်ယူရာ၌ သုံးစွဲရာ၊ ကဏ္ဍတစ်ခုစီသည် ကျန်ကဏ္ဍထံမှ ငွေ ၂၅၀ စီ ရရှိကြသည်။ တစ်ဖန်၊ ထို ၂၅၀ ၏တစ်ဝက်စီသည် တစ်ဖက်ကဏ္ဍအသီးသီးသို့ ဝယ်ခြမ်းသုံးစွဲခြင်းဖြင့် ရောက်ရှိပြန်သည်။ ယင်းသို့ အပြန်အလှန် ဝယ်ခြမ်းသုံးစွဲခြင်းတို့ ဆက်၍ဆက်၍ ဖြစ်ပေါ်ကာ ဝင်ငွေများ အပြန်အလှန် မျှဝေရောက်ရှိကြသည့် ဖြစ်စဉ်ကို ဆက်တိုက်မှတ်သားကာ၊ ကူးပြောင်းသည့် ငွေပမာဏ အလွန်သေးငယ်သွားသည့်အချိန်၌ စာရင်းချုပ်ကြည့်လိုက်လျှင် (ပုံတွင် ဖော်ပြထားသည့်အတိုင်း တစ်ခြမ်းစီ ပေါင်းကြည့်လိုက်လျှင်) နှစ်ရပ်လုံးသို့ ရောက်ရှိသည့် ဝင်ငွေအသီးသီးသည် ၁၀၀၀ စီ အညီအမျှ ရှိကြကြောင်း တွေ့ရမည် ဖြစ်၏။

တစ်နှစ်တာအတွင်း ကဏ္ဍတစ်ခုစီ၌ ဖြစ်ပျက်ပုံကို ဇယား အကူအညီဖြင့် လည်းကောင်း၊ ဇယားတွင် မပါသော အချက်တချို့ဖြင့် လည်းကောင်း ဆက်လက်ရှင်းလင်းရသော်၊

မြေရှင်တို့သည် လယ်သမားများထံမှ စိုက်ပျိုးရေး အပိုထွက်နှင့် ညီမျှသော မြေငှားခများကို ရရှိပြီး၊ ၎င်းဖြင့် အစားအစာနှင့် ကုန်ပစ္စည်းများ ဝယ်ယူသုံးစွဲ၏။ တစ်နှစ်တာပတ်လုံးအတွင်း ၎င်းတို့ ထုတ်လုပ်သောအရာ ဘာတစ်ခုမျှ မရှိ။ အခြားကဏ္ဍနှစ်ရပ်၊ သို့မဟုတ် ကုန်ထုတ်လုပ်သော သူတန်းစားနှစ်ရပ် ထံမှ ထွက်ရှိသည့်အရာ (output) များပေါ်တွင် သူတို့ ရပ်တည်ရှင်သန်ကြခြင်း ဖြစ်၏။

၎င်းကဏ္ဍနှစ်ရပ်သည်လည်း ကနဦး ငွေ ၅၀၀ စီ ရရှိကြပြီး ထိုငွေဖြင့် လိုအပ်သော အသွင်းပစ္စည်းများကို ဝယ်ယူသုံးစွဲကာ နောက်နှစ်

အတွက် စားနပ်ရိက္ခာနှင့် ကုန်ချောပစ္စည်းများ ထုတ်လုပ်ကြ၏။

စက်မှုလက်မှုကဏ္ဍသည် မြေရှင်ထံမှငွေ ၅၀၀ ကိုလည်းကောင်း၊ စိုက်ပျိုးရေးကဏ္ဍမှ အလီလီအားဖြင့် ငွေ ၅၀၀ (တံတောင်ဆစ်ချိုးဇယားတွင် ဖော်ပြထားသည့် ၂၅၀, ၁၂၅, ၆၂.၅, ၃၁.၂၅, ၁၅.၆၂၅ ... တို့ ပေါင်းလဒ်) ကိုလည်းကောင်း ရရှိ၏။ ယင်းအနက် ၅၀၀ ကို ဇယားတွင်ပြထားသည့်အတိုင်း လယ်ယာထွက်ကုန်ပစ္စည်းများ အလီလီ ဝယ်ယူရာ၌ သုံးစွဲပြီး၊ ကျန်ငွေသား ၅၀၀ ကို လယ်ယာကဏ္ဍမှပင် လုပ်ငန်းအတွက် နောက်ထပ်အသွင်းပစ္စည်းများ ဝယ်ယူရာ၌ အသုံးပြုရမည် ဖြစ်သည်။ ချုပ်၍ဆိုသော် စက်မှုလက်မှုကဏ္ဍသည် စားသုံးခြင်းနှင့် လုပ်ငန်းတွင် ထည့်ဝင်ခြင်းအတွက် ငွေ ၁၀၀၀ သုံးစွဲရပြီး၊ ယင်းအသွင်း ၁၀၀၀ အတွက် ၁၀၀၀ ဖိုးမျှပင်ရှိသော စက်မှုလက်မှု ကုန်ပစ္စည်းများကို ထုတ်လုပ်ရရှိပေသည်။

သည်အတောအတွင်း စိုက်ပျိုးရေးကဏ္ဍမှ ထွက်ရှိမှုမှာမူ ငွေ ၂၀၀၀ ဖိုးမျှရှိ၏။ ယင်းအနက်မှ ၁၀၀၀ ဖိုးမျှကိုသာ မြေရှင်များနှင့် စက်မှုလက်မှုကဏ္ဍသို့ သူ ရောင်းချရာ၊ စိုက်ပျိုးသီးနှံ ၁၀၀၀ ဖိုးမျှ သူ၌ကျန်၏။ တစ်ဖက်တွင် သူသည် စက်မှုလက်မှုကဏ္ဍမှ ၅၀၀ ဖိုးမျှ ဝယ်ယူ၏။ (တံတောင်ဆစ်ချိုးဇယားပါ အလီလီဝယ်ယူမှုများပေါင်းလဒ်ကိုကြည့်ပါ။) သို့သော်၊ အထက်အပိုဒ်တွင်ဆိုခဲ့သည့်အတိုင်း စက်မှုလက်မှုကဏ္ဍက ၎င်းတို့ လုပ်ငန်းအံတွက် အသွင်းအလို့ငှာ စိုက်ပျိုးရေးထွက်ကုန် ၅၀၀ ဖိုးမျှကို ထပ်မံဝယ်ယူခဲ့သေးသည်ဖြစ်ရာ နှစ်ခု အပြန်အလှန်ကျေသဖြင့်၊ စာရင်းချုပ်သော် စိုက်ပျိုးရေးကဏ္ဍ၌ သီးနှံရောင်းချရာမှ ရရှိငွေ ၁၀၀၀ နှင့် လက်ကျန်သီးနှံ ၁၀၀၀ ဖိုးမျှရှိ၏။ ယင်းအနက်မှ ၁၀၀၀ ကို မြေရှင်အား ငှားခအဖြစ်ပေးသော် သူ၌ ၁၀၀၀ ဖိုး ကျန်လေသည်။ ထို ၁၀၀၀ ကို စိုက်ပျိုးကုန်ထုတ်လုပ်ငန်းအတွက် စားနပ်ရိက္ခာ၊ မျိုးစပါး၊ လုပ်အားခစသည့် အသွင်းများအဖြစ်သုံးကာ နောက်နှစ်၌ သီးနှံ ၂၀၀၀ ဖိုးမျှ ထွက်ရှိစေခြင်းဖြင့် စီးပွားရေးယန္တရားကို ဆက်လက်လည်ပတ်နေစေမည် ဖြစ်သည်။'

❖



ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီများနည်းတူ မြေအဓိကဝါဒသမားတို့ကလည်း စီးပွားရေးသီအိုရီကို ၎င်းသက်သက်အလို့ငှာ စိတ်ဝင်စားသည် မဟုတ်။ သီအိုရီကို အခြေခံကာ စီးပွားရေးပေါ်လစီများ ချမှတ်နိုင်မှုအတွက် တန်ဖိုးထားကြခြင်း ဖြစ်၏။ ကင်နေး၏ စီးပွားရေးပုံကားချပ်များသည်လည်း စီးပွားရေးယန္တရား၏ သဘောသဘာဝကို ရှင်းပြရန်သက်သက်အတွက် မဟုတ်၊ တိုင်းပြည်စီးပွား တိုးတက်ရန်အတွက် မည်သို့မည်ပုံဆောင်ရွက်သင့်ကြောင်း စည်းရုံးတင်ပြရာ၌ ရှင်းလင်းပီပြင်စေရန် အလို့ငှာ အဆိုပါ ပုံကားချပ်များကို သူ တီထွင်ဖော်ထုတ်ခဲ့ခြင်း ဖြစ်၏။

စီးပွားရေးပေါ်လစီတစ်ရပ်ကို တင်လိုလျှင် ကင်နေးက ပုံကားချပ်နှစ်ခုတွဲတစ်စုံနှင့်အတူ တင်ပြလေ့ရှိ၏။ တစ်ခုက တိုင်းပြည် (ပြင်သစ်ပြည်) ၏ လက်ရှိစီးပွားရေး အနေအထားကို ဖော်ပြပြီး၊ နောက်တစ်ခုက စီးပွားရေး၏ မည်သည့်ကဏ္ဍတွင် မည်သည့်ပေါ်လစီကို ကျင့်သုံးလိုက်ပါက အခြားကဏ္ဍရပ်များတွင်ပါ ဆင့်ကဲပြောင်းလဲမှုများ မည်သို့ဖြစ်ပေါ်ကာ (ပြင်သစ်) စီးပွားရေးတစ်ရပ်လုံး မည်ရွေ့မည်မျှ ဖွံ့ဖြိုးတိုးတက်လာနိုင်ကြောင်း ပြသခြင်းမျိုး ဖြစ်၏။ ထိုပုံများအရ၊ စီးပွားရေးတစ်ရပ်၏ အတက်အကျသည် စီးပွားရေးပေါ်လစီ ကောင်းခြင်း ဆိုးခြင်း ပေါ်တွင် မူတည်ကြောင်း၊ ပေါ်လစီကောင်းလျှင် စီးပွားဖွံ့ဖြိုးတိုးတက်မည်ဖြစ်၍၊ ဖွံ့ဖြိုးမှုလက္ခဏာအဖြစ် လယ်ယာနှင့် စက်မှုလက်မှုကဏ္ဍတို့မှ ထုတ်ကုန်ပစ္စည်းများ သိသိသာသာ တိုးတက်ထွက်ရှိသည်ကို မြင်တွေ့ရမည်ဖြစ်ကြောင်း သူကဆို၏။

ကင်နေး၏ ပုံကားချပ်များအရ ထွက်ပေါ်လာသည့် အရေးပါသော စီးပွားရေးပေါ်လစီတစ်ရပ်က အခွန်အတုတ်ကိစ္စနှင့် စပ်လျဉ်း၍ ဖြစ်သည်။ အခွန်ကို မြေရှင်များထံမှသာ ကောက်ခံသင့်သည်ဟု သူက မှတ်ယူသည်။

စက်မှုလက်မှုကဏ္ဍသည် ထည့်သလောက်သာ ပြန်ရသည်၊ မြေယာကဲ့သို့ အပိုထွက် မရ။ ထို့ကြောင့် ၎င်းတို့ထံမှ အခွန် မကောက်သင့်ဟု သူမြင်သည်။ အကယ်၍ ကောက်ခံမည်ဆိုက အခွန်ကို လုပ်ငန်းထဲသို့ ထည့်ဝင်သည့် အသွင်းများထဲမှပင် ဖဲ့ပေးရမည်ဖြစ်ရာ၊ အသွင်းပိုင်းတွင်

လျော့သွားမည်၊ ထိုအခါ အထွက်ပိုင်းကလည်း ညီမျှစွာပင် လျော့နည်းသွားလိမ့်မည်။ အထွက်ပိုင်း လျော့ခြင်းသည် စက်မှုလက်မှုကဏ္ဍ ကျဆင်းခြင်းပင် ဖြစ်ပြီး၊ ယင်းကျဆင်းသည့်အလျောက် ယင်းမှထွက်ရှိသည့် ပစ္စည်းကို တစ်စိတ်တစ်ပိုင်း မှီခိုရသည့် လယ်ယာကဏ္ဍလည်း အတိုင်းအတာတစ်ခုအထိ ကျဆင်းသွားလိမ့်မည်ဟု သူ သုံးသပ်သည်။

အလားတူ၊ စိုက်ပျိုးရေးကဏ္ဍ၌အခွန်ကောက်ခံမည် ဆိုလျှင်လည်း၊ ယင်း၏ အသွင်းပိုင်းတွင် လျော့နည်းသွားမည်ဖြစ်ရာ၊ အထွက်ပိုင်းလည်း အချိုးညီစွာ လျော့နည်းသဖြင့် စိုက်ပျိုးရေးကဏ္ဍ ကျဆင်းမည်။ ထို့ပြင်၊ စိုက်ပျိုးရေးကဏ္ဍ၌ ငွေတစ်ကျပ်ဖိုး စိုက်ထုတ်ရင်းနှီးလျှင် ငွေနှစ်ကျပ်ဖိုး ပြန်ထွက်လာသော သဘောရှိရာ၊ အခွန်တစ်ကျပ် ကောက်ခံခြင်းသည် တိုင်းပြည်၏ ထုတ်ကုန်ပမာဏကို နှစ်ကျပ်ဖိုး လျော့နည်းသွားအောင် လုပ်ရာရောက်သည်။ ထို့ကြောင့် လယ်ယာကို အခွန်ကောက်ခြင်းသည် စက်မှုလက်မှုကဏ္ဍကို အခွန်ကောက်ခြင်းထက်ပင် ပို၍ဆိုးသည်ဟု သူ ရှုမြင်သည်။

စက်မှုလက်မှုရော စိုက်ပျိုးရေးကဏ္ဍပါ အခွန် မကောက်သင့်ဘူးဆိုလျှင်၊ အခွန်ပေးရန်တာဝန်သည် ထုတ်လုပ်မှု လုံးဝမရှိသည့် မြေရှင်အစုပေါ်သို့သာ ကျရောက်စရာ ရှိတော့သည်။ မြေရှင်၌ ထုတ်လုပ်မှုမရှိ၊ အသွင်းမရှိ၊ အထွက်လည်းမရှိရာ၊ သူ့အား အခွန်ကောက်ခံခြင်းကြောင့် စီးပွားရေးယန္တရားအတွက် ထိခိုက်ကျဆင်းစရာ မရှိဟု ယူဆရမည် ဖြစ်သည်။

ကင်နေး၏ စီးပွားရေးပုံကားချပ်များမှ ကောက်ယူရရှိသည့် နောက်ထပ် အရေးပါသော စီးပွားရေးပေါ်လစီတစ်ရပ်က၊ ပြင်သစ်ပြည်၏ လယ်ယာစိုက်ပျိုးရေးစနစ်ကို ပြန်လည်ပုံစံချရေး ဖြစ်သည်။

အထူးပြုပြင်ရမည့် အချက်နှစ်ရပ် သူတင်ပြသည်။

တစ်ချက်က၊ စိုက်ပျိုးရေးနည်းစနစ်များ ခေတ်မီတိုးတက်အောင် ပြုပြင်ရေး ဖြစ်သည်။ လက်ရှိအနေ၌ ပြင်သစ်ပြည်ရှိ တစ်ဦးချင်းသော လယ်သမားတို့၏ လယ်ယာလုပ်ကွက်များမှာ ကျဉ်းမြောင်းသည်။ လုပ်ငန်းပမာဏ သေးသည်၊ သည်မြေပေါ်တွင် ရှေးရိုးနည်းစနစ်များဖြင့်ပင်



ထွန်ယက်စိုက်ပျိုးနေကြသည်။ ထို့ကြောင့် ထွက်သင့်သလောက် မထွက်ရှိ။ ခေတ်မီနည်းစနစ်များနှင့် စိုက်ပျိုးလျှင် လယ်ယာမြေမှ ယခုထက် အများအပြား ပိုမိုထွက်ရှိလာမည်။ သို့သော် ၎င်းနည်းစနစ်များမှာ စရိတ်ကြီးသည်၊ အရင်းအနှီးများသည်။ ထို့ကြောင့် လုပ်ကွက်သေးသေးဆိုလျှင် မကိုက်။ ဧကများစွာ ကျယ်ဝန်းသည့် လုပ်ကွက်ကြီးများမှာ သုံးစွဲမည်ဆိုလျှင်မူ စရိတ်မျှသွားသဖြင့် တွက်ခြေကိုက်စွာ သုံးစွဲနိုင်မည်။ ထို့ကြောင့် ခေတ်မီစိုက်ပျိုးနည်းစနစ်နှင့် အဆင်ပြေမည့် စိုက်ပျိုးကွက်ကြီးများ ဖန်တီးပေးဖို့ လိုသည်၊ ဟု သူမြင်သည်။

ဒုတိယအချက်က၊ ယင်းသို့ စိုက်ပျိုးရေးကို ခေတ်မီတိုးတက်အောင် လုပ်မည်ဆိုလျှင် လယ်ယာမြေတွင် ကျင့်သုံးနေသည့် စီးပွားရေးပုံစံကိုပါ ပြင်ရမည်၊ လက်ရှိ အင်္ဂလန်ပြည် စိုက်ပျိုးရေးလောကတွင် ကျင့်သုံးနေသည့် အရင်းရှင်စီးပွားရေးဆန်သော ပုံသဏ္ဌာန်သို့ ပြောင်းလဲဖို့ လိုအပ်မည်ဟူ၍ သူ တင်ပြသည်။

အဆိုပါ ပြုပြင်ပြောင်းလဲရေးများ ပြုလုပ်ခြင်းဖြင့် လယ်ယာမြေ၌ အပိုထွက်များများ ရရှိမည့် စိုက်ပျိုးရေးစနစ် ဖြစ်ထွန်းလာမည်၊ လယ်ယာကဏ္ဍဖွံ့ဖြိုး၍ စိုက်ပျိုးသီးနှံများ အလျှံပယ်ထွက်ရှိသော ပြင်သစ်ပြည်သည် ပေါများကြွယ်ဝသော နိုင်ငံတစ်ခုဖြစ်လာမည်၊ ဟူ၍ သူကဆိုခဲ့သည်။

ကင်နေး၏ ပုံကားချပ်များအရ ထွက်ပေါ်လာသည့် တတိယ စီးပွားရေးပေါ်လစီတစ်ရပ်က ငွေကြေးသုံးစွဲခြင်းနှင့် ပတ်သက်သည်။ ကင်နေးက ငွေကြေးကို စားသုံးခြင်း၊ ရင်းနှီးမြှုပ်နှံခြင်းတို့တွင် အသုံးမပြုဘဲ သိုလှောင်သိမ်းဆည်းထားပါက ငွေကြေးနှင့် ကုန်ပစ္စည်းအကြား စက်ဝိုင်းပတ် လှည့်လည်မှုဖြစ်စဉ်ကို နှောင့်နှေးစေသဖြင့် စီးပွားရေးအတွက် မကောင်းဟုရှုမြင်သည်။ ဝယ်ယူသုံးစွဲလိုမှု သို့မဟုတ် ဝယ်လိုအား (demand) နည်းသည့်အခါ ထုတ်လုပ်မှု ကျဆင်းသည်။ ဝယ်လိုအားအရပ်ရပ် လျော့နည်းလျှင် နိုင်ငံလုံးအတိုင်းအတာဖြင့် ထုတ်လုပ်မှု လျော့နည်းသဖြင့် ပြင်သစ်ပြည်၏ စီးပွားရေးကျဆင်းသွားမည် ဟုမြင်သည်။ ကင်နေး၏ ဤရှုမြင်ချက်မှာ၊ နောင်တစ်ခေတ် စီးပွားရေးပညာရှင်ကြီး ဂျွန် မေးနတ်

ကိန်း(စ) (John Maynard Keynes) လက်ထက်တွင် ထွန်းကားထင်ရှားလာမည့် ငွေကြေးသုံးစွဲမှုဆိုင်ရာ စီးပွားရေးအမြင်တစ်ရပ်၏ ရှေ့ပြေးဖြစ်ခဲ့သည်။

စတုတ္ထပေါ်လစီအနေဖြင့်၊ ကင်နေးက (ထိုစဉ်က ဩဇာရှိခဲ့သည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီများနှင့် ဆန့်ကျင်လျက်) နိုင်ငံအချင်းချင်းကြား လွတ်လပ်စွာ ကုန်စည်ကူးသန်းရောင်းဝယ်ခွင့် (free trade) ရှိရေးကို ထောက်ခံတင်ပြခဲ့သည်။ မြေအမိကစီးပွားရေးဝါဒီများ အလိုအရ၊ နိုင်ငံ့ ခနဥစ္စာဟူသည် ရွှေဒင်္ဂါး ငွေဒင်္ဂါးများ စုဆောင်းရရှိခြင်းထက် ကုန်ပစ္စည်းမည်မျှ ထုတ်လုပ်ထွက်ရှိသနည်း ဟူသောအချက်ပေါ်တွင် ပို၍မူတည်သည်ဟုမြင်သည်။ ကုန်ပစ္စည်းများ တိုးတက်ထွက်ရှိရေးသည် စိုက်ပျိုးရေးကဏ္ဍ၏ ထုတ်လုပ်နိုင်စွမ်း တိုးတက်မှုပေါ်တွင် အခြေတည်သည်။ နိုင်ငံတကာနှင့် လွတ်လပ်စွာ ကုန်သွယ်မှု ပြုနိုင်လျှင် ပြင်သစ် လယ်ယာထွက်ကုန်များအပေါ် ဝယ်လိုအား ပိုလာမည်။ ထိုအခါ၊ စီးပွားရေးရင်းမြစ်များ (ဝါ) အသွင်းအင်အားစုများကို အပိုထွက်နည်းသည့် အထွေထွေကုန်ပစ္စည်းထုတ်လုပ်မှုကဏ္ဍမှ လယ်ယာကဏ္ဍသို့ ရွှေ့ပြောင်းအားဖြည့်လာကြမည်။ လယ်ယာကဏ္ဍသို့ အသွင်းပမာဏများလာပြီး ယင်း၏ ထုတ်လုပ်နိုင်စွမ်းကလည်း တက်လာမည်ဆိုလျှင် ပြင်သစ်ပြည်၌ စီးပွားရေး အပိုထွက်ပမာဏ များပြားစွာ ရရှိကာ၊ တိုင်းပြည် ကြီးပွားချမ်းသာလာမည် စသဖြင့် ကင်နေး သုံးသပ်သည်။

❖

စီးပွားရေးအတွေးအမြင် နှင့်စပ်လျဉ်း၍ ကင်နေး၏ ဖြည့်ဆည်းချက်တွေ များစွာရှိခဲ့သည်။ သူ့အား အက်ဒမ်စမစ် (Adam Smith) ကဲ့သို့ စီးပွားရေးပညာ၏ ဖခင်ကြီး ဟုခေါ်မည်ဆိုက ခေါ်နိုင်လောက်သည်။ သို့သော် စီးပွားရေးပညာနယ်ပယ်၌ ကင်နေးသည် ထိုက်တန်သောနေရာကို မရရှိခဲ့ဟုဆိုရမည် ဖြစ်သည်။ အက်ဒမ်စမစ် ဟူသောနာမည်ကို လူတွေ



တဖွဖွ ပြောကြသော်လည်း ကင်နေးကိုကား ပညာရှင်အသိုင်းအဝန်းက လွဲလျှင် သိသူနည်းလှသည်။

စက်မှုလက်မှုကဏ္ဍသည် အသွင်းနှင့်အထုတ် ညီမျှသောကဏ္ဍ၊ အပိုထွက် မရှိသည့်ကဏ္ဍဟု ကင်နေး ရှုမြင်ခဲ့ခြင်းသည် မှားယွင်းကြောင်း အက်ဒမ်စမစ်ကစတင်၍ ဝေဖန်ထောက်ပြခဲ့ရာ၊ နောက်ပိုင်းစီးပွားရေးပညာရှင်တို့ကလည်း ယင်းအချက်ကိုပင်ကိုင်စွဲပြီး သူ့အား ငြင်းပယ်ခဲ့ကြသည်။ ထို့ပြင် သူ၏ စီးပွားရေးပုံကားချပ် ဟူသည်များမှာလည်း အလွန်အမင်း ရှုပ်ထွေး၍ နားလည်ရခက်လှကြောင်း ပြင်းပြင်းထန်ထန် ဝေဖန်ပြစ်တင်ခဲ့ကြသည်။

တစ်ဖက်တွင်မူ၊ ကင်နေးအပေါ် အကောင်းဘက်က ရှုမြင်သူများလည်း အများအပြားပင် ရှိခဲ့ပါသည်။

သူ့အယူအဆကို လက်ခံသည်ဖြစ်စေ လက်မခံသည်ဖြစ်စေ စီးပွားရေးပညာရှင်အားလုံးလောက်ကပင် သူ့အားပညာအရ လေးစားမှုရှိကြသည်။ သမ္ဘာဘက်တွင် ထက်သန်သော စီးပွားရေးပညာရှင်တို့ကမူ သူအား စီးပွားရေးကို ပုံစံ (model) တည်ဆောက်စဉ်းစားသည့် ကနဦးပညာရှင်အဖြစ် တန်ဖိုးထား သိမှတ်ကြသည်။ စီးပွားရေးပညာရှင် လေယွန်တီး(ဖ) (Wassily Leontief) ကဆိုလျှင် ကင်နေး၏ ပုံကားချပ်သည် မိမိတီထွင်သော အသွင်း - အထုတ်စိစစ်မှု (input-output analysis) နည်းစနစ်၏ ရှေ့ပြေးဖြစ်သည် ဟုဆိုခဲ့သည်။ ကွန်ဆာဗေးတစ်စီးပွားရေးပညာရှင်တို့က ကင်နေး တင်ပြသည့် လွတ်လပ်စွာစီးပွားရှာခွင့်ဝါဒနှင့်၊ ထုတ်လုပ်မှုရှိသည့် (လယ်ယာနှင့်စက်မှုလက်မှု) ကဏ္ဍတို့မှ အခွန်ကောက်ခံရေးပေါ်လစီများကို တန်ဖိုးထားကြပြီး၊ ပို၍ လစ်ဘရယ်ဖြစ်သော စီးပွားရေးပညာရှင်တို့ကမူ ငွေကြေး သုံးစွဲခြင်း မသုံးစွဲခြင်းသည် စီးပွားရေးအတက်အကျကို အဆုံးအဖြတ်ပြုသည့် အရေးကြီးသော အချက်တစ်ရပ်ဖြစ်သည် ဟူသော (သည်ဘက်ခေတ် ပညာရှင်ကြီးကိန်း(စ)နှင့် သဘောချင်းတူညီသော) အမြင်ရှိမှုအတွက် အသိအမှတ်ပြုကြသည်။ ထို့ပြင် ကွန်မြူနစ်တွေးခေါ်ရှင်ကြီး ကားလ်မာ့က်(စ)ကလည်း ကင်နေးအား

ကုန်ထုတ်လုပ်ငန်းမှ ထွက်ရှိသည့် စီးပွားရေးအပိုထွက် (ဝါ) အစွန်းထွက် တန်ဖိုး၏ အရေးပါမှုကို သိမြင်ခဲ့ခြင်း၊ ယင်းအပိုထွက်ကို အသုံးပြုကာ အရင်းရှင်စီးပွားရေးယန္တရား လည်ပတ်ပုံ၊ ကြီးထွားရှင်သန်ပုံတို့ကို သုံးသပ်ပြခဲ့ခြင်းတို့အတွက်၊ သူ၏ 'အစွန်းထွက်တန်ဖိုးဆိုင်ရာ သီအိုရီများ' (Theories of Surplus Value) ကျမ်းတွင် ချီးကျူးဖော်ပြခဲ့ပါသည်။

## ဒေးဗစ်ဟျူးမ်
## (၁၇၁၁ - ၇၆)



ဒေးဗစ်ဟျူးမ် (David Hume) က ကမ္ဘာတွင် ထင်ရှားသည့် တွေးခေါ်ရှင်တစ်ဦး ဖြစ်သည်။ သိမှု (knowledge) ဟူသည် အတွေ့အကြုံ (experience) မှသာ ပေါ်ပေါက်နိုင်သည် ဟူသောအယူအဆကို သူ တင်ပြခဲ့သည်။ ဟျူးမ်သည် ဒဿနကျမ်းများသာမက သမိုင်းကျမ်းများ၊ အက်ဆေးစာတမ်းများလည်း ရေးသားခဲ့သည်။ ထို့ပြင်၊ ထိုခေတ်က စတင်ဖြစ်ထွန်းပေါ်ပေါက်ဆဲဖြစ်သည့် စီးပွားရေးပညာရပ်နှင့် စပ်လျဉ်း၍လည်း သူ၏ ဖြည့်ဆည်းချက်တွေ များစွာရှိခဲ့ပါသည်။ ယင်းအနက် အထင်ရှားဆုံးမှာ စီးပွားရေးတစ်ရပ်အပေါ် ငွေကြေး၏ သက်ရောက်ပုံအကြောင်းနှင့် နိုင်ငံတကာကုန်သွယ်မှု၏ သဘောသဘာဝများအကြောင်း ခွဲခြမ်းစိတ်ဖြာချက်များ ဖြစ်သည်။

❖

ဟျူးမ်ကို စကော့တလန်ပြည်၊ အက်ဒင်ဘာရာမြို့တွင် ၁၇၁၁ ခုနှစ်က မွေးသည်။ ဖခင်က မြေပိုင်ရှင်တစ်ယောက်ဖြစ်၍ သူတို့ပိုင်

မြေယာများရှိရာ တောနယ်၌ နေထိုင်ကြသည်။ သို့သော် ဟျူးမ် အသက် သုံးနှစ်လောက်မှာပင် ဖခင်ဆုံးရာ မိခင်၏အုပ်ထိန်းမှုဖြင့် ကြီးပြင်းရသည်။ ဖခင် မရှိသော်လည်း ငွေကြေးအများအပြား ကျန်ရစ်သဖြင့် ပညာကောင်းစွာ သင်ကြားခွင့်ရသည်။ အဓိကအားဖြင့် အိမ်မှာပင် သီးသန့်ဆရာများငှားပြီး သင်ကြားခြင်း ဖြစ်သည်။ အသက် ၁၂ နှစ်တွင် သူ့ခေတ်က လူကုံထံ သားသမီးများနည်းတူ အက်ဒင်ဘာရာတက္ကသိုလ်ကျောင်းသို့ တက်ရောက်၍ ရေးဂရိရောမ ဂန္ထဝင်စာပေများကို ၂ နှစ် ၃ နှစ်ခန့် လေ့လာဆည်းပူးသည်။ ထို့နောက်တွင်၊ မိဘနှစ်ဘက်လုံးက ရှေ့နေရှေ့ရပ်မျိုးဖြစ်ရာ၊ သူ့အားလည်း ဝိုင်းဝန်းတိုက်တွန်းကြသဖြင့် ဥပဒေပညာကို လေ့လာရသည်။ သို့သော် သူ စိတ်မဝင်စား။ အခြား အသိပညာရပ်များကိုသာ စိတ်ပါဝင်စားကာ အကြီးအကျယ် သဲသဲမဲမဲ လိုက်လံဖတ်ရှုလေ့လာသည်။

၁၇၃၄ ခုနှစ်တွင် ပြင်သစ်ပြည်သို့ သွားရောက်၍ သုံးနှစ်ခန့် နေထိုင်သည်။ ထိုအတောအတွင်း A Treatise of Human Nature (လူ့သဘာဝကျမ်း) ဟူသည်ကို ရေးသားပြုစုသည်။ ဤကျမ်း၌၊ လူ၏ အသိဉာဏ်နှင့် အတွေးအမြင် အယူအဆများ၊ စိတ်လှုပ်ရှားခံစားမှုများ အကြောင်း အပြင်၊ ကိုယ်ကျင့်တရားဆိုင်ရာတို့ကိုပါ ပြည့်စုံကုံလုံစွာ ဖွင့်ဆို ရှင်းလင်းပြနိုင်ရန် သူ အားထုတ်ခဲ့သည်။

ထို့နောက်မူ၊ လက်တွေ့ဘဝအခြေအနေများက တောင်းဆိုသဖြင့် ပုံမှန်ဝင်ငွေရနိုင်မည့် အလုပ်ကို ရှာရသည်။ စကော့တလန်ရှိ တက္ကသိုလ် ကျောင်းများတွင် ဆရာတစ်နေရာ ကြိုးစားကြည့်သည်။ သို့သော် မရခဲ့ သို့နှင့် ၁၇၄၅ ခုနှစ်တွင် မှူးမတ်သားတစ်ယောက်ကို သီးသန့်ဆရာအဖြစ် ပညာသင်ကြားပေးရန် လက်ခံလိုက်ရသည်။ ထို့နောက် နှစ်အတန်ကြာ သည့်အခါ စစ်ဗိုလ်ချုပ်တစ်ယောက်၏ အတွင်းဝန်အဖြစ် လုပ်ကိုင်သည်။ သည်အလုပ်များမှ ငွေကြေးအတော်များများ ရရှိခဲ့ရာ ဟျူးမ်မှာ နောက်ထပ် ဝင်ငွေရှာစရာမလိုဘဲ စာဖတ်ခြင်း စာရေးခြင်းအလုပ်ကို စူးစိုက်လုပ်ကိုင် နိုင်ခဲ့သည်။

၁၇၅၂ ခုနှစ်တွင်မူ အက်ဒင်ဘာရာရှိ ရှေ့နေများစာကြည့်တိုက်က သူ့အား စာကြည့်တိုက်မှူးအဖြစ် ငှားရမ်းသည်။ သည်အလုပ်က တကယ်တင် သူ့အကြိုက် ဖြစ်ခဲ့သည်။ စာအုပ်စာတမ်းတွေ ရှားပါးပြီး တန်ဖိုးလည်းကြီး လှသော ထိုခေတ်က စာအုပ် ၃၀,၀၀၀ မျှရှိသည့် စာကြည့်တိုက်တစ်ခုကို စိတ်တိုင်းကျ သုံးစွဲခွင့်ရခြင်းမှာ သူ့အတွက် ရေမဆုလာဘ် ဖြစ်သည်။ ထို့ပြင် သည်အလုပ်မှ လစာဝင်ငွေလည်းရသေးရာ ဘာမှ ပြောစရာမရှိတော့။

ထိုနှစ်ပိုင်းများအတွင်း သူက ဒဿနကျမ်းများအပြင်၊ History of England (အင်္ဂလန်သမိုင်း) ကျမ်း ၆ တွဲကိုလည်း ရေးဖြစ်သည်။

၁၇၆၃ ခုနှစ်တွင် ဟျူးမ်သည် ပါရီရှိ ဗြိတိသျှသံရုံးတွင် သံအရာရှိ တစ်ဦးအဖြစ် ခန့်အပ်ခြင်း ခံရပြီး၊ ၁၇၆၇ ခုနှစ်မှ စတင်၍ နိုင်ငံခြားရေး ဝန်ကြီးဌာနတွင် လက်ထောက်အတွင်းဝန်အဖြစ် ဆောင်ရွက်ရသည်။ ၎င်း တာဝန်တွင် နှစ်နှစ်မျှ ထမ်းဆောင်ပြီးနောက် အမှုထမ်းဘဝမှ အနားယူကာ၊ အက်ဒင်ဘာရာတွင် ပြန်၍အခြေချသည်။ ၁၇၇၆ ခုနှစ်တွင် သူ ကွယ်လွန် ခဲ့သည်။

❖

စီးပွားရေးပညာရှင်တစ်ဦး အနေဖြင့်၊ ငွေကြေးနှင့်စပ်လျဉ်း၍ သည်းကောင်း၊ နိုင်ငံတကာ ကုန်သွယ်ရေးနှင့် ပတ်သက်၍လည်းကောင်း ဟျူးမ် ရေးသားတင်ပြသည့် အယူအဆ အချက်အလက် များစွာ ရှိခဲ့သည်။

ဟျူးမ် လှုပ်ရှားရှင်သန်ခဲ့သည့် ၁၈ ရာစုနှစ် အလယ်ပိုင်း အင်္ဂလန် ပြည်တွင် စီးပွားရေးနယ်ပယ်၌ ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီတို့၏ အယူ အဆများ လွှမ်းမိုးလျက်ရှိခဲ့သည်။ ၎င်းပုဂ္ဂိုလ်တို့က အစိုးရအနေနှင့် တိုင်းပြည်ကို အကျိုးပြုသော ကုန်သည်တို့အတွက် အထောက်အကူပြုသည့် ပေါ်လစီများ ချမှတ်ပေးသင့်ကြောင်း တင်ပြပြောဆိုလျက်ရှိကြသည်။ သို့သော် ကုန်သည် သို့မဟုတ် စီးပွားရေးသမားက တိုင်းပြည်အတွက် ဘယ်ပုံ အကျိုးပြုကြောင်းကိုကား ၎င်းတို့ တိတိကျကျ ရှင်းလင်းပြောဆို နိုင်ခြင်း မရှိကြ။ ဟျူးမ်က အဲသည်ကွက်လပ်ကို ဖြည့်ဖက်ပေးသည်။

သူက ကုန်သွယ်ရေးသမားတို့သည် ငွေကို မြိုးမြိုထိန်းသိမ်းကြသူများ ဖြစ်သည်။ ဝင်လာသောငွေကို စုစည်းကာ အရင်းအနှီး ဖြစ်စေသည်။ သူတို့ကြောင့် တိုင်းပြည်တွင်းမှာ ငွေကြေးများများ ရှိလာသည့်အခါ အတိုးနှုန်းတွေ ကျဆင်းလာမည်။ ထိုအခါ ငွေချေးငှား၍ ရင်းနှီးမြှုပ်နှံကြမည့် လုပ်ငန်းသမားတွေ တိုးပွားလာမည်။ လက်ရှိလုပ်ငန်းတွေ တိုးချဲ့မည်။ လုပ်ငန်းသစ်တွေ ထူထောင်မည်။ လုပ်ငန်းများ အပြိုင်အဆိုင် ဖြစ်လာသည့်အခါ တတ်နိုင်သမျှ အမြတ်ကိုလျှော့၍ ရောင်းချလာကြမည်။ ထိုအခါ ဝယ်ယူစားသုံးသူတို့ သက်သာဖောသီစွာ သုံးစွဲရမည်။ ကုန်သည်၏ စုငွေမှ ရလာသည့် အရင်းအနှီးကြောင့် ယင်းသို့ စီးပွားရေး တိုးတက်သွက်လက်သဖြင့် ကုန်သည်တို့အား ချီးမွမ်းထိုက်သည်၊ ဟု သူရှင်းပြသည်။

ကုန်သည်နှင့် ဆန့်ကျင်လျက်၊ မြေရှင်တို့ကမူ လက်ထဲရှိသည့် ငွေကိုလည်း သုံးစွဲကြသည်။ နောင်ရမည့်ငွေကို မျှော်ကာ ချေးငှား၍လည်း သုံးစွဲကြသည်။ သို့သော် မြေရှင်တို့၏ ချေးငွေသည် အရင်းအနှီးမဖြစ်၊ သုံးစွဲရုံသက်သက်မျှသာ ဖြစ်ရာ ၎င်းတို့ကြောင့် လုပ်ငန်းတွေ မတိုးတက်ဘဲ အတိုးနှုန်းများသာ တက်လာသည်၊ ဟူ၍ သူက နှိုင်းယှဉ်သုံးသပ်ပြသည်။

ဤသုံးသပ်ချက်မှနေ၍ အတိုးနှုန်းဆိုင်ရာ အမြင်တစ်ရပ်လည်း သူရရှိလာသည်။ ချေးငှားနိုင်သော ရန်ပုံငွေသီအိုရီ (loanable funds theory) ဟု ယနေ့ခေါ်တွင်နေသည့် အယူအဆ။

ဟျူးမ် အမြင်အရ၊ အတိုးနှုန်း အနည်းအများသည် သက်ဆိုင်ရာ စီးပွားရေးနယ်ပယ်အတွင်း ရရှိနိုင်သည့် စုငွေ (savings) ပမာဏနှင့် ယင်းစုငွေအား ချေးငှားလိုမှု အတိုင်းအဆတို့ပေါ်တွင် မူတည်သည်။ စုငွေတွေများသည့်အခါ အတိုးနှုန်းတွေ ကျသည်။ သည်အခါ စုငွေများများ ချေးငှားဖြစ်သည်။ ငွေနည်းလျှင်မူ အတိုးနှုန်းတက်မည်။ ထိုအခါ ချေးမည့်သူတွေ နောက်ဆုတ်သွားမည်။ ထို့ကြောင့် တိုင်းပြည်စီးပွားဖွံ့ဖြိုးရန် အတွက် စုငွေများများ ရှိဖို့လိုသည်။ စုငွေရှိမှ ယင်းကိုချေးငှားကာ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်နိုင်ကြမည်။ ဟျူးမ်က စုငွေနှင့် ရင်းနှီးမြှုပ်နှံငွေကို ယင်းသို့ ဆက်စပ်ပြခြင်းဖြင့် ငွေစုခြင်း၏ တန်ဖိုးကို ထင်ရှားစေခဲ့သည်။



ငွေကြေးပမာဏ (money supply) တိုးခြင်း လျော့ခြင်းတို့ကြောင့် စီးပွားရေးအပေါ် သက်ရောက်ပုံများ အကြောင်းကိုလည်း သူက ခွဲခြမ်းစိတ်ဖြာပြသည်။ စီးပွားရေးနယ်ပယ်တစ်ခုထဲသို့ ငွေကြေးသစ်များ ဝင်ရောက်လာသည့်အခါ ကနဦး၌ ကောင်းသော အကျိုးသက်ရောက်မှုများ ဖြစ်ပေါ်သည်။ သို့သော် ရေရှည်၌မူ တိုးတက်ဝင်ရောက်လာသောငွေကြောင့် ဈေးနှုန်းများသာ ကြီးမြင့်လာပြီး၊ ကုန်ပစ္စည်းထွက်ရှိမှုနှင့် အလုပ်အကိုင်ရှိမှုတို့မှာ နဂိုအတိုင်း မပြောင်းမလဲ ရှိလိမ့်မည်ဟု သူကဆိုသည်။

ထို့ပြင်၊ တိုင်းပြည်တစ်ပြည်မှ ငွေများ အခြား တိုင်းပြည်တစ်ပြည်သို့ ရောက်ရှိခြင်းကြောင့် ဖြစ်ပေါ်သည့် စီးပွားရေးဆိုင်ရာ သက်ရောက်မှုများ အကြောင်းကိုလည်း သူ စိစစ်ပြသည်။ ဒင်္ဂါးငွေစီးဆင်းမှု ဖြစ်စဉ် (specie flow mechanism) ဟုခေါ်တွင်သည့် အဆိုပါ ဖြစ်စဉ်သဘောကို ဟျူးမ်အရင် အိုင်ယာလန်ပြည်သား စီးပွားရေးပညာရှင် ရစ်ချတ်ကင်တေးလွန် (Richard Cantillon) ကစ၍ သိမြင်ခဲ့သည် ဟုဆိုသည်။ သို့သော်၊ သည်အကြောင်းရပ်ကို ဦးစွာပထမ ဖော်ထုတ်ရေးသားခဲ့သူကမူ ဒေးဗစ်ဟျူးမ် ဖြစ်ရာ၊ အမှန်တကယ် စတင်တွေ့ရှိသူအဖြစ် သူ့အားပင် အသိအမှတ်ပြုလေ့ ရှိပါသည်။ ထို့ပြင်၊ ယင်းတွေ့ရှိချက်ကြောင့်ပင် ဟျူးမ်က သူ့အရင်ရှိနှင့်သည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီတို့နှင့် သိသိသာသာ ကွဲပြားခြားနားသွားကာ၊ ၁၈ ရာစုနှောင်းပိုင်းနှင့် ၁၉ ရာစုဦးပိုင်းကာလများအတွင်း အင်္ဂလန်တွင် ဖြစ်ထွန်းပေါ်ပေါက်လာမည့် မက္ကရိုဘောဂဗေဒဆိုင်ရာ ကျမ်းရိုးသီအိုရီ (classical macroeconomic theory) ဘက်သို့ များစွာနီးစပ်လာခဲ့သည်။

❖

အထက်၌၊ ငွေကြေး တိုးတက်ဝင်ရောက်လာခြင်းကြောင့် ဖြစ်သည့် ရေတိုသက်ရောက်မှုများနှင့် ရေရှည်သက်ရောက်မှုများအကြောင်း ခွဲခြား၍ ဆိုခဲ့သည်။

ရေတို၌ ကောင်းသော အကျိုးသက်ရောက်မှုများ တွေ့မြင်ရခြင်းမှာ ငွေပမာဏ တိုးလာရုံဖြင့် ဈေးနှုန်းများ ချက်ချင်း မတက်သောကြောင့် ဖြစ်ကြောင်း သူကဆိုသည်။ ဈေးနှုန်းတို့မည်သည် ကာလရှည်ကြာ စွဲမြဲတည်တံ့နေတတ်သော သဘောရှိသည်ဟု သူ ယူဆခဲ့သည်။

စီးပွားရေးတစ်ရပ်ထဲသို့ ငွေကြေးသစ်များ ဝင်လာသည့်အခါ ဖြစ်ပျက်ပုံကို သူက ယခုကဲ့သို့ ရှင်းပြသည်။

သူ့ခေတ်က ငွေကြေးဟူသည် ရွှေဒင်္ဂါး ငွေဒင်္ဂါးများ ဖြစ်သည်။ ရွှေတွင်းငွေတွင်းများမှ တူးဖော်ပြီး ဒင်္ဂါးသွန်းလုပ်သည့်အခါ ရွှေဒင်္ဂါး ငွေဒင်္ဂါးများ ဖြစ်ပေါ်လာသည်။ သည်ဒင်္ဂါးသစ်များကို ရရှိသူတို့က ဈေးကွက်ထဲ ဝယ်ယူသုံးစွဲခြင်းဖြင့် လည်ပတ်နေသော ငွေကြေးပမာဏ တိုးပွားလာသည်။ ယင်းငွေသည် ကုန်သည်တို့လက်တွင် အမိက စုဝေးမိကြသည်။ ထိုငွေကို ၎င်းတို့က ရင်းနှီးမြှုပ်နှံမှုဘက်တွင် ပြန်လည် အသုံးပြုသည်။ လုပ်ငန်းများ တိုးတက်ချဲ့ထွင်လုပ်ကိုင်သည်။ ထိုအခါ အလုပ်အကိုင် ရရှိသူဦးရေလည်း တိုးတက်လာသည်။ သည်အခြေအနေတွင် ဈေးနှုန်း အတန်အသင့်တက်လျှင်လည်း ပြဿနာမရှိ။ ဝယ်အား လျော့မသွား။ ဈေးကောင်းရသဖြင့် ကုန်ပစ္စည်းထုတ်လုပ်သူတို့ အားတက်ကာ ပိုမိုထုတ်လုပ်ခြင်းဖြင့် စီးပွားရေးတစ်ရပ်လုံး သွက်လက်ရှင်သန်ကာ ဖွံ့ဖြိုးတိုးတက်၍နေမည်။

သို့သော်၊ ယင်းသို့တိုးတက်နေရင်းက အချိန်ကာလတစ်ခု ရောက်သော်၊ အလုပ်အကိုင် တိုးပွားမှုသည် လုပ်ခကြီးမားမှု ဘက်သို့ ပြောင်းလဲရွေ့ရှလာပြီး၊ လုပ်ငန်းများကလည်း ဝယ်လိုအားနှင့်လိုက်မီအောင် တိုးတက်ချဲ့ထွင်နိုင်စွမ်း မရှိသည့် အနေအထားမျိုး ကြုံလာရမည် ဖြစ်သည်။

သည်အခါ၊ ဝင်လာသည့် ငွေသစ်ကြောင့် အလုပ်အကိုင် တိုးပွားခြင်း၊ ကုန်အထွက်တိုးတက်ခြင်း စသည့် ကောင်းသော လက္ခဏာများ ပျောက်ကွယ်ကာ ဈေးနှုန်းများသာ တက်လာမည်။ သည်အချိန်တွင် ရွှေတွင်းငွေတွင်းများမှ ငွေသစ်များ ဆက်ဝင်လာနေမည်ဆိုက ဈေးနှုန်းတွေ ပို၍ပို၍သာ တက်လာနေတော့မည် ဖြစ်သည်။

❖



ထို့နောက်၊

ယင်းသို့၊ ငွေကြေးသစ်များ တိုးပွားလာခြင်းကြောင့် ပြည်ပကုန်သွယ်ရေးတွင် သက်ရောက်ဖြစ်ပေါ်သည့် ဒင်္ဂါးငွေစီးဆင်းမှုဖြစ်စဉ်၏ သဘောကိုလည်း သူ ဆက်၍ သုံးသပ်ပြသည်။

တိုင်းပြည်တစ်ပြည်၌ ရွှေသတ္တုတွေ့ရှိ၍ ရွှေဒင်္ဂါးများ သွန်းလုပ်သုံးစွဲနိုင်သည် ဆိုပါစို့။ ယင်း၏စီးပွားရေးတွင် မည်သို့မည်ပုံ ဖြစ်ပေါ်မည်နည်း။

ပြန်၍ စဉ်းစားကြည့်ရသော်၊

ပြည်တွင်း၌ လည်ပတ်ငွေ (ရွှေဒင်္ဂါး) တိုးတက်များပြားလာလျှင် အထွေထွေဈေးနှုန်းများ တိုးမြင့်လာမည်ဖြစ်ကြောင်း အထက်၌ ဆိုခဲ့သည်။ ဈေးတက်သည့်အခါ ဘာဆက်ဖြစ်သနည်း။

တိုင်းပြည်တစ်ပြည်၌ ကုန်ဈေးနှုန်းများ ကြီးမြင့်သည့်အခါ၊ ယင်းတိုင်းပြည်ထွက် ကုန်ပစ္စည်းများသည် အခြားတိုင်းပြည်ထွက် အလားတူ ကုန်ပစ္စည်းများနှင့် ပြည်ပဈေးကွက်တွင် ဈေးနှုန်းအရ မယှဉ်နိုင်ဖြစ်လာမည်။ ထိုအခါ ပြည်ပသို့ ကုန်တင်ပို့မှု ကျဆင်းမည်။ တစ်ဖက်တွင်၊ ပြည်ပကုန်ပစ္စည်းများက ပြည်တွင်းဖြစ်ထက် အဖိုးနှုန်းချိုသာသဖြင့် ပြည်တွင်းသို့ ကုန်တင်သွင်းမှု တိုးတက်မည်။ ထိုအခါ ပြည်တွင်းသို့ ဝင်လာသောငွေထက် ပြည်ပသို့ထွက်သော ငွေကများသဖြင့် ပြည်တွင်း လည်ပတ်ငွေ လျော့ကျသွားမည်။

သို့သော်။ သည်တွင် ရပ်မနေ။ ပြည်တွင်း၌ ငွေကြေးလျော့ပါးမှုကြာရှည်သော် သုံးစွဲနိုင်မှု လျော့ကျသဖြင့် ပြည်တွင်းကုန်ဈေးနှုန်းတို့ တစ်ဖန်ပြန်၍ ကျဆင်းလာမည် ဖြစ်သည်။

ဤသုံးသပ်ချက်မှ ထင်ရှားထွက်ပေါ်လာသည့် အချက်က၊ ကုန်သွယ်ရေး မညီမျှမှုဟူသည် တစ်သမတ်တည်း ကာလကြာရှည်တည်မနေနိုင်၊ ဟူ၍ဖြစ်သည်။

ကုန်သွယ်ရေး ပိုငွေပြနေသည့် တိုင်းပြည်များ၌၊ တဖြည်းဖြည်း ပြည်တွင်းလည်ပတ်ငွေပမာဏ များပြားပိုလျှံကာ ငွေကြေးဖောင်းပွခြင်း

လက္ခဏာများ ပေါ်ပေါက်လာလိမ့်မည်။ ထိုအခါ အထက်၌ဆိုခဲ့သည့် ဆင့်ပွားသက်ရောက်မှုများ ဖြစ်ပေါ်ကာ၊ နောက်၌ ပြည်ပတင်ပို့မှု လျော့ကျပြီး ကုန်သွယ်ရေး ပို့ငွေပြမှုလည်း ပြန်၍လျော့ကျလာမည် ဖြစ်သည်။ တစ်ဖက်တွင်၊ ကုန်သွယ်ရေး လိုငွေပြနေသည့် တိုင်းပြည်များသည်လည်း၊ ပြည်တွင်း၌ ငွေကြေးပမာဏ လျော့ကျခြင်း၊ ထိုမှတစ်ဆင့် ကုန်ဈေးနှုန်း ကျဆင်းခြင်း၊ ထိုမှတစ်ဆင့် သွင်းကုန်လျော့ကျ၍ ပို့ကုန်တိုးလာခြင်းများ ဖြစ်ကာ ကုန်သွယ်ရေး လိုငွေပြမှု တဖြည်းဖြည်း လျော့ပါးပြီး သွင်းကုန် ထုတ်ကုန် တန်ဖိုးချင်းညီမျှသော အနေအထားသို့ ပြန်လည်ရောက်ရှိမည် ဟူ၍ဖြစ်သည်။

တစ်ဖန်၊

ဤသုံးသပ်ချက်မှ နောက်ထပ်ဆင့်ပွားထွက်ပေါ်လာသည့် အချက် တစ်ရပ် ရှိသေးသည်။ ယင်းကား၊ ပြည်ပကုန်သွယ်ရေးတွင် ညီမျှသော အနေအထား (သွင်းကုန်နှင့်ထုတ်ကုန် တန်ဖိုးချင်းညီသော အနေအထား) ရှိနေသည့် တိုင်းပြည်တစ်ပြည်၏ ငွေကြေး (ရွှေ) ပမာဏသည် မျှခြေအဆင့် (equilibrium level) ၌တည်ငြိမ်နေမည် ဟူသောအချက် ဖြစ်ပါသည်။

❖

ဆင်းရဲသောနိုင်ငံနှင့် ချမ်းသာသောနိုင်ငံတို့ ကုန်သွယ်ကြလျှင် ယင်းတို့အသီးသီး၌ မည်သို့သော အကျိုးရလာဒ်များ ဖြစ်ပေါ်လိမ့်မည်နည်း ဟူသောအချက်ကိုလည်း ဟျူးမ် စူးစမ်းအဖြေရှာခဲ့သည်။ သည်ကိစ္စမှာ တိုင်းပြည်တစ်ပြည် စီးပွားတိုးတက်အောင် မည်သို့လုပ်ဆောင်မည်နည်း ဟူသောပြဿနာနှင့်လည်း နီးနီးကပ်ကပ် ဆက်စပ်ပတ်သက်နေသဖြင့် တကယ်ပင်အရေးကြီးပါသည်။

စင်စစ်၊ ဟျူးမ်တို့ ၁၈ ရာစုခေတ်က စတင်ငြင်းခုံခဲ့ရသည့် ယင်းပြဿနာသည် ယနေ့တိုင် ပြီးပြတ်နိုင်ခြင်း မရှိသေးပါ။

လွန်ခဲ့သော နှစ်အနည်းငယ်က အရှေ့-အနောက် ဂျာမဏီနှစ်နိုင်ငံ



ပြန်လည်ပေါင်းစည်းရန် စီစဉ်ကြသည့်အခါ၊ ပူးပေါင်းပြီးလျှင် မည်သို့သော စီးပွားရေးပြဿနာတွေ ပေါ်ပေါက်လာနိုင်သနည်း ဟူသောအချက်သည် အကြီးအကျယ် စဉ်းစားချိန်ဆစရာ ဖြစ်ခဲ့ပါသည်။ အလားတူ၊ ဥရောပ သမဂ္ဂထဲသို့ ဂရိ၊ စပိန် စသည့် နိုင်ငံများဝင်ရောက်လာလျှင် ဘာတွေဖြစ်လာ နိုင်သနည်း ဟူသောကိစ္စ၊ မြောက်အမေရိကနိုင်ငံများနှင့် တောင်အမေရိက နိုင်ငံများ ကုန်သွယ်ရေးအုပ်စုဖွဲ့လျှင် အသာအနာတွေ ဘယ်သို့ရှိကြ မည်နည်း ဟူသောကိစ္စများသည်လည်း၊ ယခု ဟျူးမ် စူးစမ်းအဖြေရှာသည့် ပြဿနာထဲတွင် အကျုံးဝင်ပါသည်။

ဟျူးမ်က၊ ကုန်သွယ်မှု ပြုခြင်းအားဖြင့် ဆင်းရဲသော တိုင်းပြည် များတွင် အကျိုးဖြစ်ပြီး၊ ချမ်းသာသော တိုင်းပြည်များ အတွက်လည်း ထိခိုက်မှုမရှိဟု ဆိုခဲ့ပါသည်။ ကုန်သွယ်မှုကြောင့် ဆင်းရဲသော တိုင်းပြည် များ တိုးတက်ဖွံ့ဖြိုးကာ၊ လူနေမှု အဆင့်အတန်းသည်လည်း ချမ်းသာသော အိမ်နီးချင်းနိုင်ငံများ - ကုန်သွယ်ဖက်တိုင်းပြည်များ၏ အဆင့်ကို လိုက်မီ လာနိုင်သည်၊ ဟု သူက ယူဆခဲ့သည်။

ချမ်းသာသော တိုင်းပြည်များနှင့် ကုန်သွယ်ဆက်ဆံသဖြင့် ဆင်းရဲ သော နိုင်ငံတွင် လူနေမှုအဆင့် မြင့်လာနိုင်သည်ဟု ဟျူးမ် တွက်ဆရာ၌ သူ အဓိက ထည့်သွင်းစဉ်းစားခဲ့သည့် အချက်တစ်ရပ်က နည်းပညာ လွှဲပြောင်းရောက်ရှိမှု (transfer of technology) ဖြစ်၏။ ခေတ်မီ တိုးတက်သော နိုင်ငံများမှ အဆင့်မြင့်နည်းပညာများ ရရှိသဖြင့် တောင်ကိုရီးယား၊ မလေးရှား၊ ထိုင်ဝမ်၊ ဟောင်ကောင် စသည့် တိုင်းပြည် ငယ်များ အလျင်အမြန် ဖွံ့ဖြိုးသွားခြင်းက ဟျူးမ်၏ အယူအဆကို ထောက်ခံနေသော သဘော ရှိသည်။

ထို့ပြင်၊ ဆင်းရဲချမ်းသာ မညီမျှသော နိုင်ငံနှစ်ခု ကုန်သွယ်မှု ပြုခြင်းကြောင့် ချမ်းသာသော နိုင်ငံ၌လည်း ပို့ကုန်ဈေးကွက် ရရှိခြင်းကြောင့် အကျိုးရှိသည်ဟု ဟျူးမ်က ဆိုပါသည်။ ထိုအကြောင်းကြောင့်ပင်၊ နိုင်ငံချင်းချင်း ကုန်သွယ်ရာ၌ ထိန်းချုပ်တားဆီးမှုမပြုဘဲ လွတ်လပ်စွာ ဆောင်ရွက်ခွင့် ပေးထားသင့်ကြောင်း သူထောက်ခံပြောဆိုခဲ့ခြင်း ဖြစ်သည်။

❖

သူ့ခေတ်ကာလ၏ လက်ငင်းစီးပွားရေး ပြဿနာများနှင့်၊ ထိုစဉ်က လွှမ်းမိုးသည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီတို့၏ စီးပွားရေးဆိုင်ရာ အမေး ပုစ္ဆာများကို အဖြေရှာရန် ကြိုးစားခြင်းမှ စတင်ကာ၊ ဟျူးမ်၏ စီးပွားရေး အတွေးအမြင်များ ပေါ်ထွက်ခဲ့ခြင်း ဖြစ်သည်။ အက်ဒမ်စမစ် (Adam Smith) တို့ကဲ့သို့ ကျယ်ပြန့်ပြည့်စုံသော စီးပွားရေးသီအိုရီတစ်ရပ် ဖော်စပ် နိုင်ခြင်း မရှိသော်လည်း၊ ထိုစဉ်က အသစ်ဖြစ်နေသည့် သူ၏ ရှုမြင် သုံးသပ်ချက်များမှာ သူ့နောက်ပေါ်ထွန်းမည့် ကျမ်းရိုးဘောဂဗေဒသမား (classical economist) များအပေါ် များစွာလွှမ်းမိုးမှု ရှိခဲ့သည်။

စီးပွားရေးပညာသမိုင်း ပြုစုသူတို့ကမူ၊ ဟျူးမ်အား ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီများနှင့် ဗြိတိသျှ ကျမ်းရိုးဘောဂဗေဒသမားများ အကြား အသွင်ကူးပြောင်းမှုကာလ၏ ထင်ရှားသော ပညာရှင်တစ်ဦးအဖြစ် မှတ်ယူ ကြပေသည်။

# အက်ဒမ်စမစ်
## (၁၇၂၃ - ၉၀)



အက်ဒမ်စမစ် (Adam Smith) မတိုင်မီ နှစ်ပေါင်းများစွာကပင် စီးပွားရေးဆိုင်ရာ ပြဿနာများအကြောင်း ဆွေးနွေးဝေဖန်ခြင်း၊ စီးပွားရေး ပညာ၏ အခြေခံသဘောတရားများကို ဖော်ထုတ်ဖွင့်ဆိုရေးသားခြင်းများ ရှိနှင့်ခဲ့ပြီး ဖြစ်သည်။ သို့သော် စီးပွားရေးပညာ၏ ဖခင်ကြီးဟူသော အမည်နာမကိုမူ ပညာရှင်အများစုတို့ကပင် စမစ်အား တညီတညွတ် ချီးမြှင့် ခဲ့ကြပါသည်။

သူ့အား ထိုသို့ သတ်မှတ်ခေါ်ဝေါ်ရခြင်းမှာ၊ သူ၏ အယူအဆများ ထူးခြား ဆန်းသစ်လှခြင်းကြောင့် မဟုတ်။ စီးပွားရေးကို ခွဲခြမ်းစိတ်ဖြာ သုံးသပ်ရာ၌ ထိရောက်ထက်မြက်သည့် နည်းနာနိဿယများ တီထွင်ဖန်တီး ပေးနိုင်ခြင်းကြောင့်လည်း မဟုတ်။ "အရင်းရှင်စီးပွားရေးစနစ် (capitalism) ဟူသည် လူတိုင်းလူတိုင်းအား ဘဝအခြေ တိုးမြှင့်စေသော စီးပွားရေး စနစ် ဖြစ်သည်၊" ဟူသော သူ၏ရှုမြင်ချက် အတွက်ကြောင့်သာ ဖြစ်သည်။

စီးပွားရေးနယ်ပယ်အတွင်း အပြိုင်အဆိုင် လုပ်ကိုင်ကြမှုများမှနေ၍ အများအတွက် အကျိုးရလဒ်များ မည်သို့ ထွက်ပေါ်သည့်အကြောင်း စမစ် ကောင်း တွေ့မြင်ခဲ့ပြီး၊ ယင်းရှုမြင်ချက်ကို အခြေခံကာ စီးပွားရေးရာ၌

ပြိုင်ဆိုင်မှုများ တိုးပွားအောင် အားပေးမြှင့်တင်သည့် ပေါ်လစီများ ချမှတ်သင့်ကြောင်း သူ တိုက်တွန်းပြောဆိုခဲ့သည်။

ယင်းအတွက်၊ အစိုးရပိုင်းအနေနှင့် ရပ်တည်သင့်သည့် အနေအထားနှစ်ရပ် သူဖော်ပြသည်။ ပထမအချက်မှာ စီးပွားရေးနယ်ပယ်၌ အစိုးရ ပါဝင်ပတ်သက်မှု လျှော့ချရေးဖြစ်ပြီး၊ ဒုတိယအချက်မှာမူ၊ လွတ်လပ်စွာ ပြိုင်ဆိုင်မှုကို ပိတ်ပင်တားဆီးရာရောက်သည့် လက်ဝါးကြီးအုပ် လုပ်ကိုင်မှုများ မထွန်းကား မပေါ်ပေါက်ရအောင် အစိုးရက ဟန့်တားပေးရေးဖြစ်သည်။

❖

စမစ်ကို စကော့တလန်ပြည် အက်ဒင်ဘာရာမြို့အနီးရှိ ကတ်ကောလ်ဒီ (Kirkcaldy) မြို့ကလေးတွင် ၁၇၂၃ ခုနှစ်က မွေးသည်။ သူ့ဖခင်က ရှေ့နေလည်းဖြစ်၊ အကောက်ခွန်တာဝန်ခံတစ်ဦးလည်း ဖြစ်သည်။ သို့သော် သူ မမွေးမီကလေးမှာပင် ကွယ်လွန်ခဲ့ရာ၊ စမစ်မှာ မိခင်၏ ထိန်းကျောင်းမှုနှင့်၊ ဖခင်က သေတမ်းစာရေးသား ခန့်အပ်ထားခဲ့သည့် အုပ်ထိန်းသူတို့၏ ကြီးကြပ်မှုအောက်တွင် ကြီးပြင်းရသည်။

စမစ်မှာ ငယ်စဉ်က ချူချာသောကလေးတစ်ယောက် ဖြစ်ခဲ့သည်။ သို့သော် စာဖတ်ဝါသနာပါသဖြင့်၊ လက်လှမ်းမီသမျှ စာအုပ်စာတမ်းများကို သဲကြီးမဲကြီး ဖွဲဖွဲလန်းလန်း ဖတ်ရှုခဲ့သည်။ အသက် ၁၄ နှစ်တွင် မိဘများ ပို့လွှတ်သဖြင့် ဂလတ်စဂိုတက္ကသိုလ်ကျောင်းသို့ တက်ရောက်ရသည်။ ဂလတ်စဂိုတွင် ကိုယ်ကျင့်ဒဿန၊ သင်္ချာနှင့် နိုင်ငံရေးဘောဂဗေဒတို့ကို သင်ယူရသည်။ ၁၇၄၀ ခုနှစ် (အသက် ၁၇ နှစ်) တွင် အောက်စဖို့ဒ် တက္ကသိုလ်သို့တက်ရန် စကောလားရှစ်ဆုရသဖြင့် ယင်း၏ လက်အောက်ရှိ ဘေလီယောလ်ကောလိပ်တွင် ၆ နှစ်မျှ ပညာသင်ကြားရသည်။

အဲသည်အချိန်က အောက်စဖို့ဒ်မှာ ပညာပိုင်းဆိုင်ရာအရ စိတ်ဝင်စားတက်ကြွစရာမရှိဟု စမစ်မြင်သည်။ စာလည်း ကောင်းကောင်း



မသင်၊ အလေးအနက် လေ့လာသင်ယူမှုလည်း သိပ်မရှိလှ။ ပို့ချတာန်းများများ မရှိသည့်အခါ အချိန်တွေ ပိုနေသည်။ သည်တော့၊ စာကြည့်တိုက်မှာ နာရီပေါင်းများစွာ ထိုင်ကာ မိမိဘာသာ လေ့လာဖို့ အခွင့်အရေးရသည်။ သည်ကာလအတွင်း သူ အထူးစိတ်ဝင်တစား ဖတ်ရှုခဲ့သည်က စာပေ၊ ဒဿနနှင့် သမိုင်းဘာသာရပ်များ ဖြစ်သည်။

နောက်ပိုင်းတွင် စမစ်က၊ ဆရာများကို လစာပေးရာ၌ ၎င်းတို့ သင်ကြားပေးရသည့် ကျောင်းသားဦးရေ အနည်းအများပေါ်တွင် မူတည်၍ ပေးသင့်ကြောင်း အကြံပြုပြောဆိုဖူးရာ၊ အောက်စဖို့ဒ်မှာ သူကြုံတွေ့ခဲ့ရသည့် အားမရဖွယ် အနေအထားများပေါ်တွင် အရင်းခံသည့် စိတ်ကူးစိတ်သန်း ဖြစ်လိမ့်မည်ဟု ယူဆရသည်။

၁၇၅၁ ခုနှစ်တွင် စမစ်အား ဂလတ်စဂိုတက္ကသိုလ်က ယုတ္တိဗေဒ ပါမောက္ခအဖြစ် ခန့်အပ်ပြီး၊ နောက်နှစ်တွင်မူ ကိုယ်ကျင့်ဒဿနပညာ ပါမောက္ခအဖြစ် တာဝန်ယူရသည်။ တက္ကသိုလ်တွင် သူ၏ ကိုယ်ကျင့်တရားဆိုင်ရာ ပို့ချချက်များကို ကျောင်းသားများ စိတ်ဝင်စားသဖြင့် သူ့အတန်းသို့ တက်ရောက်သူ များလှသည်။ ထို့ပြင်၊ ၎င်းအကြောင်းအရာများကိုပင် စာတစ်စောင် ပေတစ်ဖွဲ့ဖြစ်အောင် ရေးသားပြုစုသည့် The Theory of Moral Sentiments (ကျင့်ဝတ်စိတ်ဓာတ်များဆိုင်ရာ သီအိုရီ) ကျမ်းမှာလည်း သူ၏ ပထမဆုံးအောင်မြင်သော လက်ရာတစ်ခု ဖြစ်ခဲ့သည်။

၎င်းကျမ်းတွင် စမစ်က လူ၌ အမှန် – အမှား၊ သင့်တော် – မသင့်တော်တို့ကို ပိုင်းခြားဝေဖန်နိုင်စွမ်းရှိစေသည့် ကျင့်ဝတ်ဆိုင်ရာ ခံစားမှုများ ဖြစ်ပေါ်ပုံအကြောင်းကို ရှင်းလင်းတင်ပြနိုင်ရန် အားထုတ်ခဲ့သည်။ စမစ်က လူသည် ကိစ္စရပ်များအပေါ် မိမိအကျိုးစီးပွား ရှုထောင့်မှကြည့်ကာ နှစ်သက်ခြင်း မနှစ်သက်ခြင်းများ ဖြစ်တတ်ကြောင်း၊ သို့သော် တစ်ဖက်တွင် လူ၌ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဆန္ဒဖွဲ့အမြင်များကို ပယ်ခွာကာ ဘက်လိုက်ခြင်းကင်းသော ပြင်ပပုဂ္ဂိုလ်တစ်ယောက်ကဲ့သို့ ဓမ္မဓိဋ္ဌာန်ကျကျ ရှုမြင်နိုင်စွမ်းလည်း ရှိသေးကြောင်း၊ ထို့နောက်၊ ထိုအစွမ်းသတ္တိကြောင့် လူ၌ မှန်မှားသိစိတ် (conscience) ကိန်းအောင်းကာ မိမိ လုပ်ကိုင်

ဆောင်ရွက်ရာတို့၌ လူမှုကျင့်ဝတ်အရ သင့်မသင့် တော်မတော် ချင့်ချိန် ထိန်းသိမ်းနိုင်ကြပုံ အကြောင်းများကို သူ ရေးသားခဲ့သည်။

သူ့စာအုပ်ကို ဖတ်ရှုပြီး အကြီးအကျယ် နှစ်သက်ကြသူများထဲတွင် ချားလ်(စ)တောင်ရှင် (Charles Townshend) အမည်ရှိ ပုဂ္ဂိုလ် တစ်ယောက်လည်း ပါဝင်သည်။ တောင်ရှင်က သူ၏ ဇနီးဘက်က ပါလာသည့် သားဖြစ်သူ ဘပ်ကလူးမြို့စားကလေး (Duke of Buccleuch) အတွက် ဆရာရှာလျက်ရှိရာ၊ စာအုပ်ကို ဖတ်ပြီးသည့်နောက်တွင်မူ စမစ်သည်သာ အကောင်းဆုံး အသင့်တော်ဆုံး ဟုဆုံးဖြတ်လိုက်သည်။ သူ့အစီအစဉ်မှာ မြို့စားကလေးအား ဆရာစမစ်နှင့်အတူ ပြင်သစ်ပြည်သို့ သွားရောက်ကာ ဒေသန္တရ၊ ဘာသန္တရဗဟုသုတများနှင့် အခြားအသိပညာများ ရှာမှီးရင်း စမစ်၏ လမ်းညွှန်သွန်သင်မှုများကို ခံယူစေရန် ဖြစ်သည်။ သည်အတွက် စမစ်အား ကမ်းလှမ်းသည့်အခါ စမစ်က လက်ခံသည်။ လက်ရှိဂလတ်စဂိုတက္ကသိုလ် ကျောင်းဆရာအလုပ်မှ ထွက်ကာ မြို့စားလေးနှင့်အတူ ပြင်သစ်ပြည်သို့ သူ လိုက်ပါခဲ့သည်။ သည်အလုပ်သစ်က သူ့အတွက် အခွင့်အလမ်းတွေ အများကြီးပေးခဲ့သည်။ ပြင်သစ်ပြည်အနှံ့အပြားလည်ပတ်ခရီးသွားခွင့်ရသည်။ စာဖတ်ရန်၊ စဉ်းစားတွေးခေါ်ရန် အချိန်တွေ အများကြီးရသည်။ ဖရွန်ဆွာကင်နေး (François Qucsnay) အပါအဝင် ပြည်သစ်ပြည်မှ မြေအဓိကစီးပွားရေးဝါဒီ (physiocrat) များနှင့် တွေ့ဆုံနိုးနှောခွင့်ရသည်။ ပြင်သစ်မှာနေထိုင်စဉ် ၁၇၆၄ ခုနှစ်နှစ်ဦးပိုင်း၌ အင်္ဂလန်ရှိ သူ၏မိတ်ဆွေ တွေးခေါ်ရှင် ဒေးဗစ်ဟျူးမ် (David Hume) ထံ စာရေးသည့်အခါ၊ အချိန်တွေပိုနေသဖြင့် စာတစ်အုပ် ရေးနေကြောင်း စမစ် ထည့်သွင်းရေးသားခဲ့သည်။

အချိန်တွေပိုသဖြင့် ရေးသားနေသည်ဆိုသော ထိုစာအုပ်က စီးပွားရေးပညာသမိုင်းတွင် အထင်ရှားဆုံး စာအုပ်တစ်အုပ် ဖြစ်လာမည့် The Wealth of Nations (နိုင်ငံတို့၏ ဓနဥစ္စာ) ကျမ်း ဖြစ်သည်။

ပြင်သစ်ပြည်တွင် သုံးနှစ်ခန့် လိုက်ပါနေထိုင်ပြီးနောက် ကတ်ကောလ်ဒီသို့ ပြန်ခဲ့သည်။ ပြင်သစ်မှာ စခဲ့သည့် စာအုပ်ကို ဆက်လက်



ရေးသားရာ ၁၀ နှစ်ခန့်ကြာတော့မှ အပြီးသတ်သည်။ ၁၇၇၆ တွင် 'နိုင်ငံတို့၏ ဓနဥစ္စာ' ကျမ်းကို ပုံနှိပ်ထုတ်ဝေဖြစ်ရာ၊ ၎င်းစာအုပ်နှင့်အတူ **စမစ်၏** အမည်မှာ တစ်ဟုန်ထိုး ကျော်ကြားသွားခဲ့ပြီး၊ ငွေကြေးလည်း **အများအပြား** သူ ရရှိခဲ့သည်။ The Wealth of Nations ဟူ၍ အများ ကိုးကားပြောဆိုလေ့ရှိကြသော်လည်း စာအုပ်အမည် အပြည့်အစုံမှာ An Inquiry into the Nature and Causes of the Wealth of Nations ဖြစ်သည်။

'ကျင့်ဝတ်စိတ်စွဲများဆိုင်ရာ သီအိုရီ' မှာတုန်းက၊ လူသည် ဆန္ဒစွဲ အမြင်ကို ဖယ်ခွာကာ လူမှုကျင့်ဝတ်အရ သင့်မသင့် တော်မတော်ကို ကြည့်ရှုဝေဖန်၍ လုပ်ကိုင်တတ်ကြောင်း သူ ရေးခဲ့သည်။ 'နိုင်ငံတို့၏ ဓနဥစ္စာ' တွင်မူ၊ ယင်းနှင့်ဆန့်ကျင်လျက်၊ လူတို့သည် မိမိတို့ အကျိုးစီးပွားကို မြော်မြင်၍သာ လုပ်ကိုင်တတ်ကြကြောင်း သူ ဆိုလာသည်။ သို့သော်၊ သည်တွင်ရပ်မနေ။ လူတစ်ဦးချင်းစီက မိမိအကျိုးစီးပွားကို အဓိကမြော်မြင်၍ လုပ်သော အလုပ်တို့သည် စုပေါင်းလိုက်သောအခါ၌ အများကောင်းဖို့ ဖြစ်လာသည်၊ ဟူ၍ သူ ရှုမြင်လာသည်။

သည်အချက်နှင့် စပ်လျဉ်း၍၊ 'နိုင်ငံတို့၏ ဓနဥစ္စာ' ကျမ်းတွင် သူက၊ ... လူသည် မိမိ၏ အကျိုးအမြတ်ကိုသာ ရည်မျှော်၍ လုပ်ကိုင်ကြောင်း၊ သို့သော် မမြင်ရသောလက်တစ်ခုက သူ့အား သူ့ရည်ရွယ်ချက်ထဲတွင် မပါဝင်ခဲ့သော အရာတစ်ခုကို အကောင်အထည် ဖော်ဖြစ်အောင် [illegible]ဆောင်ခေါ်ငင်သွားကြောင်း၊ ရေးသားခဲ့သည်။ ထို၊ မရည်ရွယ်ခဲ့သော အရာဟူသည်ကား နိုင်ငံ့စီးပွား ဖွံ့ဖြိုးတိုးတက်ကာ၊ တစ်တိုင်းပြည်လုံး၏ လူနေမှုအဆင့်အတန်း မြင့်မားသွားစေခြင်း ဖြစ်သည်။

'နိုင်ငံတို့၏ ဓနဥစ္စာ' တွင်၊ တိုင်းပြည်၏ လူနေမှုအဆင့်အတန်းကို မြှင့်တင်ပေးနိုင်သည့် အကြောင်းခြင်းရာများကို ခွဲခြမ်းစိစစ်ပြသည်။ ကိုယ်ကျိုးစီးပွားကို မြော်မြင်မှု (self-interest) နှင့် အပြိုင်အဆိုင်လုပ်ကိုင်မှု (competition) တို့က စီးပွားဖွံ့ဖြိုးအောင် အထောက်အကူပြုပုံ အကြောင်းကို ရှင်းလင်းသုံးသပ်ပြသည်။ ထို့ပြင် အစိုးရတို့၏ ဆောင်ရွက်ချက်[illegible] တိုင်းပြည်စီးပွား ဖွံ့ဖြိုးမှု မဖွံ့ဖြိုးမှုအပေါ် သက်ရောက်ပုံများ အကြောင်း

ကိုလည်း စိစစ်လေ့လာသည်။ စမစ်၏ ထိုလေ့လာ သုံးသပ်ချက်များသည် သူ့အရင် ရှိနှင့်သည့် ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီ (mercantilist) တို့၏ စီးပွားရေးသီအိုရီများနှင့် ယင်းသီအိုရီများပေါ်တွင် အခြေခံသည့် စီးပွားရေး မူဝါဒများအား ဝေဖန်တိုက်ခိုက်သည့် သဘော ရှိခဲ့သည်။

❖

စမစ်က၊ စက်ယန္တရားတပ်ဆင်ခြင်း (mechanization) နှင့် အလုပ်ခွဲဝေခြင်း (division of labour) တို့သည် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဖြစ်ပေါ်စေသည့် အကြောင်းရင်းကြီးများဖြစ်သည် ဟုယူဆသည်။ စက်မှုတော်လှန်ရေး (industrial revolution) အစပျိုးစဉ်ကာလ အင်္ဂလန်ပြည်တွင် နေထိုင်လျက်ရှိသူဖြစ်ရာ၊ နည်းပညာသစ်များကြောင့် စီးပွားရေးတွင် ပြောင်းလဲဖြစ်ပေါ်ပုံများကို ကိုယ်တိုင်ကိုယ်ကျ သူ မြင်တွေ့နေရသည်။ ၁၇၃၀ ခုနှစ်များအတွင်း တီထွင်လိုက်သည့် လွန်းပျံ (flying shuttle) ခေါ် ရက်ကန်းစက်က လက်ရက်ကန်းထက် အဆမတန် စွမ်းရည်သာပေရာ အထည်ရက်လုပ်ငန်းများ အလွန်လျင်မြန်သွက်လက်လာသည်။ ၁၇၆၉ တွင် ချည်ငင်စက် (spinning jenny) ပေါ်လာရာ လူတစ်ယောက်တည်း အချိန်တိုအတွင်း ချည်အများအပြားကို ငင်နိုင်လာသည်။ ယင်းသို့ နည်းပညာဆိုင်ရာ အသစ်တီထွင်တွေ့ရှိမှု၊ စက်ယန္တရားများ တိုးတက်သုံးစွဲလာနိုင်မှုတို့ကြောင့် ရက်ကန်းလုပ်သားတစ်ဦးစီ၏ ထုတ်လုပ်နိုင်မှု စွမ်းအားသည် စက်ယန္တရား မပေါ်မီကထက် အဆပေါင်းများစွာ တိုးတက်လာခဲ့သည်။

ထို့ပြင်၊ အလုပ်ခွဲဝေခြင်း (ဝါ) အလုပ်ပိုင်းခြားလုပ်ကိုင်ခြင်းကြောင့် လုပ်သားတို့၏ ထုတ်လုပ်နိုင်မှုစွမ်းအား တိုးမြင့်လာရပုံအကြောင်းကိုလည်း 'နိုင်ငံတို့၏ ဓနဥစ္စာ' ကျမ်း အဖွင့်ပိုင်းမှာပင် ဖော်ပြထားသည်။ ထိုအချက်နှင့်ပတ်သက်၍ စမစ်က သူတို့ခေတ်ကာလ ပင်အပ်စက်ရုံများ၏ ကုန်ထုတ်လုပ်ငန်းစဉ်ကို နမူနာတင်ကာ ထင်ရှားအောင်ပြခဲ့သည်။



ပင်အပ်တစ်ခုဖြစ်အောင် လုပ်ရသည့် လုပ်ငန်းစဉ်ကို **အဆင့်ဆင့်** ပိုင်းခြားကာ၊ လုပ်သားတစ်ဦးစီအား တစ်ဆင့်စီ လုပ်ကိုင်စေလျက်ရှိသည့် ပင်အပ်စက်ရုံတွင်၊ ပထမတစ်ယောက်က နန်းကြိုးထုတ်ပေးသည်၊ ဒုတိယတစ်ယောက်က နန်းကြိုးကိုဖြောင့်ပေးသည်၊ တတိယက သတ်မှတ် **အရှည်** အတိုင်း ဖြတ်ပေးသည်၊ စတုတ္ထလုပ်သားက တစ်ဖက်ထိပ်ကို ချွန်ပေးသည်၊ ပဉ္စမက၊ ကျန်ထိပ်တစ်ဖက်တွင် ခေါင်းတပ်၍ရအောင် သွေးပေးသည်၊ ထို့နောက် နှစ်ဆင့်သုံးဆင့်ဆက်လုပ်သော် ခေါင်းတစ်ခု ဖြစ်ပေါ်လာသည်။ ဤသို့ဖြင့်၊ နောက်ဆုံး၌ ချွန်မြ၍ သပ်ရပ်လှပသည့် ပင်အပ်တစ်ချောင်း ထွက်ပေါ်လာသည်အထိ စုစုပေါင်းအဆင့် ၁၈ ဆင့် လုပ်ကြရသည်။

ပင်အပ်စက်ရုံများက ထိုအဆင့် ၁၈ ဆင့်ကို လုပ်သား ၁၀ ဦးတို့အား သင့်တင့်လျော်ကပတ်စွာ တာဝန်ခွဲဝေ၍ လုပ်ကိုင်စေရာ၊ ပျမ်းမျှ တစ်နေ့လျှင် ပင်အပ် ၄၈,၀၀၀ ကျော်မျှ ထုတ်လုပ်ရရှိကြသည်။ အကယ်၍သာ သည်လုပ်သား ၁၀ ယောက်ကို မိမိတို့ဘာသာ တစ်ဦးချင်း သီးသန့်စီ အစအဆုံး လုပ်ကိုင်ကြပါဟူ၍ ခိုင်းစေမည်ဆိုက တစ်နေ့တာ အလုပ်ချိန်အတွင်း လုပ်သားတစ်ယောက်စီသည် အလွန်ဆုံး ပင်အပ်နှစ်ချောင်းလောက်သာ ပြီးစီးနိုင်ကြလိမ့်မည်ဟု စမစ်က ဆိုပါသည်။

တစ်ဦးချင်းသီးခြားစီ အလုပ်လုပ်က တစ်နေ့တွင် ပင်အပ်အချောင်း ၂၀ သာ ထုတ်လုပ်နိုင်မည့် လုပ်သား ၁၀ ဦးသည် အလုပ်တာဝန် ဆင့်ကမ်းခွဲဝေ၍ လုပ်သည့်အခါ ယင်းထက်အဆပေါင်း ၂၀၀၀ ကျော် ထုတ်လုပ်နိုင်ကြောင်း စမစ်က တွက်ပြလိုက်ခြင်း ဖြစ်သည်။

အလုပ်ကို ကဏ္ဍပိုင်းခြားလုပ်ကိုင်ခြင်းဖြင့် လုပ်သားတို့၏ ထုတ်လုပ်မှုစွမ်းရည်များ အဘယ်ကြောင့် ထိုမျှ တိုးတက်သွားရသနည်း။ အဓိကအကြောင်းရင်းများက၊ (၁) အလုပ်၏ သေးငယ်သောကဏ္ဍ အစိတ်အပိုင်း တစ်ခုတည်းကိုသာ ထပ်တလဲလဲ ကြိမ်ဖန်များစွာ လုပ်ရခြင်းဖြင့် အသီးသီးသော လုပ်သားတို့သည် မိမိ တာဝန်ယူရသော ကဏ္ဍ၌ အဆမတန် ကျွမ်းကျင်သွက်လက်ကာ စက်ယန္တရားတစ်ခုပမာ လျင်မြန်လာခြင်း၊ (၂) အလုပ်၏အဆင့်အားလုံးကို တစ်ဦးတည်း လုပ်ရသည့်အခါ တစ်ဆင့်မှ

တစ်ဆင့်သို့ အကူးအပြောင်းတွင် ချိန်ဆခြင်း၊ ရွှေ့ပြောင်းခြင်း၊ ပြင်ဆင်ခြင်းများအားဖြင့် အချိန်များစွာ လေလွင့်ပြုန်းတီးရသော်လည်း၊ တစ်ဆင့်တည်း တာဝန်ယူထားသူမှာမူ တစ်ခုပြီးတစ်ခု ဆက်တိုက် လုပ်သွားနိုင်သဖြင့် အချိန်ဆုံးရှုံးမှု မရှိသလောက်နည်းသွားခြင်း၊ (၃) အဆင့်တစ်ဆင့်တည်း လုပ်ရသည့် လုပ်သားသည် သူ့အဆင့်၌ လုပ်အားနှင့်အချိန် တတ်နိုင်သမျှ လျော့ပါးသက်သာစေမည့် နည်းနာသစ် အထောက်အကူပစ္စည်းသစ်များကို ကြံဆမိ တီထွင်ဖန်တီးမိနိုင်သည့် အခွင့်အလမ်း ပို၍များပြားရာ၊ ယင်းကြောင့် ထုတ်လုပ်မှုစွမ်းရည် ပိုမိုထက်မြက်လာစေခြင်း၊ စသည်တို့ ဖြစ်ကြောင်း သူ ဖော်ပြခဲ့သည်။

စမစ်က၊ လူတို့၌ ရောင်းဝယ်ဖလှယ်လိုသော စိတ်နှင့် မိမိ၏ ရုပ်ပိုင်းဆိုင်ရာ အနေအထားများ တိုးတက်ကောင်းမွန်စေလိုသော ဆန္ဒတို့သည် ပင်ကိုသဘာဝထဲမှာပင် ပါရှိနေပြီး ထိုစိတ်ဆန္ဒတို့၏ တိုက်တွန်းမှုနှင်အားကြောင့်ပင် အလုပ်တာဝန်ခွဲဝေခြင်း၊ ယင်း၏ရလဒ်အဖြစ် ကုန်ထုတ်လုပ်မှုစွမ်းရည် တိုးတက်ခြင်းတို့ ဖြစ်ပေါ်ရသည် ဟုရှုမြင်သည်။ သို့သော် အလုပ်ခွဲဝေခြင်း၌ အရေးကြီးသော အကန့်အသတ်တစ်ခုရှိကြောင်းလည်း သူသိသည်။ အကယ်၍ စက်ရုံများအနေနှင့် ပိုမိုထွက်ရှိလာသည့် ပင်အပ်များကို ရောင်းချနိုင်ခြင်း မရှိက ထုတ်လုပ်မှုစွမ်းအား တိုးတက်အောင် လုပ်ဆောင်ရန် အကြောင်းမရှိတော့။ ထိုအခါ စက်ယန္တရားများ တီထွင်တိုးချဲ့သုံးစွဲခြင်း၊ လုပ်သားတို့အား အလုပ်တာဝန်အဆင့်ဆင့် ခွဲခြမ်းလုပ်ကိုင်စေခြင်း စသည်များ ပြုလုပ်ရန်လည်း အကြောင်းမရှိတော့။ ထို့ကြောင့်၊ ထိုသို့မဖြစ်စေလိုက ဈေးကွက်ကို တိုးချဲ့ဖို့လိုသည်။ ဥပမာ၊ ငင်းတို့ဗြိတိန်ပြည်၏ ကုန်ထုတ်လုပ်မှုစွမ်းအား တိုးတက်နေရန်အတွက် ဆိုလျှင် ဗြိတိန်၏ဈေးကွက်ကို တိုးတက်ချဲ့ထွင်နိုင်ဖို့ လိုသည်၊ ဟူ၍ သူက ကောက်ချက်ချကာ၊ ယင်းအတွက် နိုင်ငံတကာနှင့် လွတ်လပ်စွာကုန်သွယ်မှု ပြုရေးကို သူ ထောက်ခံတင်ပြသည်။

ကုန်သွယ်ရေး လွတ်လပ်မှုရှိသည့်အခါ ဗြိတိသျှလုပ်ငန်းများမှ ထွက်ကုန်ကို နိုင်ငံတွင်းသာမက ပြည်ပဈေးကွက်သို့ပါ တင်ပို့ရောင်းချ



နိုင်ကြမည်။ ထို့ပြင် ကုန်ထုတ်လုပ်ငန်းများအတွက် လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ဈေးနှုန်းချိုသာစွာ တင်သွင်းပြီး ကုန်ချောပြုလုပ်ကာ ပြည်ပသို့ ပြန်လည်တင်ပို့ရောင်းချခြင်းဖြင့်လည်း အကျိုးအမြတ် ရရှိနိုင်ဦးမည်ဟု သူ ရှုမြင်သည်။

သည်ရှုမြင်ချက်များအားဖြင့်၊ လွတ်လပ်စွာ ကုန်သွယ်ခွင့်ရှိရေးကို သူထောက်ခံတင်ပြသည့်အခါ၊ ယခင် တွင်ကျယ်လျက်ရှိသည့် ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒနှင့် ဆန့်ကျင်ဘက် ဖြစ်လာသည်။

ကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီတို့က ပြည်ပကုန်သွယ်ရေးတွင် ငွေပြရန်အတွက် မိမိက များများရောင်းပြီး သူတစ်ပါးထံမှ နည်းနည်းသာ ဝယ်ယူသည့် ပေါ်လစီကို ကျင့်သုံးသည်။ စမစ်ကမူ၊ ပြည်ပကုန်ပစ္စည်းများ ပြည်တွင်းသို့ မဝင်သာအောင် ထိန်းချုပ်ကန့်သတ်ခြင်းသည် တိုင်းပြည်၏ သူနေမှုအဆင့်အတန်း မတိုးတက်နိုင်အောင် တားဆီးထားသောသဘော သက်ရောက်သည်ဟု မြင်သည်။ ကမ္ဘာသစ် (အမေရိကတိုက်) ရှိ အင်္ဂလိပ် ကိုလိုနီနယ်မြေများမှ ငွေကြေးရရှိခြင်းနှင့် စပ်လျဉ်း၍လည်း ကုန်သွယ်ရေး ထိန်းချုပ်မှုဝါဒီတို့၏ တွက်ချက်မှု လွဲမှားကြောင်း သူကဆိုသည်။ အင်္ဂလန်အနေနှင့် အမေရိကတိုက်သို့ ကုန်ပစ္စည်းများ တင်ပို့ရောင်းချကာ ငွေကြေး (ရွှေဒင်္ဂါးငွေဒင်္ဂါး) များ ရရှိနေရုံသက်သက်ဖြင့် အင်္ဂလန်မှာ အကျိုးဖြစ်ထွန်းနေပြီဟု ယူဆ၍မရ၊ ငင်းရွှေငွေဖြင့် အရင်းအနှီးပြုကာ အလုပ်ခွဲဝေလုပ်ကိုင်ခြင်းသည့် ကုန်ထုတ်နည်းနာသစ်များအားဖြင့် နဂိုမူလထက် ကုန်ပစ္စည်းများစွာ ပိုမိုထွက်ရှိအောင် လုပ်ဆောင်ကြမှသာ အင်္ဂလန်၌ စီးပွားဖွံ့ဖြိုးသာနိုင်သည်ဟု သူကတင်ပြသည်။

သို့သော်၊ လွတ်လပ်စွာကုန်သွယ်မှု ဆိုရာ၌၊ အကန့်အသတ် အထိန်းအချုပ် လုံးဝကင်းမဲ့သည့် လွတ်လပ်မှုမျိုးကို သူ တောင်းဆိုသည် မဟုတ်။ နိုင်ငံ့ခေနဥစ္စာတိုးပွားရေးထက် ပို၍ဦးစားပေးရမည့် နိုင်ငံ့လုံခြုံရေး ကဲ့သို့သော အရေးကိစ္စမျိုးလည်း ရှိသေးသည်ဟု သူ ရှုမြင်သည်။ ထို့ကြောင့်၊ ဥပမာအားဖြင့် ဗြိတိသျှ၏ စစ်အင်အားကို လျော့ပါးစေပြီး တိုင်းတစ်ပါး၏ စစ်အင်အား တိုးပွားစေမည့် ကုန်သွယ်မှုမျိုးကို ထိန်းချုပ်ဖို့

လိုအပ်ကြောင်း သူ အကြံပြုသည်။ ထိုသဘောကြောင့်ပင်၊ သူက ထိုစဉ်က ရှိခဲ့သည့် အင်္ဂလိပ်ရေကြောင်းအက်ဥပဒေကို ထောက်ခံခဲ့ခြင်း ဖြစ်သည်။ ထိုဥပဒေအရ အမေရိကမှလာသည့် ကုန်သင်္ဘောများသည် အခြားဥရောပ တိုင်းပြည်များသို့ မိမိတို့ဘာသာ တိုက်ရိုက်ပို့ဆောင်ခွင့် မရှိဘဲ၊ အင်္ဂလန်တွင် ရပ်နားကာ မိမိတို့ကုန်စည်များကို ဗြိတိသျှသင်္ဘောများသို့ လွှဲပြောင်းတင်ပြီးမှ သက်ဆိုင်ရာ ဒေသအသီးသီးသို့ ပို့ဆောင်ရောင်းချခွင့် ရကြသည်။ သည်ပေါ်လစီကို စမစ် ထောက်ခံရသည့် အကြောင်းက၊ ယင်းအစီအစဉ်ကြောင့် ဗြိတိသျှကုန်သင်္ဘောတွေ အလုပ်များများ ရမည်၊ ထိုအခါ သင်္ဘောအရေအတွက် တိုးပွားမည်၊ လေ့ကျင့်ပြီးသား သင်္ဘောသားများလည်း အများအပြား ရှိနေမည်၊ ထိုသင်္ဘောနှင့် သင်္ဘောသားများသည် စစ်ရေးကိစ္စကြုံသည့်အခါ ဗြိတိသျှကျွန်းစုကို ကာကွယ်မည့် အရေးကြီးသော အင်အားစုတစ်ခု ဖြစ်နေမည်ဟူသော စစ်ရေးအမြင်ကြောင့် ဖြစ်သည်။

တစ်ဖက်တွင်မူ စမစ်က၊ ဗြိတိသျှကုန်စည်များကို ထိန်းချုပ်ကန့်သတ်သည့် အခြားတိုင်းပြည်များအား လက်တုံ့ပြန်သည့်သဘောဖြင့် အခွန် တင်းတင်းကျပ်ကျပ် ကောက်ခံရန် အကြံအစည်ကို ဆန့်ကျင်သည်။ သူတစ်ပါး ပေါ်လစီ မကောင်းသဖြင့် ကိုယ်ကလည်း မကောင်းသော ပေါ်လစီမျိုး လိုက်ချမှတ်ရန် မသင့်ဟု သူ ယူဆသည်။ သူ့အမြင်အရ ပြည်တွင်း၌ လုပ်ငန်းအသင်းအဖွဲ့ (guild) များက အလုပ်သင်များ၊ အလုပ်သမားများအား နယ်မြေသစ်များ၊ အလုပ်အကိုင် အခွင့်အလမ်းသစ်များ ရှိရာသို့ မရွှေ့ပြောင်းနိုင်အောင် တင်းတင်းကျပ်ကျပ် ထိန်းချုပ်ဟန့်တားခြင်းများ ပြုလုပ်မထားပါက၊ လုပ်သားတို့အနေနှင့် ပြည်ပကုန်စည်များ ဝင်ရောက်ပြိုင်ဆိုင်လာရုံဖြင့် အလုပ်မဲ့ ဝင်ငွေမဲ့ ဖြစ်ရစရာ အကြောင်းမရှိ။ ပြည်ပကို မယှဉ်ပြိုင်နိုင်သဖြင့် ရပ်နားလိုက်ရသော လုပ်ငန်းမှ လုပ်သားသည် ပြည်ပကို ယှဉ်နိုင်သဖြင့် ဖွံ့ဖြိုးလာသော လုပ်ငန်းများမှ ပိုမိုကောင်းသော အလုပ်နှင့်လစာဝင် ငွေများကို ရရှိနိုင်ကြမည် ဖြစ်သည်။

သို့သော်၊ ဤသည်မှာ သဘောတရားဖြစ်၍၊ တကယ်လက်တွေ့၌မူ အကူးအပြောင်းတို့မှာ မျှော်လင့်သလောက် မလျင်မြန်ဘဲ



ရှိနေနိုင်ရာ၊ ယင်းအနေအထားမျိုးတွင် ထိန်းညှိနိုင်ရန်အတွက် ပြည်ပကုန်စည်များအား ကောက်ခံနေသည့် တင်းကျပ်သော အခွန်များကို တိခနဲ မဖြတ်တောက် မဖယ်ရှားဘဲ ဖြည်းဖြည်းချင်းသာ လျှော့ချရန် သူ အကြံပြုသည်။

စမစ်တို့ခေတ်၌၊ ပျိုးထောင်စ ပြည်တွင်းလုပ်ငန်းများအား ကာကွယ်မှုအကောက်ခွန် (protective tariff) စနစ်ဖြင့် ကျားကန်ပေးသင့်သည်ဟူသော အယူအဆတစ်ခု လူကြိုက်များလျက်ရှိသည်။ နိုင်ငံအစိုးရတို့အနေဖြင့် မိမိတိုင်းပြည်၌ ယခုမှ စတင်ထူထောင်ရသည့် လုပ်ငန်းမျိုးကို အကာအကွယ် ပေးသင့်သည်၊ အကြောင်းမူ ပျိုးထောင်စ လုပ်ငန်းများမှာ အတွေ့အကြုံ နုနယ်သေး ကျွမ်းကျင်မှု နည်းသေးသည် ဖြစ်ရာ၊ ပြည်ပရှိ ကျွမ်းကျင်ပြီး ဝါရင့်ပြီး လုပ်ငန်းများနှင့် တန်းတူယှဉ်ပြိုင်နိုင်သော အခြေအနေ မရှိ၊ သူ့အား အတွေ့အကြုံ ဖူလုံသည့် အချိန်ထိ စောင့်ရှောက်ကာကွယ်ပေးမှသာ ပြည်ပနှင့်ယှဉ်ပြိုင်နိုင်သည့် အဆင့်အထိ ကြီးထွားဖွံ့ဖြိုးနိုင်လိမ့်မည်၊ စသဖြင့် ၎င်းအယူအဆသမားတို့က ဆိုကြသည်။

စမစ်က သည်အယူအဆကို လက်မခံ။ ၎င်းအတိုင်း ကျင့်သုံးပါက စွမ်းရည်မပြည့်ဝသည့် လုပ်ငန်းများကို လက်ဝါးကြီးအုပ် လုပ်ကိုင်ခွင့်ပေးထားသလို ဖြစ်လိမ့်မည်၊ တိုင်းပြည်တွင်းရှိ တန်ဖိုးရှိသည့် ငွေပင်ငွေရင်းများကိုလည်း ပိုမိုအကျိုးရှိမည့် လုပ်ငန်းများတွင် မသုံးနိုင်ဘဲ အရည်အသွေးမီပစ္စည်းများ မထုတ်လုပ်နိုင်သည့် ထိုအခွင့်ထူးခံ လုပ်ငန်းများဆီသို့ လမ်းလွှဲပေးရာ ရောက်လိမ့်မည်ဟု သူမြင်သည်။

စမစ်က၊ လက်ဝါးကြီးအုပ်စနစ်သည် လွတ်လပ်စွာကုန်သွယ်မှု၏ ရန်ဘက်ဖြစ်သည်၊ ဗြိတိသျှကုန်စည်များ ဈေးကွက်နယ်ပယ်ကျယ်ဝန်းရေး၊ စီးပွားရေးဖွံ့ဖြိုးမှု လျင်မြန်ရေးတို့ကို ဆန့်ကျင်တားဆီးသော အရာလည်း ဖြစ်သည် ဟုယူဆသည်။ သူက၊ လက်ဝါးကြီးအုပ်စနစ်ကြောင့် ဖြစ်ပေါ်နိုင်သည့် ဆိုးကျိုး (၄) ရပ်ကို ဖော်ထုတ်တင်ပြသည်။ တစ်အချက်၊ တစ်ဦးတည်း ချုပ်၍ လုပ်ကိုင်ခွင့်ရသည့်အခါ ကုန်ပစ္စည်းကို တန်ရာတန်ဖိုးထက် ဈေးပိုတင်သဖြင့် စားသုံးသူမှာ နစ်နာသည်။ လုပ်ငန်းရှင်ဆိုသူများမှာ

မိမိကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများအား ဈေးတင်ဖို့အတွက်ဆိုလျှင် တစ်ပါးသူတို့နှင့် အလွယ်တကူ ပူးပေါင်းဆောင်ရွက်တတ်ကြသော သဘောရှိရာ၊ လုပ်ငန်းနယ်ပယ်တစ်ခု၌ လုပ်ငန်းရှင်အရေအတွက် နည်းမည်၊ လုပ်ငန်းတို့၏ အရွယ်ပမာဏကလည်း ကြီးမားမည်ဆိုက သူတို့ချင်း ပူးပေါင်းကာ လူထုအကျိုးစီးပွားနှင့် ဆန့်ကျင်ပြီး ဈေးနှုန်းများ မတန်တဆ မြှင့်တင်နိုင်သည့် အခွင့်အလမ်းများ ပိုလာသည်။

နှစ်အချက်။ လက်ဝါးကြီးအုပ်အလုပ်များသည် လုပ်ငန်းစီမံခန့်ခွဲမှု စွမ်းရည်များကို ပျက်စီးစေသည်။ လုပ်ငန်းချင်းအပြိုင်အဆိုင် လုပ်ကိုင်နေရသည့် အခါမျိုးတွင် မန်နေဂျာအဆင့်ဆင့်တို့သည် မိမိတို့ တာဝန်ယူထားရသည့် ကဏ္ဍအသီးသီး၏ လုပ်ငန်းစွမ်းရည်များ အမြင့်မားဆုံး အထက်မြက်ဆုံး ဖြစ်နေအောင် မပြတ်ကြိုးစည်အားထုတ် ကြရသည်။ အပြိုင်အဆိုင်လောကတွင် စွမ်းရည်ပိုင်း၌ သူများထက် ရှေ့ကပြေးနေနိုင်မှ ရှင်သန်မည်၊ နေးကွေးညံ့ဖျင်းလာသည်နှင့် တစ်ပြိုင်နက် မိမိတို့ထက် စွမ်းရည်မြင့်မားသူတွေက ကျော်တက်သွားကာ၊ နောက်ဆုံး၌ လုပ်ငန်းနယ်ပယ်မှ တွန်းထုတ်ဖယ်ရှားခြင်း ခံရမည် ဖြစ်သည်။ လက်ဝါးကြီးအုပ်လုပ်ခွင့် ရထားသူများမှာမူ သူတစ်ပါးနှင့် ယှဉ်ပြိုင်စရာ မလိုသဖြင့် အားထုတ်မှုလျော့ကာ စီမံခန့်ခွဲမှုစွမ်းရည်များလည်း လျော့ကျသွားမည် ဟုဆိုခြင်း ဖြစ်ပါသည်။

တတိယ။ လက်ဝါးကြီးအုပ်လုပ်ခွင့် ရထားသည့် လုပ်ငန်းစုတို့မှ ပုဂ္ဂိုလ်များသည် မိမိတို့ အထူးခံစားနေရသော အနေအထားများ မပျက်ယွင်းရအောင် ကာကွယ်စောင့်ရှောက်ပေးရန် အစိုးရများထံ ချဉ်းကပ်တောင်းခံသော အလုပ်ကို၊ အခြားလွတ်လပ်စွာ ယှဉ်ပြိုင်လုပ်ကိုင်နေကြသည့် လုပ်ငန်းကဏ္ဍများမှ လုပ်ငန်းရှင်တို့ထက် ပို၍ကြိုးစားပမ်းစား လုပ်ကိုင်တတ်ကြသော သဘောရှိသည်။ ၎င်းတို့၏ တောင်းခံမှုကို လိုက်လျောကာ ထုတ်ပြန်ချမှတ်ပေးလိုက်သည့် ပြဋ္ဌာန်းချက်များသည် အများပြည်သူတို့အတွက် ထိခိုက်နစ်နာစေသည့် ဖိနှိပ်ချုပ်ချယ်သော ဥပဒေများ ဖြစ်နေတတ်သည်။ သည်ကိစ္စအတွက် သာဓကအဖြစ် စမစ်က၊ ပြည်ပသို့ သိုးများ



တင်ပို့ရောင်းချမှု မပြုရန် တားမြစ်သည့် ဥပဒေကို ပြသည်။ ထိုစဉ်က ဗြိတိန်ပြည်သည် သိုးမွေးထည်လုပ်ငန်းကို ကြီးစိုးထားလျက်ရှိသည်။ ထိုသို့ ကြီးစိုးထားနိုင်ရန်အတွက် ဗြိတိသျှပါလီမန်သည် သိုးမွေးထည်လုပ်ငန်းကို ချုပ်ကိုင်ခွင့်ရထားသည့် လက်ဝါးကြီးအုပ်လုပ်ငန်းရှင်ကြီးများ တောင်းဆိုသည့်အတိုင်း၊ ဗြိတိသျှသိုးများ ပြည်ပသို့ ရောင်းချခြင်း မပြုရအောင် တားမြစ်ပိတ်ပင်သည့် တင်းကျပ်သော ဥပဒေစည်းမျဉ်းများ ချမှတ်ထုတ်ပြန်ပေးထားခဲ့သည်။ ဗြိတိန်မှ အမျိုးကောင်းသိုးများ ပြည်ပသို့ မရောက်ရှိသည့်အခါ အခြားတိုင်းပြည်များအနေနှင့် ဗြိတိန်၏ သိုးမွေးထည်လုပ်ငန်းကို ယှဉ်ပြိုင်နိုင်သည့် အဆင့်သို့ တက်မလာနိုင်တော့။ သို့သော်၊ တစ်ဖက်တွင် ဗြိတိန်ရှိ သိုးမွေးမြူရေးသမားများမှာ မိမိကုန်ပစ္စည်းကို လွတ်လပ်စွာ ရောင်းဝယ် ဖောက်ကားခွင့် မရ၊ သိုးမွေးထည် လုပ်ငန်းရှင်များ၏ လက်အောက်ခံဘဝသို့ ရောက်ရှိနေရပေသည်။

စတုတ္ထအချက်အနေဖြင့် စမစ်က၊ လက်ဝါးကြီးအုပ် လုပ်ငန်းများသည် ငွေပင်ငွေရင်းများကို နေရာ လွဲမှား ရောက်ရှိစေသည် ဟုဆိုသည်။ ၎င်းလုပ်ငန်းသမားများမှာအပြိုင်အဆိုင် မရှိသည့်အလျောက် ဈေးနှုန်းများကို စိတ်တိုင်းကျ မြှင့်တင်သတ်မှတ်နိုင်ကြရာ ယင်းအတွက် အကျိုးအမြတ် အမြောက်အမြား ရရှိကြသည်။ သည်အမြတ်အစွန်းတွေကို ရင်းနှီးမြှုပ်နှံကာ လုပ်ငန်းကို တိုးချဲ့ကြသည်။ သို့သော် ထိုတိုးချဲ့သော လုပ်ငန်းမှ ထွက်ပေါ်လာသော ပစ္စည်းတို့သည် စားသုံးသူပေးရသော ဈေးနှုန်းနှင့် ထိုက်တန်သော အရည်အသွေးမီ ကုန်ပစ္စည်းများမဟုတ်၊ သူတစ်ဦးတည်းရှိ၍သာ မကြိုက်ဘဲ အောင့်ကာသုံးနေရသည့် အရာများ ဖြစ်နေသည်။ စင်စစ်တွင် လုပ်ငန်းအမြတ်အစွန်းတို့သည် အရည်အသွေးမြင့်မားပြီး ဈေးနှုန်းလည်း ချိုသာသည့် ကုန်ပစ္စည်းများ ထုတ်လုပ်နိုင်ရေးအတွက် လုပ်ငန်းယန္တရားကို တိုးချဲ့မွမ်းမံရာ၌ အထောက်အပံ့ ပြုသင့်သည်ဟု သူကမြင်ပေသည်။

❖

အက်ဒမ်စမစ်အား လွတ်လပ်စွာစီးပွားရှာခွင့် (laissez-faire) ဝါဒ၏ ဦးဆောင်နာယကအဖြစ် သတ်မှတ်ပြောဆိုလေ့ရှိကြရာ၊ ထို သတ်မှတ်ချက်အရမူ စီးပွားရေးရာ၌ အစိုးရတို့ ဝင်ရောက်လုပ်ကိုင်သမျှကို သူ ဆန့်ကျင်ကန့်ကွက်လိမ့်မည် ဟုယူဆစရာ အကြောင်းရှိ၏။ သို့သော် လက်တွေ့၌ ထိုသို့မဟုတ်ပေ။

စီးပွားရေးနယ်ပယ်၌ အစိုးရတို့ ဝင်ရောက်ဆောင်ရွက်သင့်သည့် အရေးကြီးသော လုပ်ငန်းကဏ္ဍ (၄) ရပ်ရှိကြောင်း သူ အသိအမှတ်ပြု ပြောဆိုခဲ့သည်။

ပထမတစ်ရပ်မှာ စီးပွားရေးနယ်ပယ်၌ လက်ဝါးကြီးအုပ်လုပ်ကိုင်မှု များ မရှိရအောင် ကာကွယ်ပေးခြင်း၊ တစ်နည်းဆိုသော် အများသူငါတို့ အပြိုင်အဆိုင် လုပ်ကိုင်နိုင်သော အနေအထားမျိုး တည်ရှိနေအောင် ထိန်းသိမ်းပေးခြင်းဖြစ်၍၊ အကျယ်ကို အထက်တွင် ဆိုခဲ့ပြီး ဖြစ်ပါသည်။

ဒုတိယက၊ နိုင်ငံကို ပြည်ပအန္တရာယ်တို့မှ ကာကွယ်စောင့်ရှောက် သည့်ကိစ္စ ဖြစ်သည်။ သည်ကိစ္စမှာ အစိုးရတို့သာ တတ်နိုင်သည်ဖြစ်ရာ ယင်းအတွက် လိုအပ်မည်ဆိုက၊ အထက်တွင်ဆိုခဲ့သည့် အင်္ဂလိပ်ရေကြောင်း အက်ဥပဒေကဲ့သို့သော ဥပဒေများ သတ်မှတ်ပြဋ္ဌာန်းခြင်း၊ ကာကွယ်ရေး အသုံးစရိတ် ရရှိရန်အတွက် စီမံဆောင်ရွက်ခြင်း၊ စသည်များမှာ ပြုလုပ်သင့် သည်ဟု သူရှုမြင်သည်။

တတိယမှာ၊ ပြည်တွင်း၌ တည်ငြိမ်အေးချမ်းမှု၊ ပြည်သူလူထု လုံခြုံမှုနှင့် ရောင်းရေးဝယ်တာ အပါအဝင် ပြည်သူချင်းချင်း ဆက်ဆံရာတို့၌ တရားမျှတမှု ရှိစေရန်အတွက် အစိုးရက တရားစီရင်ရေးစနစ်နှင့် ယင်းကို ထောက်ကူမည့် ရဲတပ်ဖွဲ့ အစရှိသည်များ စီမံခန့်ထားခြင်း ဖြစ်သည်။

စတုတ္ထမှာ၊ ပြင်ပသက်ရောက်မှု (externalities) များပြားသည့် အများပြည်သူသုံးပစ္စည်းများ (public goods) နှင့်စပ်လျဉ်း၍ အစိုးရက ကိုင်တွယ်ဆောင်ရွက်ပေးမှုကို သူ ထောက်ခံခြင်း ဖြစ်သည်။

'ပြင်ပသက်ရောက်မှု' နှင့်စပ်လျဉ်း၍ အနည်းငယ်ရှင်းရသော် ဈေးကွက်အတွင်း ရောင်းဝယ်ဖောက်ကားမှုများသည် ယေဘုယျ



အားဖြင့် စားသုံးသူက ငွေပေးပြီး၊ ထုတ်လုပ်သူက ကုန်ပစ္စည်း သို့မဟုတ် ဝန်ဆောင်မှုကို ပေးရသည့် သဘောတူ ဖလှယ်မှုမျိုးဖြစ်၍၊ သာခြင်းနာခြင်း တို့သည် ၎င်းတို့နှစ်ဦးနှင့်သာ သက်ဆိုင်သည်။ ဥပမာ၊ ဈေးထဲမှ ကြက်သား ကို ပေါက်ဈေးအတိုင်း ဝယ်ယူခြင်း၊ ဆံသဆိုင်၌ သူ့သတ်မှတ်နှုန်းထား ပေးကာ ဆံပင်ညှပ်ခြင်း၊ စသည်များ ဖြစ်သည်။

သို့သော် တစ်ခါတစ်ရံ၌ လူတစ်ဦး၏ စီးပွားရေးအလုပ်က သက်ဆိုင်သူ ပြင်ပလူများကို သွားထိခိုက်တာမျိုးတွေ ရှိနေတတ်သည်။ ဥပမာ၊ ရပ်ကွက်ထဲတွင် စက်ရုံတည်သည့်အခါ ရပ်ကွက်နေလူများမှာ စက်ရုံ၏အမြတ်ငွေကို ခွဲဝေမရရှိသော်လည်း၊ စက်ရုံမှထွက်သည့် ဆူညံသံ၊ မီးခိုး အစရှိသည့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဒဏ်များကို ခံစားရခြင်းမျိုး ဖြစ် သည်။ ဤသည်ကို အနုတ်လက္ခဏာဆောင်သော ပြင်ပသက်ရောက်မှုများ (negative externalities) ဟုခေါ်ပါသည်။

တစ်ဖက်တွင် အပေါင်းလက္ခဏာဆောင်သော (ဝါ) ကောင်းသော ပြင်ပသက်ရောက်မှုများ (positive externalities) လည်းရှိပါသေးသည်။ ဥပမာ၊ အေတီအင်တီကုမ္ပဏီ၏ သုတေသနသမားများက ထရန်စစ္စတာကို တီထွင်ခဲ့ရာ ယင်းမှစတင်၍ အီလက်ထရွန်းနစ်ခေတ်ကြီး ဖြစ်ပေါ်သည် အထိ သိပ္ပံလောကနှင့် လူ့အသုံးအဆောင်ပစ္စည်းလောကတွင် အကြီး အကျယ် ပြောင်းလဲတိုးတက် သွားခဲ့ပါသည်။ ယင်းအတွက် တစ်ကမ္ဘာလုံး ခံစားရသော အကျိုးကျေးဇူးနှင့် နှိုင်းစာသော် အေတီအင်တီ၏ အမြတ် အစွန်းသည် မပြောပလောက်သော ပမာဏမျှလောက်သာ ရှိပါသည်။ အခြား ကောင်းသော ပြင်ပသက်ရောက်မှု ဖြစ်ပေါ်သည့်လုပ်ငန်း ဥပမာများ အဖြစ်၊ အဝေးပြေးလမ်းမကြီးများ ဖောက်လုပ်ခြင်း၊ မိုးလေဝသစခန်းများ တည်ဆောက်ဖွင့်လှစ်ခြင်း၊ ပြည်သူ့ကျန်းမာရေးအစီအမံများ ချမှတ်ခြင်း၊ ခေတ်မီတက္ကသိုလ်ကျောင်းကြီးများ ထူထောင်ခြင်း စသည်တို့ကို ဖော်ပြနိုင် ပါသည်။

အဆိုပါ အများပြည်သူသုံးကိစ္စများ၏ ထူးခြားချက်တစ်ရပ်မှာ နောက်ထပ်လူတစ်ယောက် ပိုသုံးသဖြင့် ကုန်ကျစရိတ် တက်မသွားနိုင်

www.burmeseclassic.com

သလို၊ ၎င်းလူထံမှ သုံးစွဲခ ကောက်ခံဖို့လည်း မလွယ်ကူသောသဘော ဖြစ်ပါသည်။ ဥပမာ၊ မီးပြတိုက်တစ်ခု တည်ဆောက်ထားရှိရသည့် စရိတ်သည် သင်္ဘောတစ်စီးတည်းကို မီးပြရလျှင်လည်း သည်အတိုင်း၊ အစီး ၁၀၀၊ ၁၀၀၀ ပြရလျှင်လည်း သည်အတိုင်းပဲ ရှိနေမည်။ သင်္ဘော အသွားအလာများသဖြင့် သူ့စရိတ် တက်မလာ။ သို့သော် တစ်ဖက်၌ မီးပြခ တောင်းခံသည့် ကိစ္စတွင် အခက်အခဲရှိသည်။ ထို့ကြောင့် မီးပြတိုက်လုပ်ငန်းကို ပုဂ္ဂလိကများ လုပ်ကိုင်ဖို့ မလွယ်ကူ။

ထို့ကြောင့်၊ အဲသည်လို အများပြည်သူသုံး ပစ္စည်းများနှင့် ပတ်သက်လျှင် အစိုးရက ဝင်ရောက်တာဝန်ယူ ဆောင်ရွက်သင့်ကြောင်း အက်ဒမ်စမစ်က ထောက်ခံအကြံပြုခြင်း ဖြစ်သည်။

❖

စမစ်က စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု၏ သဘောသဘာဝကို ရှင်းလင်းဖော်ပြရုံမက၊ ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုအလုပ်တို့မှ ပေါ်ထွက်လာသည့် ဝင်ငွေကို မည်သို့ခွဲဝေရရှိကြပုံ အကြောင်းများပါ ခွဲခြမ်းစိတ်ဖြာပြခဲ့သည်။ စင်စစ်၊ စမစ်က ဝင်ငွေခွဲဝေမှု (income distribution) နှင့် စပ်လျဉ်းသည့် အရင်းခံအချက်များအကြောင်း ကနဦးဖော်ထုတ်တင်ပြသည့် စီးပွားရေးပညာရှင် ဖြစ်ပါသည်။ သူအဓိက စူးစမ်းလေ့လာသည်က ကုန်ပစ္စည်းတို့၏ ဈေးနှုန်းများနှင့် ကုန်ပစ္စည်း ထုတ်လုပ်သူတို့အတွက် အကျိုးအမြတ်တို့ကို ဘယ်အရာက သတ်မှတ်ပြဋ္ဌာန်းသလဲ ဟူသောအချက် ဖြစ်သည်။

ဦးစွာပထမ သူက ကုန်ပစ္စည်းတစ်ခု၏ သဘာဝဈေးနှုန်း (natural price) နှင့် ဈေးကွက်ပေါက်ဈေး (market price) တို့ကို ခွဲခြားကြည့်သည်။ ဈေးကွက်ထဲမှ ပေါက်ဈေးသည် စားသုံးသူက ဝယ်ယူသည့်အခါ ပေးရသည့်ဈေးနှုန်း ဖြစ်သည်။ သည်ပေါက်ဈေးသည် ဈေးကွက်ထဲတွင် ရှိနေသည့် ၎င်းကုန်ပစ္စည်း အရေအတွက် အနည်းအများ ပေါ်တွင်လည်း



ကောင်း၊ ၎င်းပစ္စည်းကို ဝယ်ယူလိုသူအနည်းအများ (ဝါ) ဝယ်လိုအား (demand) အနည်းအများ ပေါ်တွင်လည်းကောင်း မူတည်သည်။ ကုန်ပစ္စည်း၏ သဘာဝဈေးနှုန်းဟူသည်ကမူ တက်ဈေးကျဈေးတို့က ညွှန်ပြနေသည့် မျှခြေဈေးနှုန်း (equilibrium price) ဖြစ်သည်။ တစ်နည်းဆိုရသော်၊ ရောင်းလိုအားနှင့် ဝယ်လိုအားညီမျှနေသည့် အခြေအနေတွင် ရှိမည့် ပေါက်ဈေးဖြစ်သည်။

စမစ်က ဈေးကွက်ပေါက်ဈေးနှင့် သဘာဝဈေးနှုန်းတို့သည် ဈေးကွက်အတွင်း အလိုအလျောက်ဖြစ်စဉ်သဘောအရ တူညီသော အခြေသို့ ရောက်ရှိကြရလိမ့်မည် ဟုမြင်သည်။ အကယ်၍၊ ကုန်ပစ္စည်းတစ်ခု၏ ဈေးကွက်ပေါက်ဈေးသည် သဘာဝဈေးနှုန်းထက် ပိုနေပါက မြေပိုင်ရှင်များ လုပ်ငန်းရှင်များသည် ၎င်းတို့၏ မြေယာနှင့် ငွေပင်ငွေရင်းများကို ၎င်းကုန်ပစ္စည်း ထုတ်လုပ်သည့်ဘက်သို့ ရွှေ့ပြောင်း ရင်းနှီးမြှုပ်နှံကြလိမ့်မည်။ ထိုအခါ ဈေးကွက်၌ ၎င်းကုန်ပစ္စည်း အရေအတွက် တိုးပွားလာပြီး၊ ပစ္စည်းပေါလာသည်နှင့်အမျှ ဈေးနှုန်းကျလာကာ၊ တဖြည်းဖြည်း သဘာဝဈေးနှုန်းနှင့် နီးစပ်လာမည် ဖြစ်သည်။ တစ်ဖက်တွင်လည်း၊ အကယ်၍ ဈေးကွက်ပေါက်ဈေးမှာ သဘာဝဈေးနှုန်းကိုပင် မမီ၊ နိမ့်ကျနေသည်ဆိုက ၎င်းကုန်ပစ္စည်းကို ထုတ်လုပ်နေသည့် မြေပိုင်ရှင်၊ လုပ်ငန်းရှင်များက သူတို့၏ မြေယာနှင့် ငွေပင်ငွေရင်းတို့ကို ၎င်းအလုပ်မှ ထုတ်ကာ ဈေးကောင်းသည့် အခြားကုန်ပစ္စည်းတစ်ခုဆီသို့ ရွှေ့ပြောင်းကြလိမ့်မည်။ ထိုအခါ ပထမကုန်ပစ္စည်း အထွက်လျော့ကာ ဈေးကွက်၌ ယင်း၏ ရောင်းလိုအား လျော့မည်၊ ရှားပါးမည်၊ ထိုအခါ ဈေးကွက်ပေါက်ဈေး တဖြည်းဖြည်းတိုးမြင့်ကာ သဘာဝဈေးနှုန်းနှင့် နီးကပ်လာမည် ဖြစ်သည်။

ဆက်လက်၍ စမစ်က၊ ကုန်ပစ္စည်းအသီးသီး၏ သဘာဝဈေးနှုန်းများ ပြဋ္ဌာန်းဖြစ်ပေါ်ပုံအကြောင်းကို သုံးသပ်ပြသည်။ သူက ထုတ်လုပ်မှုစရိတ် (cost of production) ကို အခြေတည်၍ စဉ်းစားခြင်း ဖြစ်သည်။ ကုန်ပစ္စည်းတစ်ခု၏ သဘာဝဈေးနှုန်းသည် ၎င်းကုန်ပစ္စည်း ထုတ်လုပ်ရာ၌ အသုံးပြုရသည့် မြေ၊ ငွေရင်းနှင့် လုပ်အားတို့အတွက် ပေးရသည့် စရိတ်များ

ပေါင်းလဒ်ပင်ဖြစ်သည်ဟု သူကဆိုသည်။ တစ်ဖန်၊ အဆိုပါ ထုတ်လုပ်မှု အင်အားစု အသီးသီးသို့ ပေးရသည့်တန်ဖိုးမှာ ယင်းတို့၏ သဘာဝနှုန်းထား (natural rate) များအတိုင်းဖြစ်သည်ဟု ဆိုပြန်ရာ၊ ယင်းသဘာဝနှုန်းထား ဟူသည်ကို သူ ဆက်လက်ရှင်းပြရန် လိုအပ်လာသည်။

သို့သော်၊ ဤကဏ္ဍနှင့်စပ်လျဉ်းသည့် စမစ်၏ အမြင်များမှာ ရှင်းလင်းတိကျမှု မရှိကြောင်း သုတေသီတို့က ဝေဖန် သုံးသပ်ကြပါသည်။

ဥပမာ၊ သဘာဝမြေငှားခ (natural rent) နှင့်ပတ်သက်၍ စမစ်က၊ မြေသည် ရှားပါးရင်းမြစ် ဖြစ်ခြင်းကြောင့် မြေငှားခဟူသည် ပိုင်ရှင် စိတ်ကြိုက် သတ်မှတ်နိုင်သည့် လက်ဝါးကြီးအုပ်ဈေးနှုန်း (monopoly price) သဘောဆောင်ကြောင်း ဆိုလေ့ရှိသကဲ့သို့၊ တစ်ခါတစ်ရံလည်း၊ မြေအဓိကစီးပွားရေးဝါဒီ (physiocrat) တို့၏ ငှားခသီအိုရီအတိုင်း၊ မြေငှားခဟူသည် မြေယာတွင် စိုက်ပျိုးရေးလုပ်ရာမှ ရရှိသည့် အပိုထွက် (surplus) အတွက် ပေးရခြင်းဖြစ်သည် ဟုဆိုတတ်ကြောင်း၊ သို့သော် တစ်ခါတစ်ရံ၌မူ၊ မြေအကောင်းအညံ့ကို လိုက်ကာ နှုန်းထားအမျိုးမျိုး သတ်မှတ်သည့် နှုန်းခွဲငှားခသီအိုရီ (differential theory of rent) သဘောမျိုးလည်း သူ ပြောတတ်သေးကြောင်း ဆိုကြပါသည်။

သဘာဝအမြတ်အစွန်းများ (natural profits) နှင့်စပ်လျဉ်းသည့် စမစ်၏သီအိုရီမှာမူ သူ၏ သဘာဝမြေငှားခသီအိုရီထက်ပင် ပို၍မသေမချာ ဖြစ်နေသည် ဟုဆိုသည်။ စင်စစ် သူက သဘာဝအမြတ်အစွန်းဟူသည် ငွေရင်းစိုက်ထုတ်ခြင်းအတွက် ပြန်လည်ရရှိသည့် အကျိုးအမြတ်ဖြစ်ကြောင်း၊ ငွေရင်းဟူသည် စုငွေမှလာကြောင်း စသည်များသာ ရှင်းလင်းခဲ့ရာ၊ ယင်းမှာ သဘာဝအမြတ်အစွန်းဟူသည်ကို ဖွင့်ဆိုရှင်းလင်းသည့် သဘောလောက်သာရှိပြီး၊ သဘာဝအမြတ်အစွန်း၏ ပမာဏကို မည်သည့် အရာများဖြင့် တိုင်းတာသတ်မှတ်ရမည့် အကြောင်းကိုကား သူ ဖော်ပြခြင်း မရှိခဲ့ ဟုဆိုကြသည်။

သဘာဝလုပ်ခ (natural wages) ဟူသည်ကို ရှင်းလင်းရန် အတွက်မူ စမစ်က၊ နေနိုင်ရုံလုပ်ခသီအိုရီ (subsistence theory of wages) ဟူသည်ကို ဖော်ထုတ်တင်ပြသည်။ ၎င်းသီအိုရီမှာ **စမစ်၏** 'နိုင်ငံတို့၏ ဓနဥစ္စာ' ထွက်ပေါ်ပြီးနောက် ရာစုနှစ်တစ်ခုလုံးမျှပင် **စီးပွား**ရေးရာ ခွဲခြမ်းစိတ်ဖြာသူများလောက၌ လွှမ်းမိုးနေခဲ့သည်။ ၎င်း**သီအိုရီအရ** သဘာဝလုပ်ခဟူသည် လုပ်သားတို့ ရပ်တည်ရှင်သန်နိုင်ရုံ၊ မိမိအမျိုး**အနွယ်** ဆက်လက်ပေါက်ဖွားစေနိုင်ရုံ မျှသာရှိသည့် နှုန်းထားဖြစ်၏။ **အကယ်၍** လုပ်ခနှုန်းသည် ၎င်းထက်လျော့နည်းမည်ဆိုက လုပ်သားတို့ ရပ်တည် ရှင်သန်နိုင်ကြလိမ့်မည် မဟုတ်။ ထိုနှုန်းထားဖြင့် အလုပ် လုပ်ကိုင်နိုင်သူ နည်းပါးလာသည့်အခါ လုပ်သားရရှိရန်အတွက် လုပ်ခကို တိုးမြှင့်ပေးရသဖြင့်၊ နောက်ဆုံး၌ နေနိုင်ရုံအဆင့်လောက် ရောက်ရှိလာရမည် ဖြစ်သည်။ တစ်ဖက်တွင်၊ အကယ်၍ လုပ်ခသည် နေနိုင်ရုံအဆင့်ထက် ပိုမိုပါက လုပ်သားတို့၏ လူနေမှုအဆင့်အတန်း တိုးမြှင့်ကာ မိသားစုဝင်ဦးရေလည်း တိုးပွားလာမည်။ ထို့နောက်တွင်မှ အလုပ်လုပ်မည့်သူဦးရေ များပြားလာသဖြင့် လုပ်ခနှုန်းထားများ ကျဆင်းကာ နေနိုင်ရုံအဆင့်သို့ ပြန်လည် ရောက်ရှိမည်၊ ဟူ၍ ဖြစ်သည်။

❖

စမစ်အား စီးပွားရေးပညာ၏ ဖခင်ကြီး ဟုဆိုကြရာ၌၊ စီးပွားရေး ပညာ၏ အခြားနယ်ပယ်များနှင့်ပတ်သက်လျှင် အငြင်း ပွားကောင်းပွားနိုင်ကြသေးသော်လည်း၊ ပြည်သူ့ဘဏ္ဍာရေး (public finance) ကဏ္ဍရပ်နှင့် ပတ်သက်လျှင်ကား သူက အငြင်းပွားစရာမလိုသည့် တကယ့်ဖခင်ကြီး အစစ် ဖြစ်သည်။

'နိုင်ငံတို့၏ ဓနဥစ္စာ'၌ တိုင်းပြည်စီးပွားရေးတွင် အစိုးရက မည်ရွေ့မည်မျှ ပါဝင်ပတ်သက်သင့်မသင့် ဟူသည့်အကြောင်းရပ်ကို သူ ရှင်းလင်းတင်ပြခဲ့ သကဲ့သို့၊ အခွန်အတုတ်ကောက်ခံသည့် နေရာ၌လည်း အကောင်းဆုံး မည်သို့လုပ်ဆောင်သင့်ကြောင်း သူအကြံပြုဆွေးနွေးခဲ့သည်။

အစိုးရတို့အနေနှင့် အများပြည်သူရေးရာ ကိစ္စရပ်များ ဆောင်ရွက်

ရန်အတွက် လိုအပ်သော ဘဏ္ဍာငွေကြေးကို ပြည်သူလူထုထံမှပင် ကောက်ခံစုစည်း ကြရမည်ဖြစ်ရာ၊ သည်အတွက် အခွန်ကောက်ရာတွင် လိုက်နာသင့်သည့်အချက် (၄) ရပ်ကို စမစ်က တင်ပြသည်။

တစ်အချက်။ အခွန်ကောက်ခံရာ၌ ဝင်ငွေနှင့် အချိုးညီစွာ ကောက်ခံသင့်သည်ဟု သူမြင်သည်။ ဝင်ငွေအပေါ် ရာခိုင်နှုန်း မည်မျှ ကောက်ခံမည်ဟူ၍ တစ်ပြေးညီသတ်မှတ်သည့် အချိုးတူအခွန်စနစ် (proportional taxation) မျိုး ကျင့်သုံးသင့်ကြောင်း သူအကြံပြုသည်။

ယနေ့ခေတ်တွင် ဝင်ငွေခွန်ကောက်ခံရာ၌ ပို၍ မျှတစေလိုသောသဘောဖြင့် ဝင်ငွေများသူတို့အား ရာခိုင်နှုန်းအချိုးအစား တိုးမြှင့်ကောက်ခံသည့် နှုန်းတိုးအခွန် (progressive taxation) စနစ်ကို ကျင့်သုံးလျက်ရှိသော်လည်း၊ စမစ်တို့ခေတ်ကမူ ဝင်ငွေနည်းသူက ရာခိုင်နှုန်းများများ ကျခံနေရသည့် နှုန်းလျှော့အခွန် (regressive taxation) စနစ်မျိုး ကျင့်သုံးလျက်ရှိခဲ့သည်။ စမစ်တင်ပြသည့်အတိုင်း အချိုးတူကောက်မည်ဆိုက ဝင်ငွေနည်းသော မိသားစုတို့မှာ အခွန်ဝန်ထုပ် လျှော့ပါးသက်သာသွားပြီး၊ ဝင်ငွေများသူတို့က မူလထက်ပို၍ ထမ်းဆောင်လာကြရမည့်သဘောဖြစ်သည်။

ဒုတိယ၊ အခွန်ထမ်းပြည်သူ (taxpayer) တို့အား ၎င်းတို့ပေးဆောင်ရမည့် အခွန်နှင့်ပတ်သက်၍ အသိပေးသင့်သည်ဟု စမစ်က မြင်သည်။ မိမိတို့အနေနှင့် အခွန် မည်မျှကျသင့်၍၊ ယင်းအား မည်သည့်ကာလအတွင်း ပေးဆောင်ရမည်ကို ကြိုတင်သိထားမှသာ အဆင်ပြေအောင်ဆောင်ရွက်နိုင်ကြမည်ဖြစ်ကြောင်း၊ ထို့ပြင်၊ အခွန်ဥပဒေကိုလည်း တစ်နှစ်တစ်မျိုး ပြောင်းလဲနေတာမျိုး မလုပ်သင့်ကြောင်း၊ အခွန်ထမ်းအနေနှင့် သက်ဆိုင်ရာနှစ်အတွက် မိမိပေးရမည့် အခွန်ငွေပမာဏကို ခန့်မှန်းချင့်တွက်နိုင်သော အနေအထားမျိုး ရှိသင့်ကြောင်း သူကအကြံပြုသည်။

တတိယ၊ အခွန်ကောက်ခံမှုကို အခွန်ထမ်းအတွက် အဆင်ပြေဆုံးအချိန်မျိုးတွင် ၎င်းအတွက် သက်သာလွယ်ကူဆုံး ပုံစံမျိုးဖြင့် ကောက်ခံသင့်သည်ဟု သူကဆိုသည်။ ဥပမာ၊ ပိုင်ဆိုင်ပစ္စည်းများ တန်ဖိုးတက်



လာသည့်အပေါ် တွက်ချက်သတ်မှတ်သည့် အရင်းတန်ဖိုးတိုးခွန် (capital gains tax) နှင့်ပတ်သက်၍၊ ယင်းပစ္စည်းကို ရောင်းချသည့် အချိန်တစ်နည်းအားဖြင့်၊ ယင်းမှအကျိုးအမြတ်ကို အမှန်တကယ် ရရှိသည့် အချိန်မျိုးတွင်မှ ကောက်ခံခြင်းမျိုး ဖြစ်သည်။ အကယ်၍၊ ပိုင်ဆိုင်ပစ္စည်းများအတွက် အရင်းတန်ဖိုးတိုးခွန်ကို တစ်နှစ်တစ်ကြိမ် တွက်ချက်ကောက်ခံနေမည်ဆိုက ပစ္စည်းပိုင်ဆိုင်သူအနေနှင့် အခွန် ပေးဆောင်ရန်အတွက် အဆိုပါပစ္စည်းကိုပင် ချရောင်းလိုက်ရသည့် အဖြစ်မျိုး ကြုံလာရနိုင်သည်။ မိမိဆန္ဒအလျောက် ရောင်းချသည့် အချိန်မျိုးတွင် အခွန်ကောက်မည်ဆိုလျှင်မူ ပို၍လွယ်ကူစွာ သူ ပေးဆောင်နိုင်မည် ဖြစ်သည်။

စတုတ္ထအချက်အနေနှင့်၊ အခွန်ကောက်ခံရာ၌ ကုန်ကျစရိတ်အသက်သာဆုံးနည်းဖြင့် ကောက်ခံသင့်ကြောင်း သူ အကြံပြုသည်။ အခွန်ကောက်ခံရန်အတွက် အမှုထမ်းအများအပြား ခန့်ထားရခြင်းမျိုး မဖြစ်သင့်ဟု သူယူဆသည်။ ထို့ပြင်၊ အခွန်ကို ကြောက်သဖြင့် လုပ်ငန်းလုပ်ကိုင်လိုစိတ် လျော့ပါးသွားသည်ဆိုတာမျိုး မဖြစ်ကြစေရန်၊ အခွန်ကို ရှောင်တိမ်းရန်နည်းလမ်းမျိုးစုံဖြင့် ကြံပမ်းလာခြင်းမျိုး (ဥပမာ၊ သွင်းကုန်အခွန်ကို ရှောင်လွှဲရန်အတွက် ကုန်ပစ္စည်းကို မှောင်ခိုတင်သွင်းခြင်းမျိုး) တိုးပွားလာစေရန်၊ နှင့် အခွန်ရှောင်တိမ်းသူတို့အား အပြစ်ပေးရာ၌လည်း စီးပွားပျက်လောက်အောင် ကြီးမားသည့် ဒဏ်ကြေးငွေမျိုး မချမှတ်မိရန်၊ သတိပြုသင့်ကြောင်းများ သူ အကြံပြုပြောဆိုခဲ့သည်။

ထို့ကြောင့် အခွန်နှင့်စပ်လျဉ်းသည့် စမစ်၏အမြင်မှာ၊ အဓိကအားဖြင့်၊ အခွန်ကြောင့် စီးပွားဖွံ့ဖြိုးမှုကို မထိခိုက်စေဖို့ပင် ဖြစ်သည်ဟုဆိုရမည် ဖြစ်ပါသည်။

❖

သုတေသီတို့က၊ စီးပွားရေးပညာ သမိုင်းတစ်လျှောက် သြဇာအကြီးမားဆုံးပုဂ္ဂိုလ်ကြီး သုံးဦးအဖြစ် ကားလ်မာ့က်(စ) (Karl Marx)၊

ဂျွန်မေးနတ်ကိန်း(စ) (John Meynard Keynes) နှင့် အက်ဒမ်စမစ်တို့အား ရွေးချယ် ဖော်ပြလေ့ရှိကြပါသည်။

နောက်လူတို့အပေါ် များစွာလွှမ်းမိုးခဲ့သည့် စမစ်၏ 'နိုင်ငံ့စီးပွားရေးဆိုင်ရာ သဘောထားအမြင်ကို ချုပ်၍ဆိုရသော်၊

စမစ်က၊ လူတစ်ဦးချင်း၏ အကျိုးစီးပွား မှန်းမျှော်မှုနှင့် တိုင်းပြည်အတွက် သက်ရောက်မှုတို့ အညီညွတ်အမျှတဆုံး အနေအထား၌ တည်ရှိအောင် ထိန်းထားပေးနိုင်က စီးပွားဖွံ့ဖြိုးတိုးတက်မှုများ စဉ်ဆက်မပြတ်ဖြစ်ပေါ်ကာ နိုင်ငံဝပြောသာယာလိမ့်မည် ဟုရှုမြင်သည်။ ထိုအနေအထားထိခိုက်ပျက်ယွင်းသွားစေနိုင်သည့် အကြောင်းကိစ္စများ (ဝါ) ပြဿနာများကို လိုက်လံစူးစမ်းကြည့်သည့် အခါ၌မူ၊ လွတ်လပ်ဈေးကွက်ထဲတွင် အစိုးရတို့ ဝင်ရောက်စွက်ဖက်မှု၊ အချို့လုပ်ငန်း (ရှင်) ကြီးများက လက်ဝါးကြီးအုပ် ချုပ်ကိုင်လာမှု၊ နှင့် အခွန်အကောက်ဆိုင်ရာ မူဝါဒ မှားယွင်းမှုတို့ကို သူ အဓိက သွားတွေ့သည်။ ထို့ကြောင့်၊ ၎င်းရှုမြင်ချက်အရ သူကကုန်သွယ်ရေးထိန်းချုပ်မှုဝါဒီတို့၏ မူဝါဒများကို ပြင်းဆန်ကန့်ကွက်ခြင်း၊ လက်ဝါးကြီးအုပ် လုပ်ငန်းကြီးများကို ထိန်းချုပ်ရန် ဗြိတိသျှအစိုးရအားတိုက်တွန်းပြောဆိုခြင်း၊ ပြည်သူတို့ထံမှ အခွန်အတုတ်ကောက်ခံရာ၌ တစ်ဦးချင်း၏ စီးပွားရေး၊ တိုင်းပြည်၏ စီးပွားရေးများ ထိခိုက်ပျက်ယွင်းမှု မရှိရအောင် ထိန်းသိမ်းဆောင်ရွက်ရန် အကြံပြုခြင်းများ ပြုလုပ်ခဲ့သည် ဟုဆိုရပါမည်။

❖

စမစ်က၊ လွတ်လပ်စွာယှဉ်ပြိုင်သည့် အရင်းရှင်စီးပွားရေးစနစ်သည် လူတိုင်းကို စီးပွားရေးအခြေ မြင့်စေပြီး တိုင်းပြည်တစ်ခုလုံး၏ လူနေမှုအဆင့်အတန်းကိုလည်း တိုးတက်စေသောစနစ် ဖြစ်သည်ဟူ၍ ရှုမြင်ခဲ့ရာ၊ ယင်းမှာ အရင်းရှင်စနစ်အပေါ် အကောင်းဘက်က ကြည့်လွန်းသည့် အမြင်မျိုး ဖြစ်သည်ဟု ယနေ့ခေတ်ပညာရှင်တို့ မှတ်ယူကြပါသည်။



အကြောင်းက၊ စီးပွားရေးဖွံ့ဖြိုးမှုနှင့် ဒွန်တွဲဖြစ်ပေါ်လာသည့် ပြဿနာရပ်များကို ကိုယ်တိုင် ကြုံတွေ့ကြရသည့် နောက်ပိုင်းကာလ ပညာရှင်များအနေနှင့် စမစ်ကဲ့သို့ အကောင်းဘက်သက်သက်ချည်းသာ မမြင်နိုင်ဘဲ အဆိုးဘက်များကိုပါ ကြည့်လာမြင်လာကြရသောကြောင့် ဖြစ်သည်။ အလုပ်လက်မဲ့ပြဿနာ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုပြဿနာ၊ ဗြိတိသျှလုပ်သားတို့၏ ဆင်းရဲမွဲတေမှု၊ ဗြိတိသျှမြို့ကြီးများ ပျက်စီးယိုယွင်းလာမှု၊ သည်တို့မှာ စမစ်နောက်တွင် ပေါ်ထွန်းလာသည့် စီးပွားရေးပညာရှင်အစဉ်အဆက်တို့အတွက် ဖြေရှင်းရခက်လှသည့် ကြီးမားသော ပြဿနာရပ်များ ဖြစ်နေခဲ့ပေသည်။

# ဂျယ်ရီမီဘင်သမ်
(၁၇၄၈ - ၁၈၃၂)



ဂျယ်ရီမီဘင်သမ် (Jeremy Bentham) အား တွေးခေါ်ရှင်အဖြစ်လည်းကောင်း လူမှုပြုပြင်ရေးသမား အဖြစ်လည်းကောင်း လူသိများသည်။ စီးပွားရေးပညာနယ်ပယ်၌လည်း သူ၏အရေးပါသော ဖြည့်ဆည်းချက်များ ရှိခဲ့ရာ၊ အဓိကအားဖြင့် ဒဿနပိုင်းဆိုင်ရာ၌ ဖြစ်သည်။ ဘင်သမ်က စီးပွားရေးရာ စဉ်းစားဝေဖန်ရာ၌ utility (ကျေနပ်မှု) (အလိုဆန္ဒပြည့်ဝမှု) ဟူသောအချက်ကို ထည့်သွင်းစဉ်းစားပြသည့် ကနဦးပုဂ္ဂိုလ် ဖြစ်ပေသည်။

❖

ဘင်သမ်ကို ၁၇၄၈ ခုနှစ်တွင် လန်ဒန်မြို့၌ မွေးသည်။ ဖခင်မှာ ကြွယ်ဝသောရှေ့နေကြီးတစ်ဦးဖြစ်၍ သားသမီးများအား အကောင်းဆုံး ကျောင်းများတွင် ထားပေးနိုင်ခဲ့သည်။ ဘင်သမ်မှာ စီးပွားရေးပညာသမိုင်း တွင် ထင်ရှားသည့် အခြားပုဂ္ဂိုလ် အတော်များများနည်းတူ ကလေးဘဝ ကတည်းက ထူးခြားသော ဉာဏ်ပါရမီ အစွမ်းအစပြခဲ့သူလေးတစ်ဦး ဖြစ်သည်။ ဘင်သမ်ကလေးငယ်စဉ် စကားမပြောတတ်သေးမီ အချိန်ကပင်

ABCD အက္ခရာစာလုံးများကို ဘယ်ဟာဘာဟူ၍ ခွဲခြားနိုင်စွမ်းရှိခဲ့ရာ ယင်းကိုအကြောင်းပြု၍ 'ဘင်သမ်ကား စကားမပြောတတ်မီကပင် စာတတ်နေသူ ဖြစ်သည်' ဟု တအံ့တသြ ချီးမွမ်းပြောဆိုစရာ ဖြစ်ခဲ့သည်။

လန်ဒန်ရှိ ဝက်(စ)မင်စတာကျောင်းတွင် ပညာသင်ကြားသည့်အခါ ဂရိနှင့် လက်တင်ဘာသာတို့၌ ထူးချွန်သူအဖြစ် နာမည်ရသည်။ အသက် ၁၂ နှစ်တွင်မှ အောက်စဖို့ဒ်တက္ကသိုလ် ကွင်း(စ)ကောလိပ်သို့ တက်ရောက်သည်။ ကောလိပ်ကျောင်းထွက်လက်မှတ် ရပြီးနောက်၊ ဥပဒေပညာကို လန်ဒန်ရှိ လင်ကွန်း(စ)အင်း(န)ဥပဒေကျောင်းတွင်လည်းကောင်း၊ ထို့နောက်တွင် အောက်စဖို့ဒ်တက္ကသိုလ်၌လည်းကောင်း ဆည်းပူးလေ့လာသည်။ ၁၇၆၉ တွင် ဝတ်လုံတော်ရရှေ့နေအဖြစ်သို့ ရောက်ရှိသည်။

သို့သော်၊ ရှေ့နေအဖြစ် သူ အသက်မွေးဝမ်းကျောင်းမှု မပြုဖြစ်ခဲ့။ တစ်ချက်က သည်အလုပ်ကို သူ သိပ်မနှစ်သက်လှခြင်း ဖြစ်သည်။ နောက်တစ်ချက်မှာ၊ ဒဿနပညာနှင့် နိုင်ငံရေးအတွေးအခေါ် ဘာသာရပ်များဘက်တွင် သူ ပို၍ စိတ်အားထက်သန်ခြင်း ဖြစ်သည်။ သူက တစ်ဦးချင်း၏ အရေးကိစ္စထက် တစ်တိုင်းပြည်လုံး၏ အရေးကိစ္စကို ပို၍ ဆောင်ရွက်ချင်သည်။ ဖြစ်နိုင်လျှင် တိုင်းပြည်သာမက ကမ္ဘာကိုပါ ပြုပြင်ပြောင်းလဲပစ်ချင်သည်။ သို့နှင့် သူက တဖြည်းဖြည်း လူမှုပြုပြင်ရေးသမား ဖြစ်လာခဲ့သည်။ သူ့တိုင်းပြည် (အင်္ဂလန်) မှ ပြည်သူအများစုတို့၏ ဘဝအခြေအနေများ တိုးတက်ကောင်းမွန်လာအောင် ပြုပြင်ပေးနိုင်မည့် အစီအစဉ်များကို သူ စဉ်းစားတွေးခေါ်ကာ ယင်းတို့ကို လက်ခံကျင့်သုံးလာကြရန်အတွက် လူထုကိုလည်းကောင်း၊ နိုင်ငံရေးသမားများ ကိုလည်းကောင်း သူ စည်းရုံးသည်။

ဘင်သမ် တင်ပြခဲ့သည့် ပြုပြင်ပြောင်းလဲရေး အကြံပြုချက်များထဲတွင် ပဋိသန္ဓေ ထိန်းချုပ်ရေး၊ အမျိုးသမီးများ အပါအဝင် အရွယ်ရောက်သူတိုင်း မဲပေးခွင့် ရရှိရေး၊ အလုပ်သမားသမဂ္ဂများ တရားဝင်ဖြစ်ရေး၊ နိုင်ငံဝန်ထမ်းယန္တရားတစ်ခု ဖြစ်ထွန်းပေါ်ပေါက်ရေး စသည်တို့လည်း ပါဝင်သည်။ ယင်းပြုပြင်ရေး အစီအစဉ်များထဲတွင် သူ စိတ်အဝင်စားဆုံး အနှစ်သက် အထက်သန်ဆုံးက၊ ပြစ်မှုဆိုင်ရာဥပဒေများနှင့် အကျဉ်းထောင်စနစ်



များ ပြုပြင်ပြောင်းလဲရေး ဖြစ်သည်။ ၁၇၉၀ စုနှစ်များအတွင်း ဘင်သမ်က စံပြအကျဉ်းထောင်တစ်ခု တည်ဆောက်ရေးအစီအစဉ်ကို အပြင်းအထန် စည်းရုံးလှုံ့ဆော်ခဲ့သည်။ သူ၏ အကျဉ်းသား ပြုပြင်ရေးစခန်းကို Panopticon Penitentiary ဟု အမည်ပေးသည်။ သည်စခန်းသည် လူလိမ်လူကောက်များအား ရိုးသားဖြောင့်မတ်သူများဖြစ်လာအောင်၊ လူလေလူပေများအား အလုပ်လုပ်ချင်စိတ် ဖြစ်ပေါ်လာအောင် တိုက်ချွတ်သွတ်သွင်းခြင်း၊ ထိန်းကျောင်းတည့်မတ်ခြင်း၊ စိတ်ဓာတ်မြှင့်တင်ခြင်းများ ပြုလုပ်ပေးမည့် လူ့ပြုပြင်ရေးစက်ရုံတစ်ခု ဖြစ်ရမည်ဟု သူ မြင်ယောင်မျှော်မှန်းခဲ့သည်။ သူ အားထုတ်ကြိုးပမ်းခဲ့သော်လည်း သူ့အစီအစဉ်ကို အင်္ဂလန်တွင် လက်တွေ့အကောင်အထည်ဖော်နိုင်ခြင်း မရှိခဲ့။ ရုရှားပြည် စိန့်ပီတာစဘတ်မြို့တွင်သာ ၁၉ ရာစု စောစောပိုင်း၌ သူ ပြောသည့် Panopticon (ပြုပြင်ရေးစခန်း) မျိုးတစ်ခု တည်ဆောက်ဖြစ်ခဲ့သည်။

ယင်းလူမှုပြုပြင်ရေး အတွေးအမြင်များ၊ အကြံပြုမှု စည်းရုံးလှုံ့ဆော်မှုများကြောင့် ဘင်သမ်က ထင်ရှား ကျော်ကြားလာကာ နောက်လိုက်နောက်ပါလည်း များပြားလာခဲ့သည်။ မကြာမီပင် သူက philosophical radical ဟုခေါ်ကြသည့် ဗြိတိသျှ လူမှုပြုပြင်ရေးသမားအုပ်စု၏ ခေါင်းဆောင်ဖြစ်လာသည်။ radical ဆိုသည်မှာ အရင်းအမြစ်ပါလှန်၍ ပြုပြင်ပြောင်းလဲလိုသူမျိုးကို ဆိုပြီး၊ philosophical ဟူသော နာမဝိသေသနက၊ ၎င်းတို့၌ ယင်းသို့ပြုပြင်ပြောင်းလဲရေး ပြုလုပ်ရန် လိုအပ်ကြောင်း လမ်းညွှန်သည့် နောက်ခံဒဿနတစ်ခု ရှိနေသည် ဟူသော အဓိပ္ပာယ်ဖြင့် ထည့်သွင်းထားခြင်း ဖြစ်သည်။ သူတို့အား အလုံးစုံ ပြောင်းလဲရေးသမား (ဝါ) အလွန်အကျွံ ပြောင်းလဲရေးသမားများ ဟူသော သဘော ပြောဆိုကြခြင်းမှာ သူတို့တင်ပြချက်များက ၁၈ ရာစုနှောင်းပိုင်း ကာလ သူတို့အင်္ဂလန်ပြည် အနေအထားအရ ပြင်းထန်သလို ရှိနေသောကြောင့် ဖြစ်သည်။ သို့သော်၊ သူတို့ကိုယ်တိုင်အဖို့မူ မိမိတို့ ကိုင်စွဲသည့် လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒ (utilitarianism) အမြင်အရ လုပ်သင့်လုပ်ထိုက်သော အရာများကို မမိုတ်မသုန် ယုံကြည်စွာ တင်ပြ

နေခြင်းသာ ဖြစ်သည်။ သည်ဝါဒအရ၊ လူများ၊ အစိုးရ စသည့် အဖွဲ့အစည်းများ၏ လုပ်ရပ်များနှင့်စပ်လျဉ်း၍ သူတို့ တိုင်းတာအကဲဖြတ်သည့် ပေတံက၊ လူအများအတွက် မည်မျှစိတ်ချမ်းသာမှု ဖြစ်ပေါ်စေသလဲ၊ ဟူသောအချက်ဖြစ်သည်။ လုပ်ရပ်တိုင်းသည် လူအရေအတွက် အများဆုံးအတွက် စိတ်ကျေနပ်ချမ်းသာမှု အများဆုံး ဖြစ်စေသင့်သည်ဟု သူတို့ခံယူကာ လုပ်ရပ်တို့၏ ကောင်းမှု ဆိုးမှု သင့်တော်မှု မသင့်တော်မှုတို့ကို အဲသည်အချက်ဖြင့် အကဲဖြတ်ကြသည်။ philosophical radical များသည် ၁၉ ရာစု ပထမပိုင်း အင်္ဂလန်ပြည်၏ အတွေးအခေါ်လောကနှင့် နိုင်ငံရေးလောကတို့တွင် များစွာလွှမ်းမိုးခဲ့သည်။ သည်အုပ်စုတွင် ဘင်သမ်အပြင်၊ သူ့အယူအဆကို ထောက်ခံသည့် စကော့တွေးခေါ်ရှင် ဂျိမ်း(စ)မေးလ် (James Mill ၁၇၇၃ – ၁၈၃၆) ၊ စီးပွားရေးပညာရှင် ဒေးဗစ်ရီကာဒို (David Ricardo ၁၇၇၂ – ၁၈၂၃) တို့အပြင်၊ ဂျိမ်း(စ)မေးလ်၏ သား၊ ၁၉ ရာစုနှစ် အထင်ရှားဆုံးတွေးခေါ်ရှင် စီးပွားရေးပညာရှင်ကြီးတစ်ဦးဖြစ်သူ ဂျွန်စတူးဝပ်မေးလ် (John Stuart Mill ၁၈၀၆ –၇၃) လည်းပါဝင်ခဲ့သည်။

❖

စီးပွားရေးဘာသာရပ်သက်သက်နှင့် စပ်လျဉ်းသည့် ဘင်သမ်၏ အဓိကရေးသားချက်က၊ နာမည်ရွေးချယ်ပုံ လွဲမှားသည်ဟု အများ ရှုမြင်ကြသည့် Defence of Usury (ငွေတိုးချစနစ်ဘက်မှ ချေပချက်) ကျမ်းဖြစ်သည်။ ၎င်းစာအုပ်ကို ၁၇၈၇ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သည်။

အတိုးကိစ္စမှာ အစဉ်အဆက် ငြင်းခုံခဲ့ကြသော ပြဿနာတစ်ရပ်ဖြစ်ပြီး ဥရောပတိုက်တွင် အလယ်ခေတ်လောက်ကစ၍ အငြင်းအခုံတွေ ပြင်းထန်ခဲ့သည်။

စောစောပိုင်း ရာစုနှစ်များအတွင်း၌၊ ငွေတိုးစားခြင်းသည် သင့်မသင့် တော်မတော်၊ လူ့ကျင့်ဝတ်တရားနှင့် ညီညွတ်မှု ရှိမရှိ တို့ကို ပိုင်းခြားဝေဖန်ခဲ့ကြပြီး၊ နှစ်ဆယ်ရာစုအတွင်းလောက် ရောက်ရှိလာသော



အခါ၌မူ၊ ကြွေးကတ်ပြား (credit card)၊ စားသုံးကုန်တို့ကို ဆိုင်းငံ့ငွေချေစနစ်ဖြင့် အရောင်းအဝယ်ပြုသည့် စားသုံးသူချေးငွေ (consumer loan) သည်တို့၌ အတိုးနှုန်းကို အမြင့်ဆုံး မည်မျှထက်ပို၍မယူရ ဟူ၍ သတ်မှတ်သင့်မသင့် ငြင်းခုံမှုမျိုးဆီသို့ ရွေ့လျားပြောင်းလဲလာခဲ့ပါသည်။ သို့သော် ပြဿနာ၏ အပေါ်ယံသဘော၌သာ ပြောင်းလဲခြင်း ဖြစ်ပြီး၊ အရင်းခံ ရပ်တည်ချက်များ (ဝါ) ငြင်းခုံကြသည့် ဘက်နှစ်ဘက်၏ အမြင်နှင့် ကျိုးကြောင်းပြ ပြောဆိုချက်များက ပြောင်းလဲခြင်း မရှိပေ။ အတိုးယူခြင်းကို ဆန့်ကျင်သည့်ဘက်၏ အမြင်၌၊ သူတစ်ပါးထံမှ ငွေချေးကြသူများမှာ ဆင်းရဲသူများ ဖြစ်သည်၊ လိုအပ်သဖြင့်သာ ချေးငှားကြရသူများ ဖြစ်သည်၊ ထို့ကြောင့် ၎င်းတို့ထံမှ အတိုးသတ်မှတ်ရယူခြင်း၊ မတန်တဆ အတိုးများ တောင်းခံခြင်းတို့သည် အင်အားနည်းသူ ဆင်းရဲချို့တဲ့သူများအား အနိုင်ကျင့် အမြတ်ထုတ်သည့်အလုပ်ဖြစ်သည် ဟုမှတ်ယူကြသည်။ တစ်ဖက်တွင်၊ ငွေထုတ်ချေးသူ မြီရှင်တို့ဘက်မှ စဉ်းစားသူတို့က၊ သူတစ်ပါးအား ငွေချေးခြင်းဟူသည် ပြန်ရရန် မသေချာသော အလုပ် (ဝါ) စွန့်စားရသော အလုပ် ဖြစ်သည်။ ထို့ကြောင့် မတော်တဆ ဆုံးရှုံးသွားနိုင်သည့် ချေးငွေများအတွက် ထေသောသဘောဖြင့် အတိုးငွေရယူဖို့ လိုအပ်သည် ဟုရှုမြင်ကြသည်။

အတိုးကိစ္စနှင့် စပ်လျဉ်း၍ ဘင်သမ့် အရင် တင်ပြခဲ့ကြသူများထဲတွင် စီးပွားရေးပညာရှင်ကြီး အက်ဒမ်စမစ်လည်း ပါဝင်ခဲ့သည်။ စမစ်က အတိုးနှုန်းများနှင့်ပတ်သက်၍ အမြင့်ဆုံး မည်ရွေ့မည်မျှထက် မပိုစေရဟု ဥပဒေကြောင်းကမ်းသတ်မှတ်ချက်များ ထုတ်ပြန် ကန့်သတ်သင့်ကြောင်း ပြောဆိုခဲ့ရာ၊ ၎င်းအဆိုမှာ သူ ဦးဆောင်ဖြန့်ချိသည့် လွတ်လပ်စွာ စီးပွားရှာခွင့် (laissez-faire) အယူအဆနှင့် ဆန့်ကျင်ကွဲလွဲနေသည်ဟု ဘင်သမ်က မြင်သည်။ စားသုံးကုန်ပစ္စည်းများကို မူသေဈေးနှုန်း သတ်မှတ်ရန် မလိုအပ်ဘူးဆိုက၊ ငွေကိုအသုံးပြုခြင်းအတွက် ပေးရမည့်နှုန်းထားကိုလည်း မူသေသတ်မှတ်ရန် အကြောင်းမရှိကြောင်း သူက ထောက်ပြသည်။ ထို့ပြင်၊ အတိုးနှုန်းတစ်ခုသည် များသည်ပဲဖြစ်စေ၊ ထိုအတိုးနှုန်းကို သဘောတူ

လက်ခံပြီး ငွေချေးခဲ့ခြင်းဖြစ်က ငွေထုတ်ချေးသူအား ပြစ်မှုတစ်စုံတစ်ရာ ကျူးလွန်သည်ဟု ယူဆရန် အကြောင်းမရှိကြောင်း၊ ထို့ကြောင့် အတိုးယူ၍ ငွေချေးငှားခြင်းကိုလည်း ပြစ်မှုတစ်ခုအဖြစ် သတ်မှတ်ကာ ဥပဒေအရ တားဆီးပိတ်ပင်ရန်မသင့်ကြောင်း သူကဆိုသည်။

သို့သော်၊ အတိုးနှုန်းကို ကန့်သတ်သည့် ဥပဒေများအား ဆန့်ကျင် ကန့်ကွက်ရခြင်းနှင့်စပ်လျဉ်း၍ သူ အလေးအနက်ထား တင်ပြသွားသည်က အတိုးနှုန်းကန့်သတ်ခြင်းကြောင့် စီးပွားရေးအတွက် အနုတ်လက္ခဏာ ဆောင်သော သက်ရောက်မှုများ ဖြစ်ပေါ်စေနိုင်သည် ဟူသောရှုထောင့်မှ ဖြစ်သည်။ ပထမအချက်၊ မိမိ ချေးလိုက်သောငွေမှ အတိုးအမြတ် မရဘူး ဆိုလျှင် မည်သူက ကိုယ့်ငွေကို ထုတ်ချေးမည်နည်း။ ထိုအခါ၊ ငွေကြေး ချို့တဲ့သူများကို ကာကွယ်စောင့်ရှောက်ရန် ရည်ရွယ်၍ ထုတ်ပြန်ခဲ့သည့် ဥပဒေများသည် ၎င်းတို့ကို ကူညီရာ မရောက်၊ ၎င်းတို့ လိုအပ်သည့် ငွေများ ချေးငှားရခက်အောင် နှောင့်ယှက်ဟန့်တားရာသာ ရောက်လိမ့်မည်ဟု ဘင်သမ်က သုံးသပ်သည်။ ဒုတိယ၊ ငွေတိုးစားမှုကို တားမြစ်သည့် ဥပဒေ များသည် ဆင်းရဲသားများကိုသာ မဟုတ်၊ လုပ်ငန်းအတွက် ငွေအရင်းအနှီး စုစည်းနေသည့် လုပ်ငန်းရှင်များအတွက်ပါ ရှာဖွေချေးငှားရ ခက်ခဲသွား စေသည်။ သည်အခါ ဆင်းရဲသူများ ပို၍ဆင်းရဲကြသကဲ့သို့၊ လုပ်ငန်း အကြံဉာဏ်ကောင်း ရှိသူများလည်း ကြီးပွားတိုးတက်ခွင့် မရ၊ သူ၏ ကြီးပွား လာမည့်လုပ်ငန်းနှင့် ဆက်စပ်ကာ တစ်နည်းနည်း အကျိုးခံစားကြရမည့် သူများလည်း အကျိုးခံစားခွင့် မရဖြစ်ကာ၊ အားလုံး၏ လူနေမှု အဆင့် အတန်းများ ထိခိုက်ကျဆင်းစေမည် ဖြစ်သည်။ တတိယ ဘင်သမ် ပြောသည်က၊ ငွေတိုးချမှုကို တရားဥပဒေအရ ပိတ်ပင်လိုက်ပါက၊ ငွေချေးခြင်းသည် မှောင်ခိုလုပ်ငန်းဖြစ်သွားကာ အတိုးနှုန်းကလည်း တရားဝင် လုပ်ကိုင်နေတာထက် အဆမတန် ပို၍မြင့်မားသွားမည် ဟူသော အချက် ဖြစ်သည်။ သည်အခါ၌ အထက်ကဆိုခဲ့သည့်နည်းတူ ဥပဒေ ထုတ်ပြန်သူတို့ ကာကွယ်စောင့်ရှောက်လိုသော သူများပင် ပို၍ နစ်နာကြ ရမည် ဖြစ်သည်။ နောက်ဆုံး သူ ကျိုးကြောင်းပြသည်က၊ ငွေတိုးစားခြင်းကို



တားမြစ်သည့် ဥပဒေကဲ့သို့ လက်တွေ့မကျ ကျိုးကြောင်း သင့်မြတ်မှုလည်း မရှိသည့် ဥပဒေမျိုးကြောင့်၊ လူအများအနေနှင့် ဥပဒေကန့်သတ်ချက် ဟူသည်များအပေါ် လေးစားလိုက်နာလိုစိတ် လျော့ပါးသွားပါက အခြား လူမှုဆက်ဆံရေးကိစ္စ၊ စီးပွားဆက်ဆံရေး ကိစ္စများတွင်ပါ ထင်ရာစိုင်း လုပ်ဆောင်မှုများ တိုးပွားလာနိုင်သည်၊ ဟူသောအချက် ဖြစ်သည်။

ဘင်သမ်၏ စာအုပ်ပါ အချက်များကို ဖတ်ရှုပြီးနောက်တွင် ဆရာကြီး အက်ဒမ်စမစ် ကိုယ်တိုင် အယူအဆ ပြောင်းလဲကာ၊ ငွေတိုးချမှုကို ထိန်းချုပ်သည့် ဥပဒေများအား သူ ထောက်ခံခဲ့ခြင်းသည် မှားယွင်းကြောင်း၊ အစိုးရအနေနှင့် အတိုးနှုန်းများကို ထိန်းချုပ်ကန့်သတ်မှု မပြုသင့်ကြောင်း ပြောဆိုလာခဲ့သည် ဟုဆိုပါသည်။

❖

အတိုးကိစ္စနှင့် စပ်လျဉ်းသည့် ဘင်သမ်၏ ရေးသားချက်များသည် သူ့ခေတ်ကာလအဖို့ ထူးခြားမှုရှိတာ မှန်၏။ သို့သော် စီးပွားရေးပညာ ရပ်ဝန်း၌ တကယ်သိသိသာသာ သြဇာသက်ရောက်ခဲ့သည်က 'ကျေနပ်မှု' (utility) ဆိုင်ရာ သူ၏ အယူအဆ ဖြစ်သည်။ စီးပွားရေးရာ ခွဲခြမ်း စိတ်ဖြာရာ၌ လူအများဆုံးအတွက် ကျေနပ်မှုအများဆုံး ဖြစ်ထွန်းစေမှု (utility-maximization) ဟူသောအချက်ကို အလေးထား စဉ်းစားရန် သူ တိုက်တွန်းခဲ့သည်။

စင်စစ်၊ utility ဟူသော ဝေါဟာရကို ဘင်သမ်နှင့်ခေတ်ပြိုင် အခြားပုဂ္ဂိုလ်များလည်း ဥပဒေရေး၊ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုကျင့်ဝတ်ရေး တို့နှင့် ဆက်နွယ်၍ သုံးနှုန်းပြောဆိုနေခဲ့ကြပြီး ဖြစ်သည်။ သို့သော် ၎င်းကိုဆိုလိုကြောင်း မရှင်းလင်းမသေချာ။ အဓိပ္ပာယ်က တိကျပြတ်သားမှု မရှိ။ ၎င်း utility ကို ဘယ်သို့တိုင်းတာမည်လဲ၊ မတူညီသော utility များ အကြား မည်သို့နှိုင်းယှဉ်မှု ပြုမည်လဲ၊ တိတိကျကျ ပြောရေးမရှိကြ။

ဘင်သမ်က သူများတွေ မတိကျတာကို တိတိကျကျ ပြောဆိုဖို့ ကြိုးစားသည်။ သူက လူမှုရေးရာကို သဘာဝသိပ္ပံဘာသာရပ်များလို နိုင်နိုင်မာမာ ခြေခြေမြစ်မြစ် ပြောနိုင်သည့် သိပ္ပံပညာရပ်စစ်စစ်ဖြစ်အောင် အားထုတ်နေခြင်း ဖြစ်သည်။ သည်လို အားထုတ်ခြင်းဖြင့် သူလည်း လူမှုဗေဒနယ်ပယ်၏ ရှေ့ဆောင်လမ်းပြပုဂ္ဂိုလ်တစ်ဦး ဖြစ်လာလိမ့်မည်ဟု သူ မျှော်လင့်သည်။

utility အကြောင်း ရှင်းလင်းဖွင့်ဆိုသည့် သူ၏ Introduction to the Principles of Morals and Legislation (**ဥပဒေနှင့် လူမှုကျင့်ဝတ်ဆိုင်ရာ အခြေခံမူများ နိဒါန်း**) ကျမ်းတွင် ဘင်သမ်က၊

“သဘာဝတရားသည် လူသားအား စိတ်ချမ်းသာခြင်း (ကျေနပ်နှစ်သက်ခြင်း) (pleasure) နှင့် စိတ်ဆင်းရဲခြင်း (မကျေနပ် မနှစ်သက်ခြင်း) (pain) တည်းဟူသော အချုပ်အခြာ အာဏာပိုင်ရှင်သခင်နှစ်ဦး၏ အုပ်စိုးမှုအောက်၌ ကျရောက်စေလျက်ရှိသည်။” ဟူသည့် ရဲဝံ့ပြတ်သားသော စကားတစ်ခွန်းနှင့် အစချီခဲ့သည်။ သည်စကားကို နောက်ပိုင်း၌ လူအများအပြားပင် ကိုးကားပြောဆိုခဲ့ကြပါသည်။

ဘင်သမ်က ယင်းသို့ချီလိုက်ပြီးနောက်၊ လူတစ်ဦးချင်းတို့အနေနှင့် ဖြစ်စေ၊ နိုင်ငံအစိုးရတို့အနေနှင့်ဖြစ်စေ လုပ်ဆောင်ရန် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ စဉ်းစားချင့်ချိန်ရာ၌၊ ယင်းကိစ္စသည် လူအများတို့အတွက် စိတ်ချမ်းသာမှု ဖြစ်စေသလား၊ စိတ်ဆင်းရဲမှု ဖြစ်စေသလား ဟူသောအချက်နှင့် ချိန်ထိုးဆုံးဖြတ်ရန် လိုအပ်ကြောင်း၊ လုပ်သင့်လုပ်ထိုက်သော အလုပ်တစ်ခုဟူသည် ယင်းနှင့်ဆက်စပ်သူတို့ ခံစားရသည့် စိတ်ချမ်းသာမှုများ စုပေါင်းခြင်းက၊ ယင်းကြောင့်ဖြစ်သော စိတ်ဆင်းရဲမှုများ စုပေါင်းခြင်းထက် ပိုမိုသော အလုပ်မျိုးဖြစ်ကြောင်း၊ စုပေါင်းစိတ်ချမ်းသာမှုအများဆုံး ရရှိစေသော အလုပ်သည် အသင့်တော်ဆုံး အလုပ်ဖြစ်ကြောင်း ဆက်လက်ဆင့်ပွားပြောဆိုကာ၊ သူ၏ လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒအား လူမှုကျင့်ဝတ်နှင့် ညီညွတ်သော ဝါဒတစ်ရပ်အဖြစ် သူ တင်ပြခဲ့သည်။



ဘင်သမ်၏ အလိုအရမှု၊ လူတစ်ဦးချင်းတို့ အနေနှင့် မိမိတို့ အသီးသီး၏ စိတ်ချမ်းသာမှု၊ စိတ်ဆင်းရဲမှု ပမာဏများကို တိုင်းတာတွက်ချက်၍ ရနိုင်မည့်သဘော ရှိနေသည်။ တကယ်လည်း သူက ယင်းအတိုင်း ခံယူသည်။

သူက စိတ်ချမ်းသာမှုပမာဏကို ချင့်တွက်ပြသနိုင်မည့် အတိုင်းအတာ (dimension) (၇) ခုပေးသည်။ (၁) စိတ်ချမ်းသာမှု အပြင်းအပျော့ (၂) ယင်းအားခံစားရသည့် အချိန်တာ (၃) ယင်းအားခံစားရရန် မည်မျှသေချာသည် မသေချာသည် (၄) ယင်းနှင့် မည်မျှ နီးကပ်သည် ဝေးကွာသည် (၅) ယင်း၏ တိုးပွားများပြားလာနိုင်မှု (၆) ယင်း၏ သန့်စင်မှု နှင့် (၇) ယင်းအား ခံစားခွင့်ရသည့် လူအရေအတွက်၊ စသည်တို့ ဖြစ်သည်။

ထို့နောက် ဘင်သမ်က၊ ဓနဥစ္စာ၊ ကျွမ်းကျင်လိမ္မာမှု၊ ဩဇာအာဏာ၊ နာမည်ကောင်းရရှိမှု၊ စသည်တို့အပါအဝင် စိတ်ချမ်းသာမှုရှိသည့် အခြေအနေ (၁၄) ရပ်ကိုလည်းကောင်း၊ စိတ်ပျက်အားလျော့ခြင်း၊ နှောင်တရခြင်း၊ လိုချင်တမ်းတနေရခြင်း စသည်တို့ အပါအဝင် စိတ်ဆင်းရဲမှုလက္ခဏာ (၁၂) ရပ်ကိုလည်းကောင်း ရေတွက်ပြသပြီး၊ အဆိုပါ စိတ်ချမ်းသာမှု စိတ်ဆင်းရဲမှုများအပေါ် လွှမ်းမိုးသက်ရောက်သည့် ကျန်းမာမှု မကျန်းမာမှု၊ ယောကျ်ားမိန်းမ ကွဲပြားမှု၊ အသက်ငယ်မှု အသက်ကြီးမှု၊ ပညာအရည်အချင်း မြင့်မားမှု နိမ့်ကျမှု၊ စိတ်ပိုင်းဆိုင်ရာ ကြံ့ခိုင်ပြည့်ဝခြင်း ရှိမှု မရှိမှု၊ စသည့်အချက်များကိုပါ ဖော်ထုတ်ပြသည်။

ထို့ကြောင့်၊ သူနှင့်ခေတ်ပြိုင်တို့က ‘ကျေနပ်မှု’ အကြောင်းကို ယေဘုယျသဘော ခပ်ရေးရေး ပြောနေကြချိန်တွင် ဘင်သမ်က ၎င်းတို့ထက် အများကြီး ပို၍ အသေးစိတ်ခွဲခြမ်းကာ တိတိကျကျ တိုင်းထွာ ပြောဆိုနေခဲ့သည် ဟုဆိုရခြင်း ဖြစ်သည်။

တစ်ဖန်၊ ဘင်သမ်က စိတ်ချမ်းသာမှုဟူသည် မည်သည့် အကြောင်းရင်းခံမှ လာသည်ဖြစ်စေ ခံစားရသူအတွက် အတူတူပဲ ဖြစ်သည်ဟုဆိုပြန်သည်။ ဥပမာပြောရသော်၊ တီဗွီကြည့်ရာမှ ရရှိသည့် စိတ်ချမ်းသာမှုသည် ဘောဂဗေဒကျမ်း သို့မဟုတ် ဒဿနကျမ်းတစ်အုပ် ဖတ်ရှုရာမှ

ရရှိသည့် စိတ်ချမ်းသာမှုနှင့် ကွဲပြားခြားနားခြင်း မရှိ။ အလားတူ၊ သူဆင်းရဲတစ်ယောက် စိတ်ချမ်းသာမှုတစ်ခု ခံစားရမည် ဆိုလျှင်လည်း၊ ယင်းသည် သူကြွယ်တစ်ယောက် ခံစားရသည့် စိတ်ချမ်းသာမှုနှင့် အတူတူပဲ ဖြစ်သည်၊ ဟု သူဆိုလိုက်ခြင်း ဖြစ်သည်။

စိတ်ချမ်းသာမှုကို ခံစားရာ၌ လူအသီးသီးတို့အကြား ကွဲပြားခြားနားခြင်း မရှိဟု ခံယူလျှင်၊ စီးပွားရေး၊ လူမှုရေးဆိုင်ရာ ပေါ်လစီများ ချမှတ်သည့် နေရာ၌ ဘယ်သူဘယ်ဝါကိုမျှ ဦးစားပေးစရာ မလိုဟူ၍ ဆက်လက် ကောက်ချက်ဆွဲရမည် ဖြစ်သည်။ ဘင်သမ်တို့ခေတ်က ပေါ်လစီအများအပြားသည် လူချမ်းသာများအရေးကို ဦးစားပေးနေသော သဘောရှိရာ၊ ဘင်သမ်၏ အယူအဆနှင့်မှု ဆန့်ကျင်ကွဲလွဲနေခဲ့သည်။

လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒမှ ဆင့်ပွားဖြစ်ပေါ်လာသော အရာတစ်ခုက နိုင်ငံအတွင်း စိတ်ချမ်းသာမှုပမာဏ အများဆုံးရရှိရန် အတွက် ပညာရေးနှင့် တရားဥပဒေပြုစုရေးတို့ လိုအပ်သည် ဟူသောအချက် ဖြစ်သည်။ ဘင်သမ်က လူအများတို့အနေနှင့် မတူညီသော လုပ်ရပ်များမှ ဖြစ်ပေါ်သည့် စိတ်ချမ်းသာမှု စိတ်ဆင်းရဲမှုတို့ကို နှိုင်းယှဉ်ခြင်း ပေါင်းစပ်ခြင်း စသည်များ ပို၍ ထိရောက်မှန်ကန်စွာ လုပ်ကိုင်နိုင်ရန်အတွက် ပညာတတ်ဖို့ အရေးကြီးသည် ဟုမြင်သည်။ ထို့ပြင်၊ လူအများ စိတ်ချမ်းသာမှု ယုတ်လျော့စေသည့် လုပ်ရပ်များအား အပြစ်ပေးတားဆီးနိုင်ရန် အတွက်လည်းကောင်း၊ လူအများ စိတ်ချမ်းသာမှု အများဆုံး ရရှိစေမည့် အလုပ်၊ လူမှုကျင့်ဝတ်နှင့် လိုက်လျောညီညွတ်သည့် အလုပ်တို့ကို တိုးတက် လုပ်ဆောင်လာကြရန် တွန်းအားပေးခြင်း ဆွဲဆောင်ခြင်းများ ပြုလုပ်နိုင်ရန် အတွက်လည်းကောင်း ဥပဒေစည်းမျဉ်းများ ချမှတ်ထားသင့်သည် ဟူ၍လည်း သူကရှုမြင်သည်။ ထို့နောက် သည်ကိစ္စများကို အကောင်အထည် ဖော်နိုင်မည့် ယန္တရားအဖြစ် 'အစိုးရ' ကို သူမြင်သည်။ နိုင်ငံသားတို့၏ စိတ်ချမ်းသာမှု စိတ်ဆင်းရဲမှုများ စုပြီးချေသည့်အခါ စိတ်ချမ်းသာမှုဘက်က ပိုစေဖို့၊ ယင်းစိတ်ချမ်းသာမှု အတိုင်းအဆ များသထက်များစေဖို့ အစိုးရ ယန္တရားက ကူညီဆောင်ရွက် ပေးရလိမ့်မည်ဟု သူ ယူဆသည်။



လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒ၏ လမ်းညွှန်ချက်များထဲတွင် အစိုးရတို့ချမှတ်သည့် ပေါ်လစီများ ဥပဒေပြဋ္ဌာန်းချက်များကို အကောင်းအဆိုး ဝေဖန်တန်ဖိုးဖြတ်ရန်လည်း ပါဝင်သည်။ ယင်းအတွက် မှတ်ကျောက်က ရှင်းသည်။ အစိုးရ၏ လုပ်ရပ်တစ်ခုသည် နိုင်ငံသားတို့၏ စိတ်ချမ်းသာမှုပမာဏ စုစုပေါင်းကို တိုးမြင့်စေသည်ဆိုက ယင်းအား ကောင်းသောလုပ်ရပ် ဟုသတ်မှတ်ပြီး၊ နိုင်ငံသားတို့၏ စိတ်ချမ်းသာမှု ပမာဏ စုစုပေါင်းကို လျော့ကျသွားစေသော လုပ်ရပ်မျိုးဖြစ်က ယင်းအား မကောင်းသောလုပ်ရပ် ဟုသတ်မှတ်ခြင်း ဖြစ်သည်။

သည်သဘောအရမူ၊ ဘင်သမ်၏ စိတ်ချမ်းသာမှု စိတ်ဆင်းရဲမှု တွက်ချက်တိုင်းတာပုံစနစ်သည် ယနေ့ခေတ် ပေါ်ပေါက်လာသည့် ကုန်ကျစရိတ် – အကျိုးကျေးဇူး နှိုင်းယှဉ်စိစစ်မှု (cost-benefit analysis) နည်းနာ၏ ရှေ့ပြေးဖြစ်သည် ဟုဆိုရမည် ဖြစ်သည်။ စင်စစ်၊ အဆိုပါ စိစစ်မှုမျိုးကိုပင် ဘင်သမ်က သူ၏ Manual of Political Economy (နိုင်ငံရေးဘောဂဗေဒလက်စွဲ) ကျမ်း၌ အစောဆုံး ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။ သူက အစိုးရတို့အနေနှင့် ပြည်သူ့ဘဏ္ဍာငွေကို သုံးစွဲရာ၌ ယင်းမှ ရရှိမည့် အကျိုးအမြတ်နှင့် ယင်းဘဏ္ဍာငွေ ရရှိရေးအတွက် စိုက်ထုတ်ရသည့် (အခွန်ထမ်းဆောင်ရမှု အပါအဝင်) စိတ်ပင်ပန်းဆင်းရဲမှုများကို နှိုင်းယှဉ်ကာ ထိုက်တန်မှု ရှိမရှိ ချင့်ချိန်စိစစ်သင့်ကြောင်း၊ စိုက်ထုတ်ရသည့် တန်ဖိုးထက် အကျိုးအမြတ်က များသည်ဆိုမှသာ ယင်းအလုပ်ကို လုပ်သင့်ကြောင်း၊ အကျိုးအမြတ်က နည်းပြီး၊ ယင်းအတွက် ရင်းနှီးစိုက်ထုတ်ရသည့် အခွန်အတုတ်က များမည်ဆိုက ယင်းအလုပ်မျိုးကို ရှောင်ကြဉ်ရမည် ဖြစ်ကြောင်း ရေးသားခဲ့သည်။

❖

လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒသည် လူမှုကျင့်ဝတ်ရေးရာ လမ်းညွှန်ချက်တစ်ရပ် အနေဖြင့်လည်းကောင်း၊ မူဝါဒရေးရာ၌ အကဲဖြတ်

စရာ နည်းနာတစ်ရပ် အဖြစ်လည်းကောင်း တန်ဖိုးရှိသည် မှန်သော်လည်း နောက်ပိုင်း စီးပွားရေးပညာရှင်များအတွက် စဉ်းစားဝေဖန်စရာ ပြဿနာ များစွာကို ဖန်တီးပေးခဲ့သည်။

ပထမအချက်၊ 'ကျေနပ်မှု' ဟူသည်ကို ဆုပ်ဆုပ်ကိုင်ကိုင် ခိုင်ခိုင် မာမာ ဖြစ်အောင် ဘင်သမ် ကြိုးစားခဲ့သည် ဆိုသော်လည်း တကယ် လက်တွေ့၌ ယင်း၏ အတိုင်းအတာပမာဏကို တိတိကျကျ တွက်ချက်ဖို့မှာ မလွယ်ကူ။ အလားတူ၊ လုပ်ငန်းတစ်ခုကပေးသည့် ကျေနပ်မှုနှင့် အခြား လုပ်ငန်း တစ်ခုကပေးသည့် ကျေနပ်မှုတို့ကို နှိုင်းယှဉ်ရန်လည်း ခက်ခဲ သည်။ ထို့ကြောင့်၊ ကိစ္စတစ်ခုနှင့်ပတ်သက်၍ လူအရေအတွက် မည်ရွေ့ မည်မျှအတွက် မည်မျှစိတ်ချမ်းသာကျေနပ်မှု ဖြစ်စေကြောင်း၊ ၎င်းတို့၏ စိတ်ချမ်းသာမှုပမာဏ စုစုပေါင်းသည် မည်မျှရှိကြောင်း တွက်ချက်ရန်မှာ ပို၍ပင် ခက်ခဲဦးမည် ဖြစ်သည်။

ဒုတိယအချက်၊ လူအများအပြားကပင် လူအများဆုံး အလိုဆန္ဒ ပြည့်ဝရေးဝါဒသည် တကယ်လက်တွေ့၌ လူမှုကျင့်ဝတ်နှင့် ဆန့်ကျင်သည် ဟုမြင်ကြသည်။ အကြောင်းက၊ လူတစ်ဦးချင်းတို့၏ လုပ်ရပ်များ၊ အစိုးရ တို့၏ လုပ်ရပ်များကို စဉ်းစားရာ၌ တရားသဖြင့် ဖြစ်မဖြစ်၊ သို့မဟုတ် မျှတမှု ရှိမရှိ ဟူသည်ကို ထည့်သွင်းစဉ်းစားမှု မပြုသောကြောင့် ဟုဆိုပါ သည်။ ဥပမာ၊ ၎င်းဝါဒီတို့အနေနှင့် လုပ်ရပ်တစ်ခုသည် တစ်တိုင်းပြည်လုံး ၏ စုပေါင်းစိတ်ချမ်းသာမှုပမာဏကို များပြားစေသည် ဟုရှုမြင်မည်ဆိုက၊ ထိုလုပ်ရပ်ကြောင့် အချို့သောသူများ ထိခိုက်နစ်နာမည် ဆိုလျှင်လည်း ယင်းကို လျစ်လျူရှုထားစရာ အကြောင်းရှိသည် ဟုဆိုလိုခြင်းမျိုး ဖြစ်သည်။

တတိယက၊ လူ့သဘာဝနှင့်စပ်လျဉ်းသည့် ဘင်သမ်၏ အမြင် သည် သူ၏လူမှုကျင့်ဝတ်ဆိုင်ရာအမြင်နှင့် ဆန့်ကျင်ကွဲလွဲနေသည်ဟူသော အချက်ဖြစ်သည်။ ပင်ကိုသဘာဝအရ လူသည် စိတ်ချမ်းသာမှုနှင့် စိတ်ဆင်းရဲမှု တည်းဟူသော အာဏာပိုင်နှစ်ဦး၏ စိုးမိုးမှုအောက်တွင် လုံးလုံးလျားလျား ရောက်ရှိနေသည်ဆိုက၊ လူတို့သည် နောက်ဆုံး



အရင်းချုပ်လျှင် စိတ်ချမ်းသာမှုဘက်က အလေးကဲရေး၊ စိတ်ချမ်းသာမှု ပမာဏ အများဆုံး ရရှိရေးကိုသာ အာရုံစိုက် လုပ်ကိုင်ကြလိမ့်မည်၊ ထိုမှတစ်ပါး လုပ်တတ်ကြမည် မဟုတ်။ ထိုအခါ ၎င်းတို့အား၊ မိမိလုပ်ရပ်ကို လူမှုကျင့်ဝတ်ရှုထောင့်မှ ကြည့်ကာ အမှားအမှန် ဝေဖန်ပိုင်းခြားစေရန်၊ လုပ်သင့်မလုပ်သင့် ဆင်ခြင်ရန်နှင့်၊ မိမိလုပ်ရပ်အတွက် တာဝန်ယူစိတ် အားရှိကြရန် တိုက်တွန်းပြောဆို၍ ရတော့မည် မဟုတ်၊ စသဖြင့် ဝေဖန်သူ တို့က ဆိုကြပါသည်။

မျှတအောင်ဆိုရလျှင်၊ ဘင်သမ်ကိုယ်တိုင်လည်း မိမိသီအိုရီ၌ အထက်ပါ ပြဿနာများ ရှိကြောင်း သိမြင်ခဲ့သည်သာ ဖြစ်ပါသည်။ သို့သော်၊ အခြားစနစ်များ ကျင့်သုံးလျှင် ကြုံတွေ့ရမည့် ပိုမိုကြီးမားသော ပြဿနာများကို ထောက်ပြကာ မိမိစနစ်သည်သာ တည်ငြိမ်အေးချမ်းသော လူ့အဖွဲ့အစည်းတစ်ခု ဖွဲ့စည်းတည်ထောင်ရေး အစိုးရယန္တရားတစ်ခု အဆင်ပြေချောမွေ့စွာ လည်ပတ်ရေးအတွက် လောလောဆယ် ရရှိနိုင်သည့် အကောင်းဆုံးစနစ်ဖြစ်ကြောင်း သူက ချေပပြောဆိုခဲ့ပါသည်။

❖

ကျေနပ်မှုအယူအဆကို အသေးစိတ် ရှင်းလင်းတင်ပြခဲ့ခြင်း၊ စီးပွားရေးရာကိစ္စများတွင် ယင်းအား မည်သို့မည်ပုံ ကျင့်သုံးသင့်ကြောင်း အဆောင် စည်းရုံး ပြောဆိုခဲ့ခြင်းများကို အကြောင်းပြုကာ ဘင်သမ်အား လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒ၏ ဖခင်ကြီးဟူ၍ ခေါ်ဝေါ်ခဲ့ကြပါ သည်။ ဘင်သမ်၏ အယူအဆမှာ နှောင်းလူတို့အပေါ် များစွာ လွှမ်းမိုး ခဲ့ပွားခဲ့ရာ၊ သူ့နောက်ပေါ်ထွန်းသည့် စီးပွားရေးပညာရှင် မျိုးဆက်ပေါင်း များစွာပင် ယင်းအား လမ်းညွှန်ဒဿန အဖြစ်လည်းကောင်း စိတ်ဓာတ် ရေးရာ လမ်းပြအဖြစ်လည်းကောင်း ခံယူကျင့်သုံးခဲ့ကြပေသည်။

# တောမတ်(စ) ရောဘတ် မဲလ်သပ်(စ)

(၁၇၆၆ – ၁၈၃၄)



တောမတ်(စ)ရောဘတ်မဲလ်သပ်(စ) (Thomas Robert Malthus) မှာ စီးပွားရေးပညာသည်မိုင်းတစ်လျှောက် အငြင်းပွားရဆုံး ပုဂ္ဂိုလ်တစ်ယောက် ဖြစ်သည်။ သူ အမိကကျော်ကြားသည်က ယနေ့တိုင် သူ၏အမည်နှင့် တွဲဖက်ထင်ရှားလျက်ရှိသည့် လူဦးရေဆိုင်ရာ အယူအဆတစ်ရပ်ကြောင့် ဖြစ်သည်။ ၁၈ ရာစုနှောင်းပိုင်း ပုဂ္ဂိုလ်များက၊ လူအများစုတို့၏လူနေမှုအဆင့်အတန်းများ တိုးတက်မြင့်မားအောင် မည်သို့မည်ပုံလုပ်ဆောင်နိုင်သည် ဟူသောအကြောင်းများ ပြောဆိုနေကြစဉ်၊ မဲလ်သပ်(စ)က ယင်းမှာ မဖြစ်နိုင်ကြောင်း၊ လူတို့၏ ဘဝအခြေအနေများတိုးတက်ကောင်းမွန်လျှင် လူဦးရေလည်း တိုးတက်လာမည်ဖြစ်ကြောင်း၊ လူဦးရေများလာသော် စောစောက တိုးတက်နေသည်ဆိုသော ဘဝအခြေအနေများလည်း ပြန်လည် ကျဆင်းသွားမည်သာဖြစ်ကြောင်း ဝေဖန်သုံးသပ်ပြခဲ့သည်။

စီးပွားရေးအမြင်နှင့်စပ်လျဉ်း၍ မဲလ်သပ်(စ)နှင့် သူ၏ခေတ်ပြိုင်ပုဂ္ဂိုလ်များ အကြားတွင်၊ လေ့လာပုံနည်းနာ (methodology) ပိုင်း၌လည်းကောင်း၊ သီအိုရီ (theory) ပိုင်းနှင့် မူဝါဒ (policy) ပိုင်း

တို့တွင်လည်းကောင်း ကွဲလွဲမှုများ ရှိခဲ့သည်။ နည်းနာနှင့်စပ်လျဉ်း၍ မဲလ်သပ်(စ)က စီးပွားရေးပညာသည် ထုတ်ယူဆင်ခြင်နည်း (deduction method) တွင် အခြေမခံဘဲ၊ လက်တွေ့ သို့မဟုတ် အရှိပကတိပေါ်တွင် အခြေခံသည့် ပညာရပ်မျိုးသာ ဖြစ်သင့်သည် ဟုမြင်သည်။ သီအိုရီပိုင်း၌၊ မဲလ်သပ်(စ)က၊ စီးပွားရေးနယ်ပယ်တစ်ခုအတွင်း အလုပ်လက်မဲ့ဦးရေများပြားနေသော အနေအထားတစ်ရပ်သည် ကြာရှည်ကြာမြော ဖြစ်နေနိုင်သည် ဟုရှုမြင်ရာ၊ ယင်းမှာ အခြားပညာရှင်တို့၏ အမြင်နှင့် ကွဲလွဲခဲ့သည်။ ပေါ်လစီရေးရာ၌လည်း သူက အခြားသူတို့ လက်ခံကိုင်စွဲနေကြသည့် လွတ်လပ်စွာကုန်သွယ်ခွင့်ရရှိရေး၊ ဆင်းရဲသားတို့အား အစိုးရက ထောက်ပံ့ကူညီရေးမူဝါဒများနှင့် ဆန့်ကျင်ဘက် ဖြစ်နေခဲ့သည်။

❖

မဲလ်သပ်(စ)ကို အင်္ဂလန်တောင်ပိုင်း ဆားရီနယ် ဝေါ့တင်မြို့တွင် ၁၇၆၆ ခုနှစ်က မွေးသည်။ ဖခင်က ကြွယ်ဝသော မြေပိုင်ရှင်တစ်ယောက် ဖြစ်၍၊ သားအတွက် ပညာရေးကို ဂရုစိုက်သည်။ အစပိုင်းတွင် နေအိမ်၌ ဖခင်ကိုယ်တိုင်လည်းကောင်း၊ သီးသန့်ဆရာများ ငှား၍လည်းကောင်း သင်ကြားပေးသည်။ ထို့နောက်တွင် နာမည်ကြီး ပုဂ္ဂလိကကျောင်းများသို့ ပို့သည်။ အသက် ၁၈ နှစ်တွင်မူ ကိန်းဗရစ်(ချ)တက္ကသိုလ် ယေရှုကောလိပ်သို့ တက်ရောက်သည်။ ကိန်းဗရစ်(ချ)တွင် သင်္ချာနှင့် သဘာဝသိပ္ပံ ဘာသာရပ်များကို သူ လေ့လာဆည်းပူးသည်။

ဖခင်က သူ့အား ကျောင်းထွက်ပြီးနောက်တွင် မြေတိုင်းမှူးတစ်ဦး ဖြစ်စေချင်၏။ သို့သော် သူက သာသနာရေးဘက်သို့ ဝင်ခဲ့သည်။ ၁၇၈၈ မှ စတင်ကာ ဘုန်းတော်ကြီးမဲလ်သပ်(စ) ဖြစ်လာပြီး၊ ၁၇၉၃ တွင်မူ ယေရှုကောလိပ် ပညာရှင်တစ်ဦးအဖြစ် အသိအမှတ်ပြု ခံရသည်။ တစ်ချိန်တည်းမှာပင် ဝေါ့တင်ရှိ အုတ်(ခ)ဝုဒ်ဘုရားရှိခိုးကျောင်း၌ သင်းထောက်ဆရာအဖြစ် တာဝန်အပ်နှင်းခြင်း ခံရသည်။



ဝေါ့တင်တွင် အလုပ်လုပ်နေစဉ် ကာလအတွင်း ဖခင်နှင့် **အကြိတ်**အနယ် အငြင်းအခုံတစ်ခု ဖြစ်သည်။ ဖခင်က ထိုစဉ်က လွှမ်းမိုးနေသည့် အယူအဆအတိုင်း၊ အများပြည်သူသာမန်လူတို့၏ စီးပွားရေးဘဝ တိုးတက်မြင့်မားအောင် မည်သို့မည်ပုံ ဆောင်ရွက်နိုင်သည့် အကြောင်းများ ပြောဆိုရာ မဲလ်သပ်(စ)က လက်မခံ၊ ဖြစ်နိုင်ချေ မရှိကြောင်း ပြန်၍ငြင်းသည်။ သည်အငြင်းပွားမှုမှ စတင်ကာ ၎င်းအကြောင်းရပ်ကို သူစိတ်ဝင်စားသွားပြီး၊ စာအုပ်စာတမ်းတွေ လိုက်ရှာဖတ်ရှုသည်။ ပြီး၊ ကိုယ်တိုင် စာတစ်ပုဒ် ရေးသည်။ ၎င်းစာမှာ နောင်အခါ၌ Essay on Population (**လူဦးရေအကြောင်းစာတမ်း**) အမည်နှင့် ကျော်ကြားလာမည့် သူ၏ ပထမဆုံး ရေးသားချက်ဖြစ်ပြီး ၁၇၉၈ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သည်။ လူဦးရေအကြောင်းစာတမ်းဟူ၍ အလွယ်တကူ ပြောဆိုနေကြသော်လည်း စင်စစ် ၎င်းစာတမ်း (ကျမ်း) ၏ အမည်အပြည့်အစုံမှာ An Essay on the Principle of Population as it Affects the Future Improvement of Society, with Remarks on the Speculations of Mr. Godwin, M. Condorcet, and other Writers ဟူ၍ ဖြစ်ပါသည်။

၎င်းစာတမ်းကြောင့် မဲလ်သပ်(စ)က နေ့ချင်းညချင်း ကျော်ကြားသွားသည်။ ထိုနောက် ၁၈၀၅ ခုနှစ်တွင် လန်ဒန်မြို့ အနီးရှိ အရှေ့အိန္ဒိယကောလိပ်သစ်တွင် ခေတ်သစ်သမိုင်းနှင့် နိုင်ငံရေးဘောဂဗေဒပညာပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၎င်းကောလိပ်မှာ အဓိကအားဖြင့် အိန္ဒိယပြည်တွင် အုပ်ချုပ်ရေးအရာရှိများအဖြစ် ဆောင်ရွက်မည့် အရှေ့အိန္ဒိယကုမ္ပဏီဝန်ထမ်းများအား လေ့ကျင့်သင်ကြားပေးသည့် နေရာဌာန ဖြစ်သည်။

သင်ကြားရေးအလုပ်က ပေါ့ပေါ့ပါးပါး သက်သက်သာသာဖြစ်ရာ မဲလ်သပ်(စ)မှာအချိန်ပိုတွေ အများကြီးရသည်။ အနီးဝန်းကျင်ပုဂ္ဂိုလ်များနှင့် ရင်းရင်းနှီးနှီး ပေါင်းသင်းဆက်ဆံခွင့် ရသကဲ့သို့ ရပ်ဝေးရှိ မိတ်ဆွေသူငယ်ချင်းများစွာနှင့်လည်း မပြတ် စာရေးဆက်သွယ် နေနိုင်ခဲ့သည်။ သူ အဓိက စာရေးဆက်သွယ်ဖြစ်သည်က နောင်တွင် ကျော်ကြားသော

စီးပွားရေးပညာရှင်တစ်ဦး ဖြစ်လာမည့် ဒေးဗစ်ရီကာဒို (David Ricardo) ဖြစ်သည်။

မိတ်ဆွေများနှင့် အစိက ပြောဆိုဆွေးနွေးဖြစ်သည့် အကြောင်းအရာက စီးပွားရေးရာနှင့် ပတ်သက်၍ပဲ ဖြစ်သည်။ သူ တင်ပြခဲ့သည့် လူဦးရေသဘောတရား အပါအဝင် စီးပွားရေးဆိုင်ရာ အယူအဆတွေ မူဝါဒတွေ ငြင်းခုံကြသည်။ သူနှင့်ရီကာဒိုတို့ အကြိတ်အနယ် ငြင်းခုံခဲ့သည့် အထဲတွင်၊ ဗြိတိန်ပြည်ရှိ ဆင်းရဲသားဥပဒေများ (Poor Laws) နှင့် ကောက်ပဲသီးနှံဥပဒေများ (Corn laws) အပြင်၊ ကုန်သွယ်ရေး လွတ်လပ်မှု၏ အကျိုးအပြစ်များ၊ ဝယ်လိုအား နည်းပါးကာ ဈေးကွက်၌ ပစ္စည်းများ ပိုလျှံနေနိုင်သည့် ပြဿနာ၊ စသည်တို့ ပါဝင်သည်။

❖

၁၈ ရာစုအလယ်ပိုင်း အင်္ဂလန်ပြည်တွင် စက်မှုတော်လှန်ရေး အရှိန်အဟုန်ကောင်းလျက်ရှိသည်။ သို့သော် လုပ်သားများမှာ အသက်ရှင် ရပ်တည်နိုင်ရုံ အနေအထားလောက်မှာပဲ ရှိနေသည်။ ၁၈ ရာစုနှောင်းပိုင်း တွင် အခြေအနေက ပိုဆိုးလာသည်။ စက်ရုံလုပ်သားများ၏ အလုပ်မှာ မိမိ တာဝန်ယူရသည့် ကဏ္ဍအစိတ်အပိုင်းလေး တစ်ခုတည်းကို ထပ်တလဲလဲ ကြိမ်ဖန်များစွာ လုပ်နေရသည့် အလွန် ပင်ပန်းငြီးငွေ့ဖွယ် အလုပ်မျိုး ဖြစ်သည်။ အလုပ်စချိန်မှသည် အလုပ်ရပ်နားချိန်အထိ စုပေါင်းတပ်ဆင် မှုလိုင်း (assembly line) ၏ ရွေ့လျားနှုန်းအတိုင်း အမီလိုက်ပြီး လုပ်ကြ ရသည်ဖြစ်ရာ လုပ်သားတို့မှာ စက်ရုံနာရီနှင့် စက်ယန္တရားတို့၏ ကျေးကျွန် များသဖွယ် ဖြစ်လာသည်။ ထို့ပြင်၊ 'နိုင်ငံတို့၏ဓနဥစ္စာ' (The Wealth of Nations) ကျမ်းတွင် ဘောဂဗေဒပညာရှင်ကြီး အက်ဒမ်စမစ် (Adam Smith) က ကုန်ထုတ်စွမ်းရည်တိုးတက်ရေး၊ ထိုမှတစ်ဆင့် လုပ်သားတို့၏ လူနေမှုဘဝမြင့်မားရေးတို့ကို အကြီးအကျယ် အထောက်အကူပြုမည် ဟူ၍ တီထွင်မှုတစ်ရပ်အဖြစ် ဂုဏ်တင်ရေးသားခဲ့သည့် အလုပ်ခွဲဝေမှု (division



of labour) စနစ်သည် စက်ရုံတွင် လုပ်သားအသီးသီးတို့ လုပ်ကိုင်ရသည့် အလုပ်ကဏ္ဍ အစိတ်အပိုင်းလေးများကို အလွန် ရှင်းလင်းလွယ်ကူအောင် ခွဲတီးပေးခဲ့ရာ လုပ်ငန်းနေရာအများအပြားမှာ ယောကျ်ားကြီးများသာ မဟုတ် မိန်းမများ ကလေးများပင် ဝင်ရောက်လုပ်ကိုင်နိုင်သည့် အနေ အထားမျိုး ဖြစ်လာခဲ့သည်။ သည်တွင်၊ ကုန်ကျစရိတ်သက်သာမှုကို အစဉ်အာရုံပြုသည့် အလုပ်ရှင်များက ယောကျ်ားကြီးများလောက် လုပ်ခ လစာများ မပေးရသည့် မိန်းမများနှင့် ကလေးများကို ရနိုင်သမျှ ငှားရမ်း သုံးစွဲလာကြသည်။

သည်အခြေအနေတွင် အလုပ်သမားတို့အတွက် ရပ်တည် ဆောင်ရွက်ပေးမည့် ပုဂ္ဂိုလ်များ ပေါ်ပေါက်လာသည်။ သည်အထဲတွင် ထင်ရှားဆုံးက မားကွစ် ဒ ကော်ဒိုဆေး (Marquis de Cordocet)၊ ရောဘတ် အိုဝင် (Robert Owen) နှင့် ဝီလျံ ဂေါ့ဒ်ဝင်း (William Godwin) တို့ဖြစ်သည်။

ကော်ဒိုဆေးက လုပ်သားတို့၏ ရုပ်ပိုင်းဆိုင်ရာ အခြေအနေများ တိုးတက် ကောင်းမွန်လာစေရန်အတွက် စီးပွားရေး မျှတမှုနှင့် ဘဝလုံခြုံမှုကို အထောက်အကူပြုသည့် လုပ်ငန်းများ ချမှတ်ဆောင်ရွက်ဖို့လိုကြောင်း ပြောဆိုကာ၊ ပြုပြင်ပြောင်းလဲရေး အစီအစဉ်နှစ်ရပ် အကြံပြုတင်ပြသည်။ တစ်ခုမှာ၊ ဆင်းရဲသောလုပ်သားများအတွက် လူမှုဖူလုံရေးစနစ်တစ်ရပ် ချမှတ် အကောင်အထည်ဖော်ရန် ဖြစ်ပြီး၊ နောက်တစ်ခုက ငွေကြေး အကူအညီ လိုနေသည့် လုပ်သားတို့ သက်သာသောနှုန်းထားဖြင့် ချေးငှား နိုင်ရေးအတွက် အစိုးရက ငွေတိုးနှုန်းများကို ထိန်းချုပ်ကန့်သတ်ပေးရန် ဖြစ်သည်။

ရောဘတ်အိုဝင်ကလည်း၊ အလုပ်သမားလူတန်းစား မိသားစု တို့၏ စီးပွားရေးနှင့် လူမှုရေးဘဝအခြေအနေများ တိုးတက်မြင့်မားအောင် အထောက်အကူပြုရန်အတွက် စက်ရုံအလုပ်ရုံဒေသများတွင် လုပ်သားတို့ အတွက် စံပြရပ်ရွာများ ထူထောင်ပေးရန် ကြိုးပမ်းအားထုတ်သည်။

ဂေါ့ဒ်ဝင်းကမူ ပိုင်ဆိုင်မှုအရင်းအမြစ်လှန်ကာ ပြုပြင်ပြောင်းလဲရန်

ကြံစည်သည်။ သူက၊ လုပ်သားတို့ ဆင်းရဲနေရခြင်းသည် အရင်းရှင်စီးပွားရေးစနစ်ကြောင့် ဖြစ်သည်၊ ထို့ကြောင့် ဓနရှင်တို့ ပိုင်ဆိုင်ထားသော ပစ္စည်းများကို သိမ်းယူကာ အမှန်တကယ် လိုအပ်နေသူများသို့ လွှဲပြောင်းပေးသင့်သည်၊ သို့မှသာ ဆင်းရဲခြင်း၊ မတရား မမျှတခြင်းနှင့် အခြားလူမှုဒုက္ခဝေဒနာများ ဤကမ္ဘာမှ ပျောက်ကွယ်သွားလိမ့်မည်၊ ဟုခံယူသည်။

မဲလ်သပ်(စ)၏ 'လူဦးရေအကြောင်းစာတမ်း' သည် ဂုဏ်ပုဂ္ဂိုလ်များ၏ ရေးသားချက်များကို ဖတ်ရှုကာ ထွက်ပေါ်လာခြင်း ဖြစ်၏။ သို့သော်၊ ထောက်ခံခြင်းတော့ မဟုတ်။ လူအများစုတို့၏ စီးပွားရေးဘဝအခြေအနေများ တိုးတက်ကောင်းမွန်အောင် မည်သို့ ဆောင်ရွက်နိုင်သည် ဟူသော ဂုဏ်ပုဂ္ဂိုလ်တို့၏ ရှုမြင်သုံးသပ်ချက်များကို ဝေဖန်တိုက်ဖျက်ရန်သာ သူ ရေးသားခဲ့ခြင်း ဖြစ်သည်။ မဲလ်သပ်(စ)က၊ လူအများစုတို့၏ ဘဝအခြေအနေများ တိုးတက်လာဖို့မှာ မဖြစ်နိုင်၊ မည်သည့်လူ့အဖွဲ့အစည်းမျိုး၌မဆို လူအများစုနှင့် ဆင်းရဲဒုက္ခသည် ဒွန်တွဲနေမည်သာ ဖြစ်သည် ဟု သူမြင်သည်။ သူက သည်မျှနှင့် မနေ၊ လူအများစုတို့၏ ဆင်းရဲဒုက္ခများ လျော့ပါးသက်သာအောင် ဆောင်ရွက်သည့် နည်းလမ်းမှန်သမျှသည် မည်မျှ စေတနာပါသည်ဖြစ်စေ၊ မည်မျှစနစ်တကျ စဉ်းစားကြံဆလုပ်ကိုင်သည်ပဲ ဖြစ်စေ အောင်မြင်စရာ မရှိ၊ ပို၍ဆိုးဝါးအောင်လုပ်ရာသာ ရောက်လိမ့်မည် ဟု ဆိုလိုက်သေးသည်။ မဲလ်သပ်(စ)၏ အဲသည်ရှုမြင်ချက်မျိုးကို အကြောင်းပြုကာ တောမတ်(စ)ကာလိုင်(လ) (Thomas Carlisle) က စီးပွားရေးပညာကို စိတ်မချမ်းသာစရာ ပညာရပ်ဟု ကင်ပွန်းတပ်ခဲ့ခြင်း ဖြစ်သည်။ ရာစုနှစ်နှစ်ခုမျှကြာခဲ့ပြီးသည့် ယနေ့ကာလတိုင် သည်နာမည်က စီးပွားရေးပညာနှင့် ငြိတွယ်နေဆဲဖြစ်သည်။

လူအများ၏ ဘဝအခြေအနေများ တိုးတက်မြင့်မားအောင် ဆောင်ရွက်ရန် မဖြစ်နိုင်ခြင်းနှင့် စပ်လျဉ်း၍ မဲလ်သပ်(စ)က အကြောင်း နှစ်ရပ်ပြသည်။

တစ်ချက်က၊ ပင်ကိုသဘာဝအရ လူသား၌ ကာမဂုဏ်အာရုံ ခံစားလိုစိတ်သည် ငြိမ်းသတ်မရနိုင်သည့် ဆန္ဒတစ်ခုအဖြစ် ပါရှိနေသည်။



ထိုအကြောင်းကြောင့် လူဦးရေများ မပြတ်တိုးပွားနေရသည်။ အတားအဆီး၍ ထိန်းချုပ်မှုသာ မရှိဘူးဆိုက လူဦးရေသည် ဂဲဩမေတြီတိုးနှုန်း (၁၊ ၂၊ ၄၊ ၈၊ ၁၆၊ ...) ဖြင့်တိုးတက်သွားမည်ဟု သူမြင်သည်။ ဒုတိယ၊ မဲလ်သပ်(စ) အမြင်အရ၊ စိုက်ပျိုးရေးလုပ်ငန်း၌ စိုက်ဧရိယာတိုးချဲ့လေ အထွက်နှုန်း လျော့လေဟူသော (diminishing returns) သဘော သက်ရောက်မှု ရှိနေသည်။ လူဦးရေတိုးသဖြင့် စားနပ်ရိက္ခာတောင်းဆိုမှု တိုးတက်လာလျှင် စိုက်ပျိုးသူတို့က ယခင်ပစ်ထားခဲ့သည့် မြေညံ့များ၌လည်းကောင်း၊ မြေရိုင်းများကို ခုတ်ထွင်ရှင်းလင်းကာ လယ်သစ်တည်၍လည်းကောင်း စိုက်ပျိုးကြလိမ့်မည်။ သို့သော် အသစ်တိုးလာသည့် စိုက်ကွက်များသည် မူလစိုက်ကွက်များလောက် အထွက်နှုန်း ကောင်းလေ့မရှိကြ။ ထို့ကြောင့် စိုက်ပျိုးရေးဘက်တွင် တိုးချဲ့သဖြင့် စားနပ်ရိက္ခာများ တိုးပွားလာမည် ဆိုလျှင်လည်း တိုးပွားနှုန်းသည် အလွန်ဆုံးအားဖြင့် ဂဏန်းသင်္ချာတိုးနှုန်း (၁၊ ၂၊ ၃၊ ၄၊ ၅၊ ...) လောက်သာ ရှိနိုင်မည်။ လူဦးရေက တိုးနှုန်းမြန်ပြီး၊ စားနပ်ရိက္ခာက တိုးနှုန်းနှေးသည့်အခါ တစ်ချိန်၌ ရိက္ခာက လူဦးရေကို မလိုက်မမီသည့် အဆင့်သို့ရောက်မည်၊ သည်အချိန်မှာ လူဦးရေသာ မထိန်းနိုင်က လူအများတို့ အငတ်ဘေးကြုံကြရလိမ့်မည်၊ ဟု သူကမြင်သည်။

သို့ဖြစ်လျှင် လူဦးရေကို ဘာနှင့် ထိန်းမည်နည်း။

လူဦးရေအကြောင်းစာတမ်း ပထမနှိပ်ခြင်းတွင် မဲလ်သပ်(စ)က၊ တိုးပွားလာနေသည့် လူဦးရေတစ်ရပ်ကို တိုက်ရိုက် ထိန်းချုပ်ကန့်သတ်သည့် အရာများအကြောင်း ဖော်ပြခဲ့သည်။ ယင်းတို့မှာ၊ ကပ်သုံးပါးဟု ခေါ်ကြသည့် စစ်ဘေး၊ ရောဂါဘေး၊ ငတ်မွတ်ခြင်းဘေးများနှင့်၊ အခြား သဘာဝဘေးရန်များ ဖြစ်သည်။ ယင်းဘေးရန်တို့ကြောင့် လူအများ အမြန်ထက် စောစီးလျင်မြန်စွာ သေကျေပျက်စီးကြသည့်အခါ လူဦးရေ တိုးတက်မှု တုံ့နှေးသွားမည် ဖြစ်သည်။ သူ၏စာတမ်းကို ဒုတိယအကြိမ် ရိုက်နှိပ်ထုတ်ဝေသည့် အခါ၌မူ၊ အထက်ကဆိုခဲ့သည့် တိုက်ရိုက်ထိန်းချုပ် နည်း၊ သို့မဟုတ် ရှိပြီးလူဦးရေကို လျှော့ချသောနည်းအပြင် ကြိုတင် ကာကွယ်မှုဖြင့် ထိန်းချုပ်သောနည်းများပါ သူ ထည့်သွင်းဖော်ပြလာသည်။

ယင်းနည်းများမှာ၊ လိုင်ဆက်ဆံမှုကို ရှောင်ကြဉ်ခြင်း၊ ပဋိသန္ဓေတားဆီးခြင်း၊ လက်ထပ်ထိမ်းမြားမှုကို တတ်နိုင်သမျှ နောက်ကျအောင် ရွှေ့ဆိုင်းခြင်း စသည်တို့ ဖြစ်သည်။ သည်နည်းများအတိုင်း ကျင့်သုံးခြင်းဖြင့် မွေးဖွားနှုန်း လျော့ကျကာ လူဦးရေတိုးပွားနှုန်းလည်း ကျဆင်းလာစရာရှိကြောင်း သူ ဖော်ပြခဲ့သည်။

လူဦးရေ အလွန်အကျွံ မတိုးပွားရအောင် ကြိုတင်ကာကွယ် ထိန်းချုပ်နိုင်သည့် နည်းလမ်းများရှိသေးသည်ဟူသော အချက်ကို အသ… အမှတ်ပြု ဖော်ပြလာသော်လည်း၊ ယင်းတို့ကြောင့် လူမှုစီးပွားရေး အခြေ… အထားများ ကောင်းမွန်လာနိုင်သည် ဟူ၍ကား မဲလ်သပ်(စ) မယုံကြည် ခဲ့ပေ။ အကြောင်းက၊ လူသားတို့အနေနှင့် ပြင်းပြသော ဗိုမစိတ်ဆန္ဒများ… လွန်ဆန်နိုင်ခဲလှသည်ဖြစ်ရာ၊ ယင်းဆန္ဒများကို ဆန့်ကျင်တွန်းလှန်လျ… အထက်က နည်းလမ်းများအတိုင်း လိုက်နာကျင့်သုံးဖို့မှာ တကယ် လက်တွေ့၌ မလွယ်ကူဟု သူ ယူဆသောကြောင့် ဖြစ်သည်။

ကော်ဒိုဆေး၊ အိုဝင်နှင့် ဂေါ့ဒ်ဝင်းတို့၏ ရေးသားချက်များ… အထက်ကအမြင်ဖြင့်ပင် သူ ဆန့်ကျင်သည်။

အကယ်၍၊ ဂေါ့ဒ်ဝင်း တောင်းဆိုသည့်အတိုင်း ကြွယ်ဝသူတို့ထံ… ဓနဥစ္စာများကို သိမ်းယူ၍ မရှိသူတို့ထံ မျှဝေပေးခြင်း၊ ကော်ဒိုဆေးနှ… အိုဝင်တို့ အကြံပြုသည့် လူမှုပြုပြင်ရေးဆိုင်ရာ အစီအစဉ်များ ချမှ… ကျင့်သုံးခြင်း စသည်တို့ကြောင့် ဆင်းရဲသားမိသားစုများတွင် ရုပ်ဝတ္ထုအ… ပြည့်စုံလာမည် ဆိုပါစို့၊ ကလေးသူငယ်များ မြောက်မြားစွာ မွေးဖွ… ကြခြင်းဖြင့် များမကြာမီပင် နဂိုပုံမှန်အတိုင်း ပြန်ဆင်းရဲအောင် ၎င်း… ဘာသာ လုပ်ဆောင်လာကြလိမ့်မည်ဟု သူကဆိုသည်။ သည်ရှုမြင်ချ… ကြောင့်ပင် သူက သူဆင်းရဲတို့အား ကူညီထောက်ပံ့မည့် အစီအစဉ်များ… ငြင်းဆန်ကန့်ကွက်ခဲ့ခြင်း ဖြစ်သည်။ ဆင်းရဲချို့တဲ့သူတို့အား ၎င်းတို့… လိုအပ်ချက်များကို အခြောက်တိုက် ဖြည့်ဆည်းပေးပါက နောက်ထ… ဆင်းရဲချို့တဲ့သူဦးရေ တိုးပွားလာခြင်းသာ အဖတ်တင်လိမ့်မည်ဟု … ဆိုခဲ့သည်။ ယနေ့ခေတ်တွင်လည်း မဲလ်သပ်(စ)၏ အယူအဆမျိုး ရှိကြ…



…တို့က၊ အစိုးရတို့၏ လူမှုဖူလုံရေး အကူအညီများသည် မိမိဘာသာ ရပ်တည်နိုင်သူတို့အား အစိုးရထောက်ပံ့ကြေးစားကာ ကလေးသူငယ်များ မွေးဖွားအောင် အားပေးရာရောက်ပြီး၊ ယင်းကြောင့် ၎င်းတို့၏ဘဝများ …၍သာ ကျဆင်းစေသည်ဟု ဝေဖန်ပြောဆိုကြဆဲ ဖြစ်သည်။

နောင်နှစ်အတော်ကြာပြီးသည့်နောက်တွင် An Investigation of the Cause of the Present High Price of Provisions (ယနေ့ စားသောက်ကုန်ဈေးနှုန်းများ ကြီးမြင့်နေရခြင်း အကြောင်းရင်းကို စူးစမ်းလေ့လာခြင်း) အမည်ဖြင့် စာအုပ်ငယ်တစ်အုပ် မဲလ်သပ်(စ) ရေးသားသည်။ သည်စာအုပ်၌မူ ဆင်းရဲသား သက်သာချောင်ချိရေး နှင့်စပ်လျဉ်း၍ ပိုပြင်းပြင်းထန်ထန်ပင် ကန့်ကွက်ထားတာ တွေ့ရှိရသည်။ သူက၊ ထောက်ပံ့ရေးအစီအစဉ်များကြောင့် ကောက်ပဲသီးနှံ နှင့် အခြား အခြေခံကုန်ပစ္စည်းများ ဈေးနှုန်း တိုးမြင့်လာနိုင်ကြောင်း၊ သည်အခါ၌ ဆင်းရဲသားများသာမက၊ ထောက်ပံ့ကြေး မခံစားရသည့် အခြား တိုင်းသူ ပြည်သားများပါ ထိခိုက်နစ်နာကြမည်ဖြစ်ကြောင်း ဝေဖန်ပြောဆိုခဲ့သည်။

❖

လူဦးရေအယူအဆဖြင့် လူသိများသည် မှန်သော်လည်း၊ စီးပွားရေးရာသက်သက် နှင့်စပ်လျဉ်း၍လည်း သီအိုရီပိုင်းတွင်ရော ပေါ်လစီကဏ္ဍတွင်ပါ သူ၏ ဖြည့်ဆည်းချက် များစွာရှိခဲ့သည်။

သီအိုရီပိုင်းတွင် မဲလ်သပ်(စ) ပြောခဲ့သည့် အရေးပါသော အချက်တစ်ရပ်က၊ အမြတ်အစွန်း (profit) ဟူသည် ရသင့်ရထိုက်သော အရာဖြစ်ကြောင်း ထောက်ခံပြောဆိုခြင်း ဖြစ်သည်။ သည်အကြောင်းကို Essay on Rents (ငှားခအကြောင်းစာတမ်း) တွင် သူ ရေးသားခဲ့သည်။ မဲလ်သပ်(စ) အရင်က၊ အရင်းရှင်စီးပွားရေးစနစ်အကြောင်း အက်ဒမ်စမစ် ပြောကြားခဲ့ရာတွင် အမြတ်အစွန်းနှင့်စပ်လျဉ်းသည့် အမြင်များ ပေါ်ဝင်ခဲ့ပေ။ အမြတ်အစွန်း၏ အတိုင်းအတာ (level) ကို ဘယ်အရာက

သတ်မှတ်ပြဋ္ဌာန်းကြောင်းလည်း မဖော်ပြခဲ့။ မဲလ်သပ်(စ)က စမစ် ချန်ထားခဲ့သည့် ကွက်လပ်ကို ဖြည့်ပေးသည်။ သူက၊ အမြတ်အစွန်းဟူသည် ကုန်ပစ္စည်းထုတ်လုပ်မှုဖြစ်စဉ်တွင် အရင်းရှင်ပါဝင်ခဲ့သည့် အခန်းကဏ္ဍအတွက် ပြန်လည်ရရှိသည့် အကျိုးရလဒ်ဖြစ်သည် ဟုမြင်သည်။ ကုန်ပစ္စည်း ထုတ်လုပ်ရာ၌ အလုပ်သမားများက ကိုယ်တိုင်ကိုယ်ကျ လုပ်ကိုင်ကြတာ မှန်သည်၊ သို့သော် စက်ယန္တရား စူးဆောက်တန်ဆာပလာ မပါသော လုပ်သားသည် ယန္တရားပြည့်စုံစွာဖြင့် လုပ်ကိုင်ရသူတို့လောက် အများအပြား မထုတ်လုပ်နိုင်၊ အရင်းရှင်သည် စက်ယန္တရားနှင့် လုပ်ငန်းသုံး ကိရိယာတန်ဆာပလာများ အပါအဝင် အရင်းအနှီးများ စိုက်ထုတ်ထည့်ဝင်ခြင်းဖြင့် ကုန်ထုတ်လုပ်မှုကို တိုးတက်စေသည်ဖြစ်ရာ ယင်းထည့်ဝင်မှုအတွက် အကျိုးကျေးဇူး ရသင့်ရထိုက်သည်ဟု သူမြင်သည်။

ငှားခအကြောင်းစာတမ်းတွင်ပင် မဲလ်သပ်(စ)က ငှားခနှင့် စပ်လျဉ်းသည့် နှုန်းခွဲသီအိုရီ (differential theory of rent) သဘောတရား ဖော်ထုတ်ခဲ့သည်။ သူက မြေငှားခနှုန်းထားတို့သည် မြေတစ်ကွက်နှင့်တစ်ကွက် အရည်အသွေး ကွာခြားခြင်း ကြောင့်လည်းကောင်း၊ မြေရှင်တို့က မိမိမြေယာကို ပိုကောင်းအောင် ပြုပြင်ခြင်း ကြောင့်လည်းကောင်း ကွဲပြားဖြစ်ပေါ်ရသည် ဟုဆိုသည်။

စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကြောင့် လယ်ယာထွက်ကုန်များအပေါ် ဝယ်လိုအား ပိုလာသည့်အခါ မူလက အထွက်ကောင်းသည့် မြေကောင်းမြေသန့်တွင်သာ စိုက်ပျိုးနေရာမှ အထွက်နည်းသည့် မြေညံ့များတွင် တိုးချဲ့စိုက်ပျိုးလာကြသည်။ ထိုအခါ မြေအမျိုးအစား ကွဲပြားမှုများအလိုက်ကာ မြေငှားခနှုန်းထား ကွာခြားမှုများ ရှိလာရသည်ဟု သူမြင်သည်။ ထို့ပြင်၊ မဲလ်သပ်(စ)က မြေငှားခနှုန်းထား မြင့်မားခြင်းသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကြောင့် ဖြစ်သည်၊ ထို့ကြောင့် မြေငှားခနှုန်းထား အနည်းအများကို ကြည့်ကာ ဖွံ့ဖြိုးတိုးတက်မှု အတိုင်းအဆကို ချင့်တွက်ခန့်မှန်းနိုင်သည် ဟူ၍လည်း ရှုမြင်ခဲ့ပါသည်။

တစ်ဖန်၊ မူဝါဒပိုင်းဆိုင်ရာနှင့် စပ်လျဉ်း၍ မဲလ်သပ်(စ)က



စီးပွားရေးလောကအတွင်း မကြာခဏ ဖြစ်ပွားတတ်သည့်၊ လုပ်ငန်းများကျဆင်းခြင်း၊ ရောင်းမထွက်သော ပစ္စည်းတွေ စုပုံနေခြင်း၊ အလုပ်လက်မဲ့ဦးရေ များပြားသောကာလ ကြာရှည်စွာ ဖြစ်ပေါ်နေခြင်း စသည်တို့နှင့် စပ်လျဉ်းသည့် အရင်းခံ အကြောင်းအချက်များကို ဖော်ထုတ်ရန် ကြိုးစားခဲ့သည်။

သူက ကုန်ပစ္စည်းများ ရောင်းမထွက်ခြင်းသည် ဝယ်လိုအား မပြည့်ဝခြင်း (ဝါ) ငွေသုံးစွဲမှု လျော့နည်းခြင်းကြောင့် ဖြစ်ပြီး၊ ယင်းနှင့် ဆန့်ကျင်ဘက်အဖြစ်၊ ကုန်ဈေးနှုန်း ကြီးမြင့်ခြင်းကမူ စီးပွားရေးနယ်ပယ်အတွင်း ငွေသုံးစွဲမှု ပိုလွန်နေခြင်းကြောင့် ဖြစ်သည် ဟူ၍ဆိုခဲ့သည်။ သည်အချက်များကို ဖော်ထုတ်ခဲ့ခြင်းကြောင့်ပင် နောက်ပိုင်းခေတ်ထင်ရှားသော စီးပွားရေးပညာရှင်ကြီး ကိန်း(စ) (J. M. Keynes) က မဲလ်သပ်(စ)အား မိမိတင်ပြသည့် စီးပွားရေးသံသရာသီအိုရီ (theory of business cycles) ကို စောစီးစွာ ကြံဆခဲ့သည့် အရေးပါသော ရှေ့ပြေးပုဂ္ဂိုလ်ကြီးတစ်ဦးအဖြစ် အသိအမှတ်ပြု ပြောဆိုခဲ့ပါသည်။

၁၈၂၀ ပြည့်နှစ်တွင် မဲလ်သပ်(စ)၏ Principles of Political Economy (နိုင်ငံရေးဘောဂဗေဒ အခြေခံသဘောတရားများ) ကျမ်း ပုံနှိပ်ခြင်း ထွက်လာသည်။ သည်ကျမ်းကို ဗြိတိန်ပြည်၌ အတော်ကြီးမားသော စီးပွားရေးကပ်တစ်ခု ဆိုက်ရောက်နေစဉ် ကာလအတွင်း သူရေးသားခဲ့ခြင်း ဖြစ်သည်။ ၎င်းတွင် မဲလ်သပ်(စ)က စီးပွားရေး ကျဆင်းခြင်း အကြောင်းရင်းနှင့် စပ်လျဉ်းသည့် သူ၏အမြင်ကို ဖော်ပြခဲ့သည်။ သူ့အလိုအရ၊ အရင်းရှင်စနစ် ဖွံ့ဖြိုးနေစဉ်အတွင်း အရင်းရှင်တို့ ဝင်ငွေများအပြား ရရှိကြသည်။ ထိုဝင်ငွေသည် နောက်ထပ် ၎င်းတို့ အကျိုးအမြတ်ရှိစွာ တိုးချဲ့ ရင်းနှီး မြှုပ်နှံနိုင်သည့် အတိုင်းအတာထက် ပိုမိုသည်။ အကြောင်းက၊ နံပါတ်တစ်၊ တိုးလာသော ဝင်ငွေဖြင့် စက်ယန္တရားများ တိုးချဲ့တပ်ဆင်မည် ဆိုပါစို့၊ ၎င်းယန္တရားများကို ကိုင်တွယ်မည့် လုပ်သားများ လိုလာမည်၊ စက်ယန္တရားကို အချိန်တိုအတွင်း တပ်ဆင်နိုင်သော်လည်း ကျွမ်းကျင်လုပ်သားသစ်များ အလုံအလောက်ရရှိဖို့က နောက်ထပ် ၁၅ နှစ်ခန့်မဟုတ် သည်ထက်မကကြာအောင် စောင့်ရလိမ့်မည်၊ ထို့ကြားကာလ

အတွင်း လုပ်သားဦးရေ လျော့နည်းမှု ဖြစ်နေမည်၊ ထိုအခါ လုပ်ခနှုန်းတွေ တိုးပေးပြီး ခေါ်ယူကြရမည်၊ လုပ်ခတိုးလျှင် အမြတ်မှာ လျော့မည်၊ အမြတ်သိပ်နည်းလာလျှင် အရင်းရှင်က သူ့ငွေကို ရင်းနှီးမြှုပ်နှံမှု မပြုဘဲ သည်အတိုင်းသာ သိမ်းဆည်း၍ထားလိမ့်မည်။ နံပါတ်နှစ်။ ပိုမိုတိုးတက်လာသော စက်ယန္တရားသစ်များသည် လူသားတို့၏ ထုတ်လုပ်မှုစွမ်းအားကို ပို၍တိုးမြင့်စေသည်၊ ထို့ကြောင့် စက်သစ်သုံးလာသည့် လုပ်ငန်း အသီးသီးတို့၌ လုပ်သားလိုအပ်ချက်သည် ယခင်ထက် လျော့နည်းလာသည်၊ လုပ်သားအတွက် ကုန်ကျစရိတ် လျော့နည်းသော် အမြတ်ငွေ ပို၍ ရရှိလာမည် ဖြစ်သည်။

အရင်းရှင်တွင် ငွေတွေဝင်နေပြီး၊ လုပ်ငန်းကို ယင်းနှင့်လျော်ညီစွာ တိုးချဲ့နိုင်ခြင်း မရှိသည့်အခါ သူ့မှာစုဆောင်းငွေတွေ အများကြီးရှိလာသည်။ လူတစ်ဦးချင်းအနေနှင့် မိမိငွေကို မသုံးသင့်သည့် နေရာတွင် မသုံးဘဲ သိမ်းဆည်းစုဆောင်းထားခြင်းသည် ကောင်းသောအပြုအမူဟုပဲ ဆိုရလိမ့်မည်။ သို့သော် အရင်းရှင်က သူ့ငွေတွေ ထုတ်မသုံးသည့် အခါ၌မူ ထိုငွေသည် သူနှင့် ဆက်စပ်ပတ်သက်သည့် အခြားသူများထံသို့ မပျံ့နှံ့၊ ထိုအခါ ကုန်ပစ္စည်းများ ဝယ်ယူသုံးစွဲရာသို့ ၎င်းတို့ မရောက်ရှိ၊ ထိုအခါ ဈေးကွက်တွင် ပစ္စည်းများ ပိုလျှံနေပြီး နောက်ထပ်ထုတ်လုပ်ရန် မလိုအပ်ဖြစ်လာသဖြင့် လုပ်ငန်းများ ကျဆင်းခြင်း၊ လုပ်သားဦးရေ လျှော့ချခြင်း စသည့် အများနှင့်စပ်လျဉ်းသော ဆိုးကျိုးများ ဖြစ်ပေါ်လာသည်။ သူလိမ္မာသဖြင့် အခြားသူများ ဒုက္ခရောက်ရသည့်သဘော ဟုဆိုနိုင်သည်။

မဲလ်သပ်(စ)က သည်သဘောကို သုံးသပ်ပြီးနောက်၊ ပြဿနာအတွက် အဖြေကို ယင်းစိစစ်ချက်မှပင် ဆက်လက်ထုတ်ယူသည်။

အရင်းရှင်က ငွေထုတ်မသုံးဘူးဆိုလျှင်၊ ငွေသုံးတတ်သည့် မြေရှင်များထံ ထိုငွေကို ရွှေ့ပြောင်းပေးပို့ရန် အစိုးရက စီမံသင့်သည်ဟု သူသဘောရသည်။ မဲလ်သပ်(စ)က၊ မြေရှင်များသည် ဝင်လာသမျှငွေကို ထုတ်သုံးကြသူများဖြစ်သည် ဟုမြင်သည်။ မြေရှင်တို့ ဝင်ငွေတိုးတက်ရရှိလာလျှင် ၎င်းကို နောက်ထပ် အခိုင်းအစေသစ်များ ငှားရမ်းခြင်း



ခံပစ္စည်းများ ဝယ်ယူခြင်းတို့တွင် တိုးတက်သုံးစွဲလာကြလိမ့်မည်ဟု သူယုံကြည်သည်။ ထို့ကြောင့် အရင်းရှင်ထက် မြေရှင်တို့ အကျိုးအမြတ်ခံစားရစေမည့် ဗြိတိသျှကောက်ပဲသီးနှံဥပဒေများကို သူ ထောက်ခံခဲ့ခြင်း ဖြစ်သည်။

၎င်းဥပဒေများအရ ဗြိတိန်ပြည်တွင်း၌ ကောက်ပဲသီးနှံဈေးနှုန်းများ အမြင့်ဆုံး ဘယ်ရွေ့ဘယ်မျှအထိ မတက်မချင်း ပြည်ပမှ ကောက်ပဲသီးနှံ ဝယ်ယူတင်သွင်းခွင့် မပြုရန် တားမြစ်ထားသည်။ ပြည်ပက သီးနှံများ အလွယ်တကူ ဝင်ရောက်နိုင်ခြင်း မရှိသည့်အခါ ပြည်တွင်း စိုက်ပျိုးရေးသမားတို့ ဈေးကောင်းရသဖြင့် လယ်ယာမြေများ တိုးချဲ့လုပ်ကိုင်လာကြမည်။ ထိုအခါ၊ မြေယာသစ်များ တီထွင်လာကြသကဲ့သို့ မြေကောင်းမြေသန့်စာရင်းဝင် မူလစိုက်ပျိုးမြေများလည်း တန်ဖိုးတက်လာပြီး၊ မြေရှင်တို့မှာ မြေငှားခ ကောင်းကောင်း ရကြမည်။ တစ်ဘက်တွင်၊ စားသုံးကုန်ဈေးနှုန်းများ တက်သည့်အခါ ယင်းနှင့်လျော်ညီစွာ လုပ်ခများလည်း တိုး၍ပေးလာရမည်။ ထို့ကြောင့် စာရင်းချုပ်သည့်အခါ အရင်းရှင်တို့သာ ထိခိုက်ပြီး၊ ၎င်းတို့ သိမ်းဆည်းထားကြသည့် စုဆောင်းငွေပမာဏ လျော့ကျလာမည် စသဖြင့် မဲလ်သပ်(စ)က သုံးသပ်ခဲ့သည်။

❖

စီးပွားရေးနှင့်စပ်လျဉ်း၍ သီအိုရီပိုင်းတွင် သူ၏ ဖြည့်ဆည်းချက်များစွာ ရှိခဲ့ပြီး၊ ကိန်း(စ)ကိုယ်တိုင်လည်း စီးပွားရေးသံသရာသီအိုရီ၏ ရှေ့ပြေးပုဂ္ဂိုလ်တစ်ဦးအဖြစ် ချီးပပြောဆိုခြင်းများ ရှိခဲ့တာ မှန်သော်လည်း မဲလ်သပ်(စ)အား တကယ်တမ်း လူသိများကြသည်က သူ၏ 'လူဦးရေသဘောတရား' နှင့်စပ်လျဉ်း၍သာ ဖြစ်၏။ မဲလ်သပ်(စ)ဝါဒ၊ မဲလ်သပ်(စ)အမြင် ဟုဆိုလိုက်လျှင်၊ လူတို့၏ စီးပွားရေးဘဝနှင့်စပ်လျဉ်း၍ တိုးတက်ကောင်းမွန်စရာ အလားအလာ မမြင်နိုင်သည့် အယူအဆ (ဝါ) အဆိုးမြင်ဝါဒအဖြစ် ယနေ့ခေတ်တိုင် လူအများ ခေါင်းထဲ စွဲမြဲလျက် ရှိနေပေသည်။

# ရောဘတ်အိုဝင်
## (၁၇၇၁ – ၁၈၅၈)



ရောဘတ်အိုဝင် (Robert Owen) က ဗြိတိန်ပြည်တွင် ဆိုရှယ်လစ်ဝါဒကို မျိုးစေ့ချပေးခဲ့သူတစ်ဦး ဖြစ်သကဲ့သို့၊ ၁၉ ရာစု အစောပိုင်းကာလအတွင်း ပေါ်ပေါက်ခဲ့သည့် ယူတိုးပီယန် (utopian) ဆိုရှယ်လစ်ဝါဒလှုပ်ရှားမှု၏ ခေါင်းဆောင်တစ်ဦးအဖြစ်လည်း ထင်ရှားခဲ့သည်။ [ ယူတိုးပီယန်ဆိုသော စကားမှာ အင်္ဂလိပ်နိုင်ငံရေးသုခမိန်တစ်ဦး ဖြစ်သူ ဆာတောမတ်(စ)မိုး၏ 'ယူတိုးပီယား' (Utopia) အမည်ရှိစာအုပ် (၁၅၁၆ ခုနှစ်) မှ ဆင်းသက်လာခြင်း ဖြစ်သည်။ မိုး၏ ယူတိုးပီယားမှာ ဆင်းရဲခြင်းစသည့် လူမှုဒုက္ခများ ကင်းစင်ပြီး အဘက်ဘက်က ပြည့်စုံကောင်းမွန်သည့် စိတ်ကူးထဲက ကျွန်းနိုင်ငံတစ်ခုအကြောင်း ရေးသားထားသည့် ကျမ်းတစ်အုပ်ဖြစ်ရာ၊ ၎င်းကိုအကြောင်းပြု၍ နောက်ပိုင်း၌ ယူတိုးပီယန်ဆိုလျှင်၊ လုံးဝပြီးပြည့်စုံသော၊ စံပြဖြစ်သော ဟူ၍လည်းကောင်း၊ လက်တွေ့မဖြစ်နိုင်သော၊ စိတ်ကူးယဉ်သက်သက်သာဖြစ်သော ရှိသောအဓိပ္ပာယ်ဖြင့်လည်းကောင်း သုံးစွဲခဲ့ပါသည်။ ]

အိုဝင်အား စိတ်ကူးယဉ်ဆိုရှယ်လစ်တစ်ဦးအဖြစ် သတ်မှတ်ပြောဆိုခဲ့ကြသော်လည်း၊ စင်စစ် သူက လူမှုရေး စီးပွားရေး ဆိုင်ရာ ပြုပြင်

ပြောင်းလဲမှုများ ဖြစ်ပေါ်ရန် တကယ်လက်တွေ့ ကြိုးပမ်းဆောင်ရွက်ခဲ့သူ တစ်ဦး ဖြစ်ပါသည်။ စက်ရုံအလုပ်ရုံနှင့် လုပ်သား အိမ်ရာ ရပ်ကွက်အချို့ကို တစ်စိတ်တစ်ဒေသ ပိုင်ဆိုင်သူလည်းဖြစ်၊ စီမံခန့်ခွဲသူ မန်နေဂျာလည်း ဖြစ်သည့် ရောဘတ်အိုဝင်သည် စက်ရုံအလုပ်သမားတို့၏ ဆင်းရဲပင်ပန်းသော လုပ်ငန်းခွင် အနေအထားများနှင့် နေထိုင်မှုဘဝ အဆင့်အတန်းများ တိုးတက်ကောင်းမွန်အောင် ပြုပြင်ရန် ကြိုးပမ်းခဲ့သည်။

လူမှုရေးနှင့် စီးပွားရေးဆိုင်ရာ တွေးခေါ်ရှင်တစ်ဦး အနေနှင့်မူ အိုဝင်က ဗြိတိသျှစီးပွားရေးလုပ်ငန်းများ၏ စွမ်းဆောင်ရည် တိုးတက်ရေး ဗြိတိသျှလုပ်သားတို့၏ ဘဝအခြေအနေမြင့်မားရေးတို့အတွက် စီးပွားရေး ပေါ်လစီကို မည်သို့ ပြုပြင်ပြောင်းလဲသင့်ကြောင်းများကို အလေးအနက် တင်ပြခဲ့ပါသည်။

❖

အိုဝင်ကို ဗြိတိန်ပြည် ဝေလနယ်အလယ်ပိုင်းရှိ နယူတန် (Newton) မြို့ကလေးတွင် ၁၇၇၁ ခုနှစ်က မွေးဖွားသည်။ ဖခင်က သာမန်လုပ်စားကိုင်စားထဲကဖြစ်ရာ ငယ်စဉ်က အိုဝင်မှာ ရွာကျောင်းမှာပင် ပညာသင်ခဲ့ရသည်။ ကျောင်း၌ စာရေးစာဖတ်နှင့် အခြေခံဂဏန်းသင်္ချာမျှလောက်သာ သင်ကြားခွင့် ရခဲ့ရာ၊ မပြည့်စုံသည့် ပညာရေးကို မိမိဘာသာ စာအုပ်စာတမ်းများ ရှာဖွေဖတ်ရှုသည့်နည်း၊ ဖတ်ရှုသမျှစာကို ကောင်းစွာ စဉ်းစားဆင်ခြင်သည့်နည်းတို့ဖြင့်ပင် သူ ဖြည့်တင်းခဲ့ရသည်။

အိုဝင်က အတော် စောစီးငယ်ရွယ်စဉ်မှာပင် လက်တွေ့ဘဝ လူ့လောကထဲသို့ တိုးဝင်လှုပ်ရှားခဲ့သူ ဖြစ်၏။ အသက် ၁၀ နှစ်အရွယ်တွင် လန်ဒန်၌ သူ့အစ်ကိုတစ်ဦးနှင့်အတူ နေထိုင်ရန် ဝေလနယ်မှ ထွက်ခဲ့သည်။ လန်ဒန်တွင် အထည်အလိပ်လုပ်ငန်းရှင်တစ်ဦးထံ၌ အကူလုပ်သားလေး အရောင်းစာရေး၊ စသဖြင့် လုပ်ကိုင်သည်။ နောက်တွင် ချည်ငင်စက် (spinning mule) များ ပြုလုပ်ရောင်းချသူတစ်ဦး ဖြစ်လာပြီး၊ ၎င်းနောက်၌



ချည်ထည်စက်ရုံကြီးတစ်ခုတွင် မန်နေဂျာအဖြစ် လုပ်ကိုင်ခဲ့သည်။

ထို့နောက်တွင်၊ ကြွယ်ဝသော လုပ်ငန်းရှင်တစ်စုနှင့် စပ်တူ ပူးပေါင်းကာ၊ ကျောက်မီးသွေး အများအပြား ထွက်ရှိရာ စကော့တလန်ပြည် အနိမ့်ပိုင်းဒေသရှိ သူ့ယောက္ခမပိုင် နယူးလင်းနာ့ခ် (New Lanark) စက်ရုံ လုပ်ငန်းကို ပေါင်ငွေ ၆၀၀၀၀ ပေး၍ ဝယ်ယူသည်။

နယူးလင်းနာ့ခ်ရှိစက်များမှာ အလွန်ခေတ်နောက်ကျသော ကနဦး ပုံစံ စက်များဖြစ်သည်။ ထို့ပြင်၊ ထိုခေတ်က စက်ရုံများ ထုံးစံအတိုင်း မြို့ရွာနှင့် အလှမ်းကွာဝေးသော နေရာဒေသမျိုးတွင် တည်ဆောက်ထားသည် ဖြစ်ရာ စက်ရုံပိုင်ရှင်များအနေနှင့် အလုပ်သမားတို့အတွက် စားစရာ၊ နေစရာနှင့် အခြား မရှိမဖြစ် လိုအပ်ချက်များပါ ဖြည့်ဆည်းပေးကြရသည်။ သို့သော် တစ်ဖက်က ကြည့်လျှင်လည်း၊ အလုပ်သမားများမှာ အလုပ်ရုံတွင်း၌ သာမက နေ့စဉ်နေထိုင်မှုဘဝ တစ်ရပ်လုံးတွင်ပါ အလုပ်ရှင်၏ စီမံခန့်ခွဲမှုအောက်တွင် ကျရောက်လျက်ရှိသည် ဟုဆိုရမည် ဖြစ်သည်။

နယူးလင်းနာ့ခ်တွင် အိုဝင်က မန်နေဂျာအဖြစ် ဆောင်ရွက်သည်။ အိုဝင်၏ ပါတနာများမှာ အများသူငါလုပ်ငန်းရှင်များ ထုံးစံအတိုင်း အမြတ်အစွန်း အများဆုံး ရရှိလိုကြသူများ ဖြစ်သည်။ သို့သော် မန်နေဂျာ အိုဝင်ကမူ အမြတ်အစွန်းထက် ပညာရေးဆိုင်ရာနှင့် စက်မှုလုပ်ငန်းခွင် ဆိုင်ရာ ပြုပြင်ပြောင်းလဲရေး လုပ်ငန်းများကို ပို၍ အာရုံဝင်စားသူဖြစ်ရာ သူ့စက်ရုံများကို လူမှုပြုပြင်ပြောင်းလဲရေး စမ်းသပ်ခန်းတစ်ခုအဖြစ် သူ မြင်နေခဲ့သည်။

နယူးလင်းနာ့ခ်ကို အိုဝင် စတင်တာဝန်ယူသည့် အချိန်က စက်ရုံနယ်မြေတွင် အလုပ်သမားမိသားစုဝင်ဦးရေ ၁၅၀၀ ခန့်အပြင်၊ အနီးဆုံးမြို့မှ ခေါ်ယူခိုင်းစေထားသည့် အခြေအနေမဲ့ ကလေးလုပ်သား ၅၀၀ ခန့် ရှိနေသည်။ မိသားစုများကို စက်ရုံပိုင်အိမ်ငယ်လေးများတွင် နေရာချထားသည်။ အိမ်က အခန်းတစ်ခန်းတည်းသာ ပါရှိပြီး ကျန်းမာရေးနှင့် လုံးဝ မညီညွတ်ပေ။ အလုပ်သမားများမှာ စိတ်ဓာတ်ပျက်ပြားကာ ရမ်းကားမှု၊ ခိုးဝှက်မှုများလည်း ထူပြောလျက်ရှိသည်။ နေရသည့်

အိမ်ရာက သက်သောင့်သက်သာ မရှိသကဲ့သို့၊ စက်ရုံထဲရှိ အလုပ်ဝန်းကျင် အနေအထားကလည်း အလားတူ ဆိုးဝါးသည်။ ကျဉ်းကျပ်လှောင်ပိတ် သော အလုပ်ခွင်တွင် နာရီပေါင်းများစွာကြာအောင် အလုပ်လုပ်ကြရပြီး ရရှိသည့် လခနှုန်းထားက အလွန်နိမ့်ကျသည်။ ကျန်းမာရေးစောင့်ရှောက်မှု စသည့် လူမှုဖူလုံရေးခံစားခွင့် ဆိုသည်များမှာ ထိုစဉ်က လုံးဝ မကြားစဖူး သည့် အရာများသာ ဖြစ်နေသည်။

အိုဝင်က သည်အနေအထားကို ပြုပြင်ပြောင်းလဲနိုင်ရန် ကြိုးစား သည်။ ဦးစွာပထမ၊ အလုပ်သမားနေအိမ်တိုင်းကို နောက်ထပ်တစ်ထပ် တင်ပေးရာ မိသားစုတစ်စုအတွက် နေစရာ အခန်းနှစ်ခန်း ရလာသည်။ ထို့နောက် ရပ်ကွက်ထဲရှိ လမ်းများကို ပြုပြင်သည်၊ လမ်းသစ်ခင်းသည်။ ထို့နောက်၊ အလုပ်သမားကော်မတီများဖွဲ့ကာ အိမ်တွင်းအိမ်ပြင် သန့်ရှင်း ရေး၊ အမှိုက်များ စနစ်တကျစွန့်ပစ်ရေးတို့ကို ဆော်ဩဆောင်ရွက်စေသည်။ အိမ်ရာရပ်ကွက်များမှ အမှိုက်များကို ပုံမှန်သိမ်းကြရန်လည်း စီစဉ် ပေးသည်။

ထို့နောက် သူက စက်ရုံနယ်မြေတွင်းရှိ ပုဂ္ဂလိကပိုင် ဈေးဆိုင် အားလုံးကို သိမ်းကျုံးဝယ်ယူလိုက်သည်။ ပြီးလျှင် အလုပ်သမားမိသားစု အတွက် လိုအပ်သည့် စားနပ်ရိက္ခာ၊ လောင်စာဆီနှင့် အခြားကုန်ပစ္စည်း များကို လက်ကားဈေးနှင့် ဝယ်ယူကာ အလုပ်သမားများသို့ အမြတ်မယူဘဲ ပြန်လည်ရောင်းချပေးသည်။ လုပ်သားများမှာ မိမိတို့ ပုံမှန်ဝယ်ခြမ်းသုံးစွဲ နေရသည့်အရာများအားလုံးကို ဤနည်းအားဖြင့် အဖိုးနှုန်း အလွန်ချိုသာစွာ ရရှိကြရာ ၎င်းအစီအမံတစ်ခုတည်းကြောင့်ပင် ၎င်းတို့၏ နေထိုင်မှု အဆင့်အတန်းမှာ ၂၅ ရာခိုင်နှုန်းမျှ မြင့်တက်လာခဲ့သည် ဟုဆိုသည်။

အိုဝင်က အလုပ်သမားများအတွက် အထွေထွေ ရန်ပုံငွေတစ်ရပ် လည်း ကောက်ခံတည်ထောင်ခဲ့သည်။ ယင်းရန်ပုံငွေသို့ အလုပ်သမား အားလုံးပင် မိမိလုပ်ခ၏ ခြောက်ပုံတစ်ပုံကို ထည့်ဝင်ကြရသည်။ သည်ရန်ပုံငွေဖြင့် နယူးလင်းနာ့ခ်နေလူထုအတွက် အခမဲ့ဆေးကုသ အစီအစဉ်များ ဆောင်ရွက်ပေးသည်။



အိုဝင်ဆောင်ရွက်ခဲ့သည့် လူမှုပြုပြင်ရေးလုပ်ငန်းများအနက် သူ အများဆုံး အားစိုက်လုပ်ကိုင်ခဲ့သည်က လင်းနာ့ခ်ရှိ ကလေးသူငယ်များ အရေး ဖြစ်သည်။ ကလေးဘဝဟူသည် လူ၏အကျင့်စရိုက်နှင့် လူ့ရည် လူသွေးများ စတင်ဖြစ်ပေါ်ဖွံ့တည်သည့် ကာလဖြစ်ရာ ပြောင်းလဲလွယ်၊ အလွမ်းမိုးခံလွယ်သည့် သည်အရွယ်တွင် သင့်တော် မှန်ကန်သော ဝန်းကျင်၌ ကျင်လည်ခွင့်ရရေးသည် အထူးအရေးကြီးသည်ဟု သူ ယူဆသည်။ သူက ငယ်ရွယ်သော ကလေးများအား အလုပ်ခိုင်းစေခြင်းကို လုံးဝဆန့်ကျင်သည်။ နယူးလင်းနာ့ခ်တွင် သူ မန်နေဂျာ စလုပ်ရသည့်အချိန် ပထမဆုံးချမှတ်သည့် ဆုံးဖြတ်ချက်တစ်ခုက မြို့မှ အခြေအနေမဲ့ ကလေး များအား လိုက်လံကောက်ယူ၍ စက်ရုံတွင် အလုပ်သင်ကလေးများအဖြစ် ခန့်ထားခိုင်းစေသည့် အစီအစဉ်ကို ရပ်စဲခြင်းနှင့် အသက် ၁၀ နှစ်အောက် ကလေးများအား အလုပ်ခိုင်းစေမှု မပြုဟု သတ်မှတ်လိုက်ခြင်း ဖြစ်သည်။ ထိုစဉ်က အင်္ဂလန်ရှိ စက်ရုံအလုပ်ရုံများတွင် ၆ နှစ် ၇ နှစ်အရွယ် ကလေးငယ်များကိုပင် အချိန်ပြည့်လုပ်သားများအဖြစ် ခိုင်းစေလျက် ရှိသည်ဖြစ်ရာ၊ အိုဝင်၏အစီအစဉ်မှာ ထိုကာလအဖို့ အလွန် ခေတ်ရှေ့ပြေး သည့် ပြုပြင်ပြောင်းလဲရေးတစ်ရပ် ဖြစ်ခဲ့သည် ဟုဆိုရပေမည်။

အိုဝင်က ကလေးများကို အလုပ်ခွင်မှ ထွက်ခွာစေရုံမက သူတို့ အတွက် လွတ်လွတ်လပ်လပ် လှုပ်ရှားပျော်ရွှင်စရာ ပန်းခြံများ ကစားကွင်း များပါ ဖန်တီးပေးသည်။

သူ့အစီအစဉ်များထဲတွင် အရေးအကြီးဆုံးက ပညာရေး ဖြစ်သည်။ နယူးလင်းနာ့ခ်ရှိ အသက် ၁ နှစ်မှ ၁၀ နှစ်ကြား ကလေးအားလုံးကို အခမဲ့ ပညာသင်ကြားပေးနိုင်ရန် သူ စီစဉ်သည်။ ပညာရေးဟူသည် အထက်လွှာ သားသမီးများ၏ အရာသာဖြစ်ပြီး၊ ဆင်းရဲသား အလုပ်သမားသားသမီး များနှင့် လားလားမျှ မသက်ဆိုင်ဟု သိမှတ်လက်ခံထားခဲ့ကြသည့် ထိုခေတ် အင်္ဂလန်တွင် အိုဝင်၏ အစီအစဉ်မှာ လွန်ကျူးလွန်းသလိုပင် ဖြစ်နေသည်။ အချို့ပြုပြင်ရေးသမားများက အောက်ခြေလူတန်းစား သားသမီးများလည်း ပညာသင်ကြားကြရန်ကိုတော့ တိုက်တွန်းကြသည်၊ သို့သော် အရေးအခတ်

အတွက် အခြေခံတတ်ဖို့၊ အထူးသဖြင့်၊ သမ္မာကျမ်းစာဖတ်နိုင်ဖို့လောက်ကိုသာ အာရုံပြုကြသည်။

အိုဝင်က သည်မျှလောက်နှင့် မတင်းတိမ်။ ကလေးတိုင်း ပညာတတ်ရမည်၊ စဉ်းစားတွေးတောတတ်ရမည်၊ လောကအကြောင်း သိနားလည်ရမည်၊ အဆိုအကစသည့် ယဉ်ကျေးဖွယ်ရာကိစ္စများလည်း သိတတ်ခံစားတတ်ရမည်၊ အဲသည်လို ပညာရေးအရ ဘက်စုံဖွံ့ဖြိုးခြင်းဖြင့်သာ လူအတန်းအစား ကွဲပြားခြားနားမှုကို လျော့ပါးစေနိုင်မည် ဟူ၍ သူ ယုံကြည်ခဲ့သည်။

နှစ်အတန်ကြာကာလအတွင်း အိုဝင်က နယူးလင်းနာ့ခ်ကို စံပြလူ့အဖွဲ့အစည်းတစ်ခုဖြစ်အောင် ပြောင်းလဲတည်ဆောက်နိုင်ခဲ့သည်။ သူတို့စက်ရုံများ၌ လုပ်သားတို့၏ လုပ်ငန်းခွင်တွင်း အနေအထားများ တိုးတက်ကောင်းမွန်လာသကဲ့သို့၊ တစ်ဖက်တွင်လည်း ထုတ်ကုန် အရည်အသွေး မြင့်မားသဖြင့် အမြတ်အစွန်းများ တိုးတက်ရရှိခဲ့သည်။ လုပ်သားများက မိမိတို့ ဘဝအခြေအနေ တိုးတက်မှုအတွက် များစွာ ကျေနပ်အားရကာ၊ အိုဝင်အားလည်း အကြီးအကျယ် လေးစားကြည်ညိုခဲ့ကြသည်။ တစ်ချိန်တည်းတွင် လူမှုပြုပြင်ရေးသမားတစ်ဦးအဖြစ် အိုဝင်၏အမည်ကထင်ရှားကျော်ကြားလာခဲ့သည်။

သူကနယူးလင်းနာ့ခ်သားတွေအတွက် သည့်ထက်မက အများကြီးလုပ်ပေးချင်သည်။ သို့သော်၊ တစ်ဖက်တွင်၊ အစုစပ်ပါတနာများ၏ ဖိအားက ရှိနေသည်။ သူတို့က အမြတ်အစွန်း ပိုမိုရရှိလိုကြသည်။ ထို့ပြင် လုပ်ငန်းတူသူများနှင့် ဈေးကွက်တွင် ယှဉ်နိုင်ဖို့ကလည်း အရေးကြီးသေးသည်။ ပြိုင်ဘက်လုပ်ငန်းရှင်များက သူတို့စက်ရုံထွက် ပစ္စည်းများကို ဈေးကွက်တွင် အချိုသာဆုံးဈေးဖြင့် ချရောင်းနိုင်ရေးအတွက် ကုန်ကျစရိတ် အသက်သာဆုံးနည်းဖြင့် ထုတ်လုပ်နိုင်ရန် ကြိုးပမ်းနေကြသည်။ သူတို့နည်းက အလုပ်သမားများကို တတ်နိုင်သမျှ အများဆုံးခိုင်းစေကာ ဖြစ်နိုင်သည့် အနိမ့်ဆုံးလုပ်ခကို ပေးသောနည်းဖြစ်သည်။

သည်လိုစက်ရုံမျိုးတွေနှင့် ဈေးကွက်တွင် ယှဉ်ပြိုင်နိုင်ဖို့ မလွယ်ကူ



ထို့ကြောင့်၊ ပြုပြင်ပြောင်းလဲရေးသည် မိမိတို့တစ်ဦးတည်းချည်းလုပ်၍ မအောင်မြင်နိုင်။ လူကြီးများလောက် လုပ်ခများများ ပေးစရာမလိုသည့် ကလေးသူငယ်များကို ခေါ်ယူကာ လူကြီးများတမျှ ပြင်းထန်စွာခိုင်းစေနေသူများ၊ အလုပ်သမားတို့အား ညှာတာမှုမထား တတ်နိုင်သမျှအများဆုံး ညှစ်ထုတ်ရယူရန်သာ ကြိုးစားသော အလုပ်ရှင်များနှင့် ၎င်းတို့၏ လုပ်နည်းလုပ်ဟန်များကို ဟန့်တားဖယ်ရှားနိုင်မှသာလျှင် လုပ်သားတို့ဘဝ တိုးတက်ကောင်းမွန်အောင် ပြုပြင်ပြောင်းလဲနိုင်မည်ဟု ရှုမြင်ကာ၊ ဗြိတိန်ပြည်ရှိ စက်ရုံအလုပ်ရုံများမှ လုပ်သားတို့၏ ဆိုးရွားသောဘဝအခြေအနေများကို အများသိမြင်လာအောင် ကြေညာသည့် သဘောဖြင့် စာတမ်းတစ်စောင် ရေးသားသည်။ Observations on the Effect of the Manufacturing System (ကုန်ပစ္စည်းထုတ်လုပ်ပုံ စနစ်ကြောင့်ဖြစ်ပေါ်သော သက်ရောက်မှုများအား ရှုကြည့်လေ့လာချက်) အမည်ရှိ ၎င်းစာတမ်း (၁၈၁၅ ခုနှစ်) တွင်၊ စက်ရုံအလုပ်ရုံများ လည်ပတ်ဆောင်ရွက်ပုံစနစ် ကောင်းမကောင်းကို စက်ရုံမှ အမြတ်အစွန်း မည်မျှရမရဟူသော အချက်တစ်ခုတည်းဖြင့် မတိုင်းတာဘဲ၊ စက်ရုံလုပ်သားတို့၏ စိတ်ဓာတ်စရိုက်များနှင့် ကျန်းမာမှုမကျန်းမာမှုစသည့် လူနေမှုဘဝ အတက်အကျများနှင့်ပါ ချိန်ထိုးတိုင်းတာရန် လိုအပ်ကြောင်း တင်ပြပြောဆိုပြီး၊ ကလေးသူငယ်များအား အလုပ်ခိုင်းစေမှုကို တားမြစ်ရေးနှင့် ကလေးများပညာသင်ကြားခွင့် ရရှိရေးတို့အတွက် အစိုးရက ဥပဒေပြဋ္ဌာန်းဆောင်ရွက်ပေးရန် တိုက်တွန်းခဲ့သည်။

၁၈၁၉ ခုနှစ်တွင်မှ ပထမဆုံး အလုပ်ရုံဥပဒေ (factory act) တစ်ခု ထွက်ပေါ်လာခဲ့သည်။ ၎င်းဥပဒေက ကလေးလုပ်သားများ ခိုင်းစေမှုကို ကန့်သတ်မှုပြုပါ၏။ သို့သော် အတိုင်းအတာအားဖြင့် မဆိုစလောက်မျှသာဖြစ်ပြီး၊ အချို့သော စက်ရုံအလုပ်ရုံ အမျိုးအစားများ အတွက်သာ ကန့်သတ်ခြင်း ဖြစ်၏။ တစ်နည်းဆိုသော်၊ တောင်းဆိုမှုရှိ၍သာ ဝေးရာကျ ထုတ်ပြန်ပေးရသည့် မည်ကာမတ္တဥပဒေမျိုး ဖြစ်ရာ၊ အိုဝင်မျှော်မှန်းသည့် အနေအထားနှင့် များစွာ အလှမ်းကွာဝေးနေခဲ့၏။

မည်သို့ပင်ဖြစ်စေ၊ ၎င်းဥပဒေ ထွက်ပေါ်လာခြင်းသည် အလုပ်သမားရေးရာ နှင့်စပ်လျဉ်း၍ အဆင့်တစ်ဆင့် တိုးမြင့်လာခဲ့သော သဘောရှိခဲ့သည်။ စက်ရုံအလုပ်ရုံများတွင် ပိုင်ရှင်တို့ စိတ်တိုင်းကျ လုပ်ကိုင်နေသည့် အနေအထားကို အစိုးရက (များစွာထိရောက်မှုမရှိသည်ပဲဖြစ်စေ) ပထမဆုံး အကြိမ် ထိန်းသိမ်းကွပ်ကဲလာခြင်း ဖြစ်သကဲ့သို့ မိမိကိုယ်ကို ကာကွယ်နိုင်စွမ်း မရှိသည့် အင်အားနည်းသူတို့ဘက်မှ အစိုးရက တာဝန်ယူ ရပ်တည်ပေးမည် ဟူသောမူတစ်ခု စတင်ပေါ်ပေါက်လာခြင်းဖြစ်ရာ ရေရှည်အတွက် တန်ဖိုးရှိပေသည်။

သို့သော်၊ အိုဝင်ကိုယ်တိုင် အဖို့မူ၊ ကလေးလုပ်သားအရေး လုပ်ခွင်ဘဝ ပြုပြင်ပြောင်းလဲရေးများအား နိုင်ငံရေးနည်းအရ ဆက်လက်အားထုတ်ကြိုးပမ်းလိုစိတ် လျော့ပါးသွားခဲ့သည်။ တစ်ချိန်တည်းတွင်၊ ပြောင်းလဲခဲ့သည့် တိုင်းပြည်၏ နိုင်ငံတကာ ဆက်ဆံရေး၊ ပြည်တွင်းစီးပွားရေး အခြေအနေများကလည်း သူ့အား တခြားကိစ္စရပ်များဆီသို့ အာရုံစူးစိုက်စေခဲ့သည်။

အကြောင်းက နပိုလီယန်စစ်ပွဲ ပြီးဆုံးခြင်းနှင့် စတင်သည်။ ၁၈၁၅ ခုနှစ်တွင် ပြင်သစ်ဘုရင်နပိုလီယန်နှင့် တိုက်ခိုက်နေရသည့် စစ်ပွဲ ပြီးဆုံးသွားခဲ့ရာ ဗြိတိသျှအစိုးရအနေနှင့် စစ်ရိက္ခာ စစ်ပစ္စည်း လိုအပ်ချက်များ ရပ်ဆိုင်းသွားခဲ့သည်။ လိုအပ်ချက် လျော့နည်းသွားသည့်အခါ စိုက်ခင်းများ မွေးမြူရေးခြံများ ပိုလျှံသလို ဖြစ်သွားသကဲ့သို့၊ သိုလှောင်ရုံများတွင်လည်း ကုန်ပစ္စည်းတွေ စုပုံနေတော့သည်။ သည်အခါ လုပ်ငန်းမျိုးစုံတို့ ကျဆင်းတုံ့နှေးသွားပြီး လယ်ယာလုပ်သားရော စက်ရုံလုပ်သားပါ အများအပြား အလုပ်လက်မဲ့ ဖြစ်ကုန်ကြသည်။ တစ်ချိန်တည်းတွင် စစ်ပြီးသဖြင့် တပ်ထဲမှ ထွက်လာခဲ့ကြသည့် မြောက်မြားလှစွာသော စစ်သည်ဟောင်းများကလည်း အလုပ်လက်မဲ့ထုကြီးကို ထပ်လောင်း အားဖြည့်ဆည်းပေးသလို ဖြစ်သွားခဲ့သည်။ တစ်ဖက်တွင်၊ စက်ယန္တရားများ တိုးတက်ကောင်းမွန်လာခြင်းကလည်း စက်ရုံအလုပ်ရုံများ၏ လုပ်သားလိုအပ်ချက်ကို လျှော့ချပေးလျက်ရှိနေပြီး၊ အလုပ်လက်မဲ့တွေ များလာသဖြင့် ကုန်ပစ္စည်း ဝယ်ယူသုံးစွဲအား



ကျဆင်းလာခြင်းကလည်း ထုတ်လုပ်မှုများ လျှော့ချရန် ဖိအားပေးလျက်ရှိသည်။ ထိုကာလအတွင်း လယ်ယာမြေမှ လုပ်သားတို့၏ လုပ်ခမှာ ၅၀ ရာခိုင်နှုန်းမျှ လျော့ကျခဲ့ပြီး၊ တိုင်းပြည်လူဦးရေ၏ တစ်ဝက်လောက်ဝင် အလွန်ဆင်းရဲမွဲတေသော ဘဝသို့ ကျရောက်ခဲ့သည်။

သည်အနေအထားတွင် ရှေ့ဆက်ဖြစ်ပေါ်လာမည့် အလားအလာ သို့မဟုတ် ဆောင်ရွက်စရာ နည်းလမ်းသုံးရပ်သာ အိုဝင် မြင်နေတော့သည်။ တစ်ခုက၊ စက်ယန္တရားတွေ ဘေးဖယ်ကာ အရင်တုန်းကလို လူတွေပဲ အဓိကလုပ်ကြဖို့၊ နောက်တစ်နည်းက၊ သန်းနှင့်ချီသော အလုပ်လက်မဲ့တွေ သည်အတိုင်း ငတ်ကြပစေဟု ပစ်ထားလိုက်ဖို့၊ သို့မဟုတ် တတိယနည်းက၊ အလုပ်မရှိသူတွေအတွက် အလုပ်အကိုင်များ ဖန်တီးပေးကာ ဝင်ငွေ အတန်အသင့်မျှစီ ရရှိအောင် ဆောင်ရွက်ပေးဖို့၊ ဟူ၍ဖြစ်သည်။

သူက တတိယလမ်းကြောင်းကို ရွေးချယ်ခဲ့သည်။ ၁၈၁၇ ခုနှစ်တွင် စာတမ်းတစ်စောင် သူ ရေးသားသည်။ စာတမ်း၌၊ လင်းနာ့ခ်ရှိုင်ရှိ ဆင်းရဲသား အလုပ်သမားများ ရေရှည်ခိုင်မာသည့် အလုပ်အကိုင် ရရှိရေးအတွက် ဆောင်ရွက်သင့်သည့် နည်းလမ်း အကြံဉာဏ်များအကြောင်း သူ သုံးသပ်တင်ပြခဲ့သည်။

သူက အစိုးရအနေနှင့် အလုပ်လက်မဲ့အာမခံ အစီအစဉ်မျိုး အစား၊ လူဦးရေ ၁၂၀၀ ဝန်းကျင်ခန့်ရှိမည့် သမဝါယမကျေးရွာများ ထူထောင်ကာ၊ ၎င်းတို့အား မတည်ရင်းနှီးငွေများ ထုတ်ပေးခြင်းမျိုးသာ လုပ်ဆောင်သင့်ကြောင်း၊ ၎င်းကျေးရွာများ အနေနှင့် မိမိတို့ရပ်တည်မှုအတွက် လိုအပ်သည်များကို တတ်နိုင်သမျှ မိမိတို့ဘာသာ ထုတ်လုပ်ကြပြီး၊ ပိုလျှံသောပစ္စည်းကို ပြင်ပသို့ ထုတ်ရောင်းချကာ ယင်းမှရသော ငွေဖြင့် မိမိတို့ မထုတ်လုပ်နိုင်သည့် အခြား မသုံးမဖြစ်ပစ္စည်းများကို ခြိုးခြံချွေတာစွာ ဝယ်ယူသုံးစွဲခြင်းဖြင့် ဆက်လက် ရပ်တည်နိုင်ကြမည် ဖြစ်ကြောင်း၊ အကယ်၍သာ အလုပ်လုပ်ရန် အခွင့်အလမ်းများ ရရှိကြမည်၊ သူတို့အတွက် နေထိုင်စရာ သင့်တင့်လျောက်ပတ်သော အိုးအိမ်နေရာများလည်း ဖန်တီးပေးမည် ဆိုက အင်္ဂလန်ရှိ ဆင်းရဲသားများ အနေနှင့် နိမ့်ပါးသော ဘဝအခြေအနေများမှ

လွတ်မြောက်ကြရုံမက၊ တိုင်းပြည်၏ ဓနဥစ္စာ တိုးပွားရေးအတွက်ပင် အထောက်အကူပြုလာကြမည်ဖြစ်ကြောင်း၊ သူက တင်ပြသည်။

သို့သော် သူ့အစီအစဉ်ကို လက်ခံချင်သူ မရှိခဲ့။ မဖြစ်နိုင်တာတွေ စိတ်ကူးယဉ်နေသည်ဟု တချို့က ဝေဖန်ကြ၊ လှောင်ပြောင်ပြောဆိုကြသည်။ တချို့ကလည်း၊ ဘာမှအဓိပ္ပာယ်မရှိ ဟူ၍ အပြတ်ငြင်းပယ်ကြသည်။

အင်္ဂလန်တွင် စက်ရုံအလုပ်ရုံများနှင့်စပ်လျဉ်းသည့် ထိရောက်သော ဥပဒေများ ပြဋ္ဌာန်းပေးရန် စည်းရုံးဆောင်ရွက်ခြင်း၊ ဆင်းရဲသား အလုပ်လက်မဲ့များ၏ ပြဿနာကို သမဝါယမကျေးရွာများ ထူထောင် ပေးသောနည်းဖြင့် ဖြေရှင်းရန် အကြံပြုတင်ပြခြင်းများ မအောင်မြင်သည့် အခါ ရောဘတ်အိုဝင် စိတ်ပျက်လာသည်။ သူ့အယူအဆများကို အင်္ဂလန်က လက်မခံလျှင် ကမ္ဘာသစ်ဟုခေါ်ကြသည့် အမေရိက က လက်ခံ နိုင်မည်လားဟု သူတွေးတောသည်။ သို့နှင့် သူ့စိတ်ကူးစိတ်သန်းများကို လက်တွေ့အကောင်အထည်ဖော်ရန် ရည်ရွယ်ချက်ဖြင့် ၁၈၂၄ ခုနှစ်တွင် အမေရိကန်ပြည်သို့ သူ ရွှေ့ပြောင်းလာခဲ့သည်။

ထို့နောက်တွင်၊ သူ နှစ်ပေါင်းများစွာ တင်ပြပြောဆိုလာခဲ့သည့် နည်းစနစ်များ အစီအစဉ်များအတိုင်း သမဝါယမကျေးရွာတစ်ခုကို အင်ဒီးယားနားပြည်နယ် နယူးဟာမိုနီဒေသတွင် စတင် ထူထောင်သည်။ သို့သော် နယူးဟာမိုနီ၌လည်း သူ စိတ်ကူးမျှော်မှန်းသည့် စံပြ ဆိုရှယ်လစ် လူ့အဖွဲ့အစည်းတစ်ရပ် ဖြစ်ထွန်းမလာခဲ့။ သူ ခေါ်ယူစုစည်းခဲ့သူတွေက တစ်ဦးနှင့်တစ်ဦး သင့်မြတ်မှုမရှိ၊ စိတ်တူကိုယ်တူမရှိ၊ အများအကျိုးအတွက် ဟူသောစိတ်ဓာတ်ဖြင့် အလုပ်ကို အားတက်သရော မလုပ်၊ တတ်နိုင်သမျှ ရှိကြကပ်ကြသည်။ အဲသည့်အခါ ကုန်ထုတ်လုပ်မှု ကျဆင်းသည်။ သည်အခါ ဘယ်သူ့အတွက်မျှ လောက်ငအောင်မရကြတော့။

နယူးဟာမိုနီက စမ်းသပ်မှု မအောင်မြင်ခဲ့သည့် နောက်တွင်မူ ငယ်ရွယ်စဉ်က သူ့မှာ အလွန်ထက်သန်စွာရှိခဲ့သည့် အကောင်းမြင်စိတ် လုပ်ရင်ဖြစ်ရမည်ဟု မျှော်လင့်ယုံကြည်စိတ်များ လျော့ပါးပျောက်ကွယ်ကာ ပြုပြင်ပြောင်းလဲရေး အစီအစဉ်များကို အိုဝင်လက်လျှော့သွားခဲ့သည်။

❖



စီးပွားရေးရာနှင့်ပတ်သက်၍ ရောဘတ်အိုဝင် အဓိက စိတ်ဝင်စားသည့် အပိုင်းမှာ ပေါ်လစီဆိုင်ရာ ပြဿနာများ ဖြစ်သည်။ သည်ကဏ္ဍ၌ သူက ရှေ့ဆောင်လမ်းပြတစ်ဦး ဖြစ်ခဲ့သည်။ ယနေ့ခေတ် စီးပွားရေး ပြဿနာ အတော်များများပင် နောက်ကြောင်းပြန် ခြေရာကောက်လျှင် ရောဘတ်အိုဝင် အထိရောက်သွားတတ်သည်။ ဥပမာ၊ ကလေးသူငယ်များအား မတရား အလုပ်ခိုင်းစေမှု မပြုအောင် တားဆီးကာကွယ်ရေး၊ လုပ်သားတို့အတွက် အနိမ့်ဆုံးလုပ်ခနှုန်းများ သင့်တင့်စွာ သတ်မှတ်ပေးရေး၊ အလုပ်လုပ်ရသော ဝန်းကျင်အနေအထားများ ကျန်းမာရေးနှင့် ညီညွတ်အောင် ပြုပြင်ရေး စသည့် အိုဝင် စတင်ဆွေးနွေးခဲ့သော ပြဿနာများကို ယနေ့တိုင် ဆွေးနွေးကြ အဖြေရှာကြဆဲ ဖြစ်သည်။ ဆင်းရဲမွဲတေမှု ပပျောက်ရန်အတွက်၊ ပညာရေး အစရှိသည့် လူ့အရင်းအနှီးဖွံ့ဖြိုးရေး လုပ်ငန်းများ ဆောင်ရွက်ဖို့လိုသည် ဟူသော အိုဝင်၏အမြင်ကိုလည်း သည်ကနေ့ အများ လက်ခံကျင့်သုံးနေကြပြီ။

သို့သော်၊ စီးပွားရေးအတွေးအခေါ်နယ်ပယ်သို့ အိုဝင် ဖြည့်ဆည်းပေးခဲ့သည့် အရေးကြီးဆုံးအချက်ကို ဖော်ပြပါဟု ဆိုလျှင်မူ၊ အရင်းရှင်စီးပွားရေးစနစ်ဟူသည် ကြီးမားသော ဓနဥစ္စာများ ဖန်တီးထုတ်လုပ်ပေးနိုင်သော စွမ်းပကား ရှိသကဲ့သို့ တစ်ဖက်၌ အလွန်ဆိုးဝါးသော လူမှုဘဝ ပြဿနာများ ဖြစ်ပေါ်စေနိုင်သော စနစ်မျိုး ဖြစ်သည်၊ သို့သော် ဉာဏ်အမြော်အမြင်ရှိသော ပေါ်လစီများ ချမှတ်ကျင့်သုံးခြင်းဖြင့် ယင်းလူမှု ပြဿနာများ လျော့ပါးအောင် ကုစားကာကွယ်နိုင်သည်၊ ဟူသော သူ၏ အုတ်မြစ်ဖြစ်သည့် မျှော်မှန်းချက်ကိုပင် ပြရမည် ဖြစ်ပေသည်။

## ဒေးဗစ်ရီကာဒို

(၁၇၇၂ - ၁၈၂၃)



စီးပွားရေးရာ၌ ဒေးဗစ်ရီကာဒို (David Ricardo) အဓိက စိတ်ဝင်စားခဲ့သည်က ဝင်ငွေခွဲဝေမှု (income distribution) ဆိုင်ရာနှင့် စီးပွားရေးဖွံ့ဖြိုးမှု (economic growth) ဆိုင်ရာ ပြဿနာများအကြောင်း ဖြစ်၏။ တိုင်းပြည်ဝင်ငွေကို ငှားခ (rent)၊ လုပ်ခ (wage) နှင့် အမြတ်အစွန်း (profit) တို့အဖြစ် ခွဲခြမ်းရယူပုံကိုလည်းကောင်း၊ တိုင်းပြည်စီးပွားဖွံ့ဖြိုးခြင်း ကျဆင်းခြင်းများ ဖြစ်ပေါ်ရသည့် အကြောင်းရင်းများကိုလည်းကောင်း ရှင်းလင်းသိမြင်ရန် သူ အားထုတ်ခဲ့သည်။

နိုင်ငံတကာနှင့် လွတ်လပ်စွာ ကုန်သွယ်မှုပြုခြင်းသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်စေသည့် ကြီးမားသော တွန်းအားတစ်ရပ် ဖြစ်သည်ဟု သူယူဆပြီး၊ တစ်ဖက်တွင်မူ၊ စိုက်ပျိုးရေးကဏ္ဍ၌ အလျင်အမြန် တိုးချဲ့သည့်အခါ အသစ်တိုးလယ်ယာများမှ အထွက်လျော့သဖြင့် အကျိုးအမြတ်နည်းသွားစေသည့်အချက် (diminishing returns) က စီးပွားရေးဖွံ့ဖြိုးမှုကို ပြန်၍ အရှိန်သတ်ပေးသည့် ဆန့်ကျင်အားတစ်ရပ်အဖြစ်တည်ရှိနေသည်ဟု သူ ရှုမြင်ခဲ့သည်။

ရီကာဒိုကို ၁၇၇၂ ခုနှစ်တွင် လန်ဒန်မြို့၌ ကြွယ်ဝသော ဂျူးလူမျိုး မိဘများမှ ဖွားမြင်သည်။ သူ့ဖခင်သည် ကုန်သွယ်လုပ်ငန်း၊ ငွေကြေး လုပ်ငန်းများ လုပ်ကိုင်သူဖြစ်ရာ၊ သားဖြစ်သူအား ဖခင်ခြေရာနင်းနိုင်အောင် ငယ်စဉ်ကပင် လေ့ကျင့်သင်ကြားပေးခဲ့သည်။ သို့နှင့် သူ့အသက် ၁၄ နှစ်မှာပင် ဖခင်၏ စီးပွားရေးအကျိုးဆောင်လုပ်ငန်း၌ ဝင်ရောက်လုပ်ကိုင် ဖြစ်ခဲ့သည်။ စီးပွားရေးအလုပ်ကို လျင်လျင်မြန်မြန်ပင် သူ တတ်ကျွမ်း ခဲ့သည်။ ပြင်ပလူများ နားလည်ရန်ခက်ခဲသည့် ငွေကြေးချင်း ရောင်းဝယ် ဖလှယ်သည့် ကိစ္စ၊ ကိုယ်တိုင်ငွေမစိုက်ဘဲ ဟိုဘက်သည်ဘက် လက်လှည့် ရောင်းဝယ်သည့် ကိစ္စများမှာ သူ ကျွမ်းကျင်လိမ္မာခဲ့သည်။ တစ်ဖက်နှင့် တစ်ဖက် ညှိနှိုင်းစေ့စပ်ပေးရသည့် အလုပ်မျိုးတွင် အလွန်ထူးချွန်သူ အဖြစ် လည်း သူ နာမည်ရခဲ့သည်။

သို့သော် ထိုသို့ ဖြစ်မြောက်နေရာက၊ ကွိတ်ကာဂိုဏ်းဝင် ခရစ်ယာန်အမျိုးသမီးတစ်ဦးနှင့် အိမ်ထောင်ကျပြီး ခရစ်ယာန်ဘာသာထဲ ဝင်ရောက်လိုက်သည့်အခါ ဖခင်နှင့် လုံးဝ ကင်းပြတ်သွားခဲ့သည်။ လက်ထဲတွင် ငွေကြေး တစ်ပြားတစ်ချပ်မျှ မရှိ၊ တစ်ဖက်တွင် မိသားစု တစ်ခုကို ထောက်ပံ့ကျွေးမွေးရန်တာဝန်ကလည်း ရှိနေသည့်အခါ သူ ကျွမ်းကျင်သည့် အလုပ်ဖြင့်ပင် ငွေရှာရန် ကြိုးစားရသည်။ သူ့အစွမ်းအစကို သိသည့် မိတ်ဆွေများ အဆက်အသွယ်များထံမှ ရသမျှငွေကြေးကို ချေးငှား စုဆောင်းကာ စီးပွားရေးအကျိုးဆောင်လုပ်ငန်းတစ်ခု ကိုယ်ပိုင်သီးသန့် ထူထောင်သည်။ အစပိုင်း တစ်နှစ် နှစ်နှစ်တွင် အဆင်မပြေသေး။ နောက်တွင်မူ သူ့လုပ်ငန်းက အဆမတန် လျင်မြန်စွာ ဖွံ့ဖြိုးကာ အသက် ၂၆ နှစ်လောက်မှာပင် အကြီးအကျယ် ချမ်းသာကြွယ်ဝသူတစ်ဦး ဖြစ်လာ ခဲ့သည်။

ကြွယ်ဝပြည့်စုံနေသည့်အခါ အချိန်ပိုတွေရသည်။ သည်အခါ သူ စိတ်ဝင်စားသည့် ဝိဇ္ဇာ သိပ္ပံ ပညာရပ်များကို လေ့လာဆည်းပူးခွင့် ရလေသည်။ အစပိုင်းတွင် သင်္ချာ၊ ဓာတုဗေဒနှင့် ဘူမိဗေဒပညာရပ်များကို စူးစိုက်လိုက်စားဖြစ်ပြီး၊ ကိုယ်ပိုင်ဓာတ်ခွဲခန်းတစ်ခု တည်ထောင်သည်။



တွင်းထွက်သတ္တုပစ္စည်းနမူနာများ ရှာဖွေစုဆောင်းသည်။ ဗြိတိန်ရှိ ဘူမိဗေဒပညာအသင်းသို့လည်း သူ ဝင်ရောက်သည်။

❖

သိပ္ပံဘက်တွင် စိတ်အားထက်သန်နေခဲ့သော ဒေးဗစ်ရီကာဒိုအား ဘောဂဗေဒပညာနယ်ပယ်သို့ စတင်ဆွဲဆောင်ခေါ်ငင်ခဲ့သည့် အရာက စီးပွားရေးပညာရှင်ကြီး အက်ဒမ်စမစ် ရေးသားသည့် ‘နိုင်ငံတို့၏ဓနဥစ္စာ’ (The Wealth of Nations) ကျမ်း ဖြစ်သည်။ ‘ဓနဥစ္စာ’ ကို ဖတ်ပြီးသည့်နောက်တွင် ရသမျှအားလပ်ချိန်၌ စီးပွားရေးပညာကိုသာ စူးစိုက်လေ့လာတော့မည်ဟု သူ ဆုံးဖြတ်ခဲ့ကြောင်း ဆိုကြသည်။ ထို့နောက်တွင် စီးပွားရေး ပြဿနာများနှင့်စပ်လျဉ်း၍ ပုံမှန်ဆွေးနွေးလျက်ရှိကြသည့် ထင်ရှားသော ပညာရှင်အုပ်စုတစ်ခုထဲသို့ သူ ဝင်ရောက်ခဲ့သည်။ သည်အုပ်စုတွင် ဂျွန်စတူးဝပ်မေးလ်၏ဖခင် ဂျိမ်း(စ)မေးလ် (James Mill)၊ ဂျယ်ရီမီ ဘင်သမ် (Jeremy Bentham) နှင့် မဲလ်သပ်(စ) (Thomas Robert Malthus) စသည့်ပုဂ္ဂိုလ်များ ပါဝင်သည်။

၁၈၁၉ ခုနှစ်တွင် ရီကာဒိုက ဗြိတိသျှပါလီမန် အောက်လွှတ်တော်၌ အမတ်နေရာတစ်ခု ဝယ်ယူသည်။ အိုင်းရစ်နယ်မြေတစ်ခုဖြစ်သည့် ပေါ်တာလင်တန်နယ်အတွက် ကိုယ်စားလှယ်နေရာကို ဝယ်ယူခြင်းဖြစ်ပြီး၊ ထိုနယ်သို့ သူ တစ်ကြိမ်မျှ မရောက်ဘူးခဲ့ချေ။ သည်ကိစ္စမှာ အထူးအဆန်း တော့ မဟုတ်။ ထိုခေတ်ကာလက လူကုံထံ အတော်များများပင် ပါလီမန်၌ ထိုင်းကဲ့သို့ အမတ်နေရာများ ဝယ်ယူလေ့ရှိခဲ့ကြသည်။ ပါလီမန်ရောက်ပြီး မကြာမီပင် ရီကာဒိုက ဘဏ္ဍာရေးဆိုင်ရာပြဿနာများတွင် ကျွမ်းကျင်သူ တစ်ဦးအဖြစ် အသိအမှတ်ပြု ခံလာရသည်။ ငွေကြေးကိစ္စ၊ ဘဏ်ကိစ္စ၊ အခွန်အကောက်ကိစ္စ၊ လယ်ယာစီးပွား ကျဆင်းလာသည့်ကိစ္စ စသည့် အရေးကြီးသော ပြဿနာများနှင့်စပ်လျဉ်း၍ သူ့အမြင် သူ့အယူအဆများကို ပါလီမန်တွင် ဆွေးနွေးတင်ပြခဲ့သည်။

ရီကာဒို၏ စီးပွားရေးအမြင်များအနက် နောက်ပိုင်းပညာရှင်တို့ အဓိက သိမှတ်ကြသည့် အချက်တစ်ခုက၊ နှိုင်းယှဉ်အကျိုးကျေးဇူးသီအိုရီ (theory of comparative advantage) ဖြစ်သည်။ ကုန်သွယ်ရေး လွတ်လပ်ခွင့်ကို ထောက်ခံသည့် စီးပွားရေးပညာရှင်တိုင်း လိုလိုပင် ရီကာဒို၏ ၎င်းအယူအဆကို ကိုးကားသုံးစွဲလေ့ရှိကြသည်။

စီးပွားရေးပညာရပ်သို့ ရီကာဒို ဖြည့်ဆည်းပေးခဲ့သည့် ယနေ့တိုင် အသုံးဝင်ဆဲ နောက်အချက်တစ်ခုက တိုင်းပြည်ဝင်ငွေကို လုပ်ခ၊ အမြတ်အစွန်း၊ ငှားခ စသည်တို့အဖြစ် ခွဲဝေရရှိကြပုံအကြောင်း ဖွင့်ဆိုရှင်းလင်းခဲ့ခြင်း ဖြစ်သည်။ ထို့ပြင်၊ အဆိုပါ ဝင်ငွေခွဲဝေမှုအနေအထားများ ကာလအလျောက် ပြောင်းလဲမှု ရှိနေပုံအကြောင်းနှင့် ယင်းပြောင်းလဲမှုများကြောင့် ဗြိတိန်ပြည်၌ ဖြစ်ပေါ်နိုင်သည့် အခြေအနေများ အကြောင်းကိုပါ သူ ရှင်းပြခဲ့သည်။

ရီကာဒို တင်ပြခဲ့သည့် တတိယအချက်တစ်ရပ်ကမူ ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများ၏ တန်ဖိုးနှင့်စပ်လျဉ်း၍ ရှင်းလင်းဖွင့်ဆိုသည့် လုပ်အားတန်ဖိုးသီအိုရီ (labour theory of value) ဖြစ်ပါသည်။

သည်အချက်များကို အတန်အသင့်မျှစီ ဆက်လက် ရှင်းလင်းတင်ပြရသော်၊

'နိုင်ငံတို့၏ ဓနဥစ္စာ' ကျမ်း၌ အက်ဒမ်စမစ်က၊ နိုင်ငံတစ်ခုသည် တစ်ခုသော ကုန်ပစ္စည်းကို ထုတ်လုပ်ရာ၌ အခြားသော တိုင်းပြည်များထက် စွမ်းရည်ထက်မြက်နေမည် ဆိုပါက၊ ထိုပစ္စည်းမျိုးကိုပင် များများထုတ်လုပ်ပြီး တိုင်းတပါးသို့ တင်ပို့ရောင်းချလိမ့်မည် ဟုဆိုခဲ့ပြီး၊ ယင်းသို့သော အနေအထားမျိုးကို ယင်းတိုင်းပြည်ဘက် လုံးလုံးလျားလျား အကျိုးကျေးဇူး (absolute advantage) ရရှိနေသော အနေအထား ဟူ၍ သုံးနှုန်းပြောခဲ့ပါသည်။ စမစ်၏ ယင်းအမြင်အရဆိုလျှင်၊ အကယ်၍ ဂျပန်ပြည်သည် မော်တော်ကား၊ ကွန်ပျူတာ၊ စားသောက်ကုန်နှင့် အဝတ်အထည်များ ထုတ်လုပ်ရာ၌ အမေရိကန်ပြည်ထက် ပို၍ စွမ်းရည်ထက်မြက်မည် (ဝါ) ပို၍ သက်သာလွယ်ကူစွာ ထုတ်လုပ်နိုင်မည်ဆိုက၊ ယင်းပစ္စည်းအားလုံးကို



ဂျပန်က အမေရိကသို့ တင်ပို့ရောင်းချနေပြီး၊ အမေရိကန်တို့ကလည်း မိမိထက် ဈေးနှုန်းချိုသာစွာ ထုတ်လုပ်နိုင်သည့် ၎င်းဂျပန်ပစ္စည်းအားလုံးကို ဝယ်ယူသုံးစွဲကာ ကုန်သွယ်ရေးတွင် အကြီးအကျယ် လိုငွေပြနေစရာ အကြောင်းရှိသည်။

ရီကာဒိုကမူ ယင်းသို့ မမြင်ချေ။ သူက တိုင်းပြည်တစ်ပြည်သည် အခြားတိုင်းပြည်တစ်ပြည်ထက် ပစ္စည်းအမျိုးအမည် အားလုံးမှာပင် ထုတ်လုပ်မှုစွမ်းရည် နိမ့်ကျနေသည့်တိုင်၊ ထုတ်လုပ်ရောင်းဝယ်ရာ၌ အထက်ကကဲ့သို့ လုံးဝတစ်ဖက်သတ် ဖြစ်နေစရာ အကြောင်းမရှိဟု ယူဆသည်။ သူက တိုင်းပြည်တစ်ပြည်သည် ထုတ်လုပ်မှုစွမ်းရည်အရ မိမိက လုံးလုံးလျားလျား အကျိုးကျေးဇူး ရရှိနေသော ကုန်ပစ္စည်းမျိုးကိုသာ ထုတ်လုပ်တင်ပို့နိုင်သည် မဟုတ်၊ နှိုင်းယှဉ်မှုသဘောအရ အတန်အသင့် အကျိုးရှိသော (ဝါ) ထုတ်လုပ်မှုစွမ်းရည်ချင်းယှဉ်လျှင် မိမိက နိမ့်သည် မှန်သော်လည်း အလွန်အကျွံ မနိမ့်သော ကုန်ပစ္စည်းမျိုးကို ထုတ်လုပ်တင်ပို့၍လည်း ရနိုင်သည်ဟု ရှုမြင်သည်။

ဥပမာအားဖြင့်၊

ဂျပန်ရော အမေရိကန်ပါ မော်တော်ကားနှင့် ဆန်စပါးတည်းဟူသော ကုန်ပစ္စည်းနှစ်မျိုးလုံးတို့ကို ထုတ်လုပ်ကြသည် ဆိုပါစို့။ အမေရိကန်ပြည်တွင် အလုပ်သမားတစ်ယောက်သည် မော်တော်ကားလုပ်မည်ဆိုက တစ်နှစ်လျှင် ကားတစ်စီး၊ စပါးစိုက်မည်ဆိုက တစ်နှစ်လျှင် ဆန်တစ်တန် ထုတ်လုပ်နိုင်ပြီး၊ ဂျပန်ပြည်တွင် လုပ်သားတစ်ယောက်သည် တစ်နှစ်လျှင် ကား ၃ စီး သို့မဟုတ် ဆန် ၂ တန် ထုတ်လုပ်နိုင်သည် ဆိုပါစို့။ နှစ်နိုင်ငံနှိုင်းယှဉ်က ဆန်တွင်ရော ကားတွင်ပါ ဂျပန်လုပ်သားတို့က လုံးလုံးလျားလျား စွမ်းရည်သာသောသဘော ရှိနေသည်။ သို့သော်၊ ၎င်းကို ထပ်၍ ခွဲခြမ်းစိတ်ဖြာကြည့်ပါက ဂျပန်လုပ်သားသည် ဆန်စပါး ထုတ်လုပ်ရာ၌ အမေရိကန်လုပ်သားထက် ၂ ဆမျှ စွမ်းရည်ထက်ပြီး၊ မော်တော်ကား လုပ်မည်ဆိုလျှင်မူ ၃ ဆမျှ ပို၍ ထုတ်လုပ်နိုင်စွမ်းရှိကြောင်း တွေ့ရမည် ဖြစ်သည်။

သည်အနေအထားကို ရီကာဒို၏ နှိုင်းယှဉ်အကျိုးကျေးဇူး ရှုထောင့်မှ ကြည့်မည်ဆိုက၊ အမေရိကန်လုပ်သားသည် မော်တော်ကား လုပ်ရာ၌ ဂျပန်လုပ်သား၏ ၃ ပုံ ၁ ပုံမျှလောက်သာ စွမ်းရည်ရှိသော်လည်း ဆန်စပါး စိုက်ပျိုးရာ၌မူ ဂျပန်၏တစ်ဝက်မျှလောက် စွမ်းဆောင်နိုင်သည် ဖြစ်ရာ၊ သူသာ ကုန်ပစ္စည်းထုတ်လုပ်မည်ဆိုက မော်တော်ကားလုပ်ခြင်း ထက် ဆန်စပါးစိုက်ခြင်းက ပို၍ အကျိုးကျေးဇူးပြုနိုင်သည်၊ (ဝါ) နှိုင်းယှဉ် သဘောအရ ဆန်စပါးက အခွင့်အလမ်းပိုသာသည်ဟု တွေ့မြင်ရမည် ဖြစ်သည်။

ရီကာဒိုက၊ တိုင်းပြည်အသီးသီးတို့သည် မိမိ နှိုင်းယှဉ်အကျိုး ကျေးဇူးရှိသည့် ကုန်ပစ္စည်းမျိုးကို အဓိကထုတ်လုပ်ခြင်းဖြင့် ပြည်ပသို့ တင်ပို့နိုင်သော အခွင့်အလမ်းရရှိကာ ထိုမှ အကျိုးအမြတ်များလည်း ခံစားရရှိနိုင်မည် ဖြစ်ကြောင်း သုံးသပ်ပြောဆိုသည်။ အထက်မှဥပမာအရ ပြောရသော်၊ ဂျပန်ရော အမေရိကန်ပါ နှိုင်းယှဉ်မှုသဘောအရ မိမိတို့ ပို၍ အခွင့်အလမ်းသာသည့် ကုန်ပစ္စည်းအသီးသီးကို အထူးပြုထုတ်လုပ်ကာ အပြန်အလှန် ရောင်းဝယ်ဖလှယ်မည်ဆိုက နှစ်ဦးလုံး အကျိုးအမြတ်ရနိုင် သည်ဟု သူ ဆိုလိုက်ခြင်း ဖြစ်သည်။

ရီကာဒို၏ ရှုထောင့်မှ ဆက်လက်သုံးသပ်ရသော်၊ အကယ်၍ အမေရိကတွင် လုပ်သား ၂၀၀ ရှိပြီး ဂျပန်တွင် လုပ်သား ၁၀၀ ရှိသည် ဆိုပါစို့။ ၎င်းလုပ်သားများသည် မော်တော်ကား ထုတ်လုပ်ရေးနှင့် ဆန်စပါး စိုက်ပျိုးရေးတို့တွင် ဦးရေအညီအမျှစီ ခွဲ၍ လုပ်ကိုင်နေကြမည် ဆိုပါက အမေရိကသည် တစ်နှစ်လျှင် ကားစီးရေ ၁၀၀ နှင့် ဆန်တန်ချိန် ၁၀၀ ထုတ်လုပ်နိုင်ပြီး၊ ဂျပန်ကမူ ကားစီးရေ ၁၅၀ နှင့် ဆန်တန်ချိန် ၁၀၀ ထုတ်လုပ်နိုင်မည်ဖြစ်ရာ၊ ၎င်းတို့နှစ်ဦးပေါင်းလျှင် ကားစီးရေ ၂၅၀ နှင့် ဆန်တန်ချိန် ၂၀၀ ထွက်ရှိမည် ဖြစ်သည်။ အကယ်၍ ၎င်းတို့တစ်ဦးစီ အနေနှင့် မိမိထုတ်လုပ်မှုစွမ်းရည် ပိုမို မြင့်မားသော ပစ္စည်းတစ်မျိုးတည်း စီသာ ထုတ်လုပ်ကြမည်ဆိုက၊ ဂျပန်လုပ်သား ၁၀၀ သည် မော်တော်ကား တွေချည်း လုပ်ကာ ကားစီးရေ ၃၀၀ ထွက်ရှိပြီး၊ အမေရိကန်လုပ်သား



၂၀၀ က ဆန်စပါးချည်း စိုက်ကာ ဆန်တန်ချိန် ၂၀၀ ထွက်ရှိမည်ဖြစ်ရာ၊ နှစ်ဦးပေါင်းလျှင် ကားစီးရေ ၃၀၀ နှင့် ဆန်တန်ချိန် ၂၀၀ ရှိသည့်အတွက်၊ နှစ်ဦးလုံး နှစ်မျိုးလုံးစီ ထုတ်လုပ်သည်ထက် ကားစီးရေ ၅၀ ပိုမို ရရှိ လာမည် ဖြစ်သည်။ ၎င်း ၅၀ သည် သက်ဆိုင်ရာတိုင်းပြည်အသီးသီးက မိမိတို့ ပိုမို အခွင့်သာသည့် ကုန်ပစ္စည်းကို ရွေးချယ်ထုတ်လုပ်ခြင်းကြောင့် ပေါင်းထုတ်လုပ်မှုတွင် ပိုမိုလာခြင်း ဖြစ်သည်။

သည်မှဆက်၍ စဉ်းစားရမည့် အရေးကြီးသော ပြဿနာက ထိုအပိုထွက်ကို မည်သူတို့ မည်သို့ ရရှိခံစားကြမည်လဲ ဟူသော အချက် ဖြစ်၏။

ရီကာဒိုက ၎င်းအချက်သည် အဆိုပါ ကုန်ပစ္စည်းနှစ်ခုအကြား ဖလှယ်သည့်နှုန်းထားပေါ်တွင် မူတည်သည်ဟုဆို၏။ အကယ်၍ ဂျပန်က သူ့ကားအစီး ၃၀၀ အနက် ၁၀၀ ကို ဆန်တန်ချိန် ၁၀၀ နှင့် ရောင်းဝယ် ဖလှယ်နိုင်မည်ဆိုက ဂျပန်တွင် ကားအစီး ၂၀၀ ကျန်ပြီး ဆန်တန်ချိန် ၁၀၀ ရရှိမည်၊ အမေရိကန်တွင်မူ ကားအစီး ၁၀၀ ရရှိပြီး ဆန်တန်ချိန် ၁၀၀ ကျန်ရှိမည် ဖြစ်သည်။ အကယ်၍၊ အမေရိကန်က သူ့ဆန်တန် ၁၀၀ ကို ဂျပန်ကားအစီး ၁၅၀ ဖြင့် ရောင်းဝယ်ဖလှယ်မှု ပြုနိုင်မည်ဆိုက၊ ရောင်းအဝယ်အပြီးတွင် ဂျပန်၌ ကားအစီး ၁၅၀ နှင့် ဆန်တန်ချိန် ၁၀၀ ရှိနေပြီး၊ အမေရိကန်တွင်လည်း အလားတူ ကားအစီး ၁၅၀ နှင့် ဆန်တန်ချိန် ၁၀၀ ပင်ရှိနေမည် ဖြစ်သည်။

အထက်ပါ ဖလှယ်နှုန်းနှစ်မျိုးဖြင့် ရောင်းဝယ်ရာမှ ထွက်ပေါ်လာ သည့် ရလဒ်နှစ်ခုကို နှိုင်းယှဉ်ကြည့်လျှင်၊ ပထမနှုန်း (တစ်စီး = တစ်တန်) နှင့် ရောင်းဝယ်သည့်အခါ၊ နှစ်နိုင်ငံတို့ ပစ္စည်းတစ်မျိုးစီ အထူးပြု ထုတ်လုပ်ခြင်းကြောင့် ပိုမို ရရှိလာသည့် ကားအစီး ၅၀ လုံးကို ဂျပန်က ရရှိသွားပြီး၊ ဒုတိယနှုန်း (တစ်စီးခွဲ = တစ်တန်) နှင့် ရောင်းဝယ်သည့် အခါ၌မူ အပိုထွက် ကားအစီး ၅၀ လုံးကို အမေရိကန်က ရရှိသွားကြောင်း တွေ့ရမည် ဖြစ်သည်။ [အထက်တွင်ဖော်ပြခဲ့သည့် နှစ်နိုင်ငံလုံး ကားရော ဆန်ပါ ထုတ်လုပ်စဉ်က ရရှိကြသည့် အရေအတွက်များနှင့် နှိုင်းယှဉ် ကြည့်ပါ။]

ထို့ကြောင့်၊ အကယ်၍ ရောင်းဝယ်ဖလှယ်မှုသည် တစ်စီး = တစ်တန်နှုန်းနှင့်၊ တစ်စီးခွဲ = တစ်တန်နှုန်းတို့အကြား နှုန်းတစ်ခုခုနှ ဖြစ်ကြမည်ဆိုက ဂျပန်ရော အမေရိကန်ပါ ကုန်သွယ်မှုမှ အကျိုးကျေးဇူး တစ်စုံတစ်ရာစီ ခံစားကြရမည် ဖြစ်သည်။ တစ်နည်းဆိုရသော် ဆန်တစ်တန်အတွက် ပေးရမည့် ငွေပမာဏသည် ကားတစ်စီးဖိုး ပေးရမည့် ငွေပမာဏနှင့် တစ်စီးခွဲဖိုး ကျသင့်မည့် ငွေပမာဏတို့အကြားတွင် ရှိရမည် သဘော ဖြစ်သည်။

သည်တွင် နောက်ထပ် ထည့်တွက်စရာတစ်ခု ရှိလာပြန်သည်။ ယင်းက ဂျပန်ယန်းငွေနှင့် အမေရိကန်ဒေါ်လာတို့ကို မည်သည့်နှုန်းထားဖြ ဖလှယ်ကြမည်နည်း ဟူသောအချက် ဖြစ်သည်။

ထို့ကြောင့်၊ နောက်ဆုံးစာရင်းချုပ်သည့် အခါ၌၊ ဂျပန်ပြည်သ သူ့ကားအတွက် ဆန်များများ ရသွားသလား၊ အမေရိကန်က သူ့ဆ အတွက် ကားများများ ရသွားသလား ဟူသောအချက်သည် ကားဈေးနှုန်း ဆန်ဈေးနှုန်း သတ်မှတ်ချက်နှင့် ဒေါ်လာဈေး ယန်းဈေး သတ်မှတ်ချက်တို့ အပေါ်တွင် မူတည်လိမ့်မည် ဖြစ်သည်။

သို့သော်၊ သည်အပိုင်းကို ရီကာဒို ရှင်းလင်းခြင်း မပြုခဲ့ သူ့နောက်တွက်ပေါ်လာသည့် တွေးခေါ်ရှင် ဂျွန်စတူးဝပ်မေးလ် (John Stuart Mill) ကျမှသာ သည်ကိစ္စကို ဆက်လက် သုံးသပ်တင်ပြခဲ့ကြောင်း တွေ့ရှိရမည် ဖြစ်ပါသည်။

❖

သီအိုရီပိုင်းဆိုင်ရာ၌ ရီကာဒို ဖြည့်ဆည်းပေးခဲ့သည့် အရေး သော နောက်အချက်တစ်ခုက ဝင်ငွေခွဲဝေမှုနှင့်စပ်လျဉ်းသည့် ပထမ ဘက်စုံခြုံငုံသောသီအိုရီတစ်ရပ် ဖြစ်သည်။

သူ၏သီအိုရီတွင် ကဏ္ဍသုံးရပ် ပါရှိသည်။ ငှားခသီအိုရီ၊ လုပ် အကြောင်း ရှင်းလင်းဖွင့်ဆိုသည့် သီအိုရီနှင့် အမြတ်အစွန်းဆိုင်ရာသီအိုရီ



ဖြစ်သည်။ ရီကာဒိုက တိုင်းပြည်ဝင်ငွေကို ယင်းကဏ္ဍသုံးရပ်အကြား ခွဲဝေပုံ အကြောင်းကိုလည်းကောင်း၊ ဖွံ့ဖြိုးလာနေသော စီးပွားရေးနယ်ပယ်တစ်ခု အတွင်း ယင်းကဏ္ဍအသီးသီး၌ သက်ရောက်ဖြစ်ပေါ်ပုံ တို့ကိုလည်းကောင်း ရှင်းလင်းပြသည်။

ငှားခ အပိုင်းတွင်၊

ရီကာဒိုက မဲလ်သပ်(စ)၏ နှုန်းခွဲငှားခသီအိုရီ (differential theory of rent) ကို ထောက်ခံတင်ပြသည်။ နှုန်းခွဲသီအိုရီအလိုအရ (မြေ) ငှားခဟူသည် မြေကွက်အသီးသီးတို့၏ အရည်အသွေး အကောင်းအညံ့ အပေါ်တွင် မူတည်၍ ဖြစ်ပေါ်သည်။ အကယ်၍ မြေသြဇာကောင်း သီးနှံ အတွက်ကောင်းသည့် မြေလွတ်မြေရိုင်းများသာ အလျှံပယ် ရှိနေမည်ဆိုက မည်သူမျှ သူတစ်ပါးမြေကို ငှားရမ်းသုံးစွဲကြမည် မဟုတ်။ ထိုအခါ မြေငှားခ ဟူသည်လည်း ရှိတော့မည် မဟုတ်။

သို့သော် မြေကောင်းမြေသန့်က အကန့်အသတ်နှင့်သာ ရှိသည်။ စိုက်ပျိုးရေးလုပ်ရန် အသင့်တော်ဆုံး အကောင်းဆုံး မြေများကို လက်ဦး လူတို့ အသုံးပြုပြီးသည့်အခါ နောက်လူတို့က သူ့လောက် အထွက်မကောင်း လှသည့် မြေကွက်များတွင် ဆက်လက် ထွန်ယက်စိုက်ပျိုး ကြရသည်။ ထို့နောက်တွင် ပို၍ပို၍ ညံ့သော မြေကွက်များကို အသုံးပြုလာရသည်။ ထိုအခါ မြေကွက်ကောင်းလျှင် ကောင်းသလောက် တန်ဖိုးရှိလာသည်။ ဥပမာ၊ ပထမတန်းစားမြေကွက်က တစ်ဧကလျှင် သီးနှံ ၁၀ တင်းနှုန်း ထွက်ပြီး ဒုတိယတန်းစားမြေကွက်က တစ်ဧက ၈ တင်းနှုန်း ထွက်သည် ဆိုပါစို့။ ပထမတန်းစားမြေကွက်တွင် စိုက်ပျိုးချင်သူက ငှားခအဖြစ် ဒုတိယတန်းစားမြေကွက်ကို ပေးရသည်ထက် တစ်ဧကလျှင် ၂ တင်းနီးပါး နှုန်းအထိ ပိုပေးပြီး ငှားရမ်းမည် ဖြစ်သည်။

စိုက်ပျိုးမြေရှားပါးသဖြင့် ပို၍ပို၍ ညံ့သော မြေများတွင်ပါ ငှားရမ်း စိုက်ပျိုးလာရသည်နှင့်အမျှ ပိုကောင်းသော မြေအတန်းအစားများမှာ ထွက်နှုန်းကိုလိုက်ကာ ငှားခများ အဆင့်ဆင့် တက်လာကြမည် ဖြစ်သည်။ ထိုသည်အကြောင်းနှင့်ပတ်သက်၍ ရီကာဒိုက၊ "တတိယတန်းစားမြေမျိုးတွင်

စိုက်ပျိုးရေးလုပ်လာသည်နှင့် တစ်ပြိုင်နက် ဒုတိယတန်းစားမြေက ငှား
တက်လာမည်။ ၎င်းငှားခအနည်းအများမှာ အဆိုပါ မြေအတန်းအစား
နှစ်မျိုး၏ ထုတ်လုပ်နိုင်မှုစွမ်းအား ကွာခြားမှုပေါ်တွင်မူတည်မည် ဖြစ်သည်
တစ်ချိန်တည်းတွင် ပထမတန်းစားမြေ၏ ငှားခကလည်း ဆက်တ
လာပေမည်။" စသည်ဖြင့်ရေးသားခဲ့သည်။

သည့်သဘောအရ၊ အကယ်၍ အဆိုပါ တတိယတန်းစား လယ်မြေသည် တစ်ဧကလျှင် ၇ တင်းနှုန်း ထွက်မည်ဆိုက၊ ၁၀ တင်းနှုန် ထွက်သည့် ပထမတန်းစားမြေ၏ ငှားခသည် တစ်ဧကလျှင် ၃ တင် ဝန်းကျင်နှုန်းလည်းကောင်း၊ ၈ တင်းနှုန်းထွက်သည့် ဒုတိယတန်းစားမြေ ငှားခတစ်ဧကလျှင် ၁ တင်းဝန်းကျင်နှုန်းလည်းကောင်း အသီးသီး ရှိလာမည် ဖြစ်သည်။

လုပ်ခနှင့်ပတ်သက်၍မူ၊

ရီကာဒိုက၊ လုပ်ခပမာဏသည် လုပ်သားတို့ ရှင်သန်ရပ်တည် နိုင်ရေးအတွက် အနိမ့်ဆုံး မည်မျှလိုအပ်သနည်း ဟူသော အချက်ပေါ်တွ မူတည်သည် ဟုမြင်သည်။ ဤနေရာ၌ သူ့အယူအဆက အက်ဒမ်စ တင်ပြခဲ့သည့် နေနိုင်ရုံလုပ်ခသီအိုရီနှင့်တော့ ကွဲလွဲမှု ရှိသည်။ သူ အနိမ့်ဆုံးလိုအပ်ချက် ဟူသည်ကို ရုပ်ပိုင်းဆိုင်ရာ မရှိမဖြစ်အရာမျ သက်သက်ဖြင့် မတိုင်းတာ။ သူ့အမြင်အရမူ အနိမ့်ဆုံးလိုအပ်ချက် ဟူသည် အများပြည်သူတို့၏ ထုံးစံကိုက်နေထိုင်မှုပုံသဏ္ဌာန်များနှင့် လိုက်လျော ညီညွတ်မှုရှိရလိမ့်မည် ဟုခံယူသည်။ အဓိပ္ပာယ်က၊ တိုင်းပြည်၏အထွေထွေ လူနေမှုအဆင့်အတန်း မြင့်မားလာသည်နှင့်အမျှ လုပ်သားတို့အတွ အနိမ့်ဆုံးလုပ်ခနှုန်းထားများသည်လည်း မြင့်တက်လာရမည် ဟူသော သဘော ဖြစ်သည်။ အကြောင်းက၊ ဥပမာအားဖြင့်၊ နှစ်ဆယ်ရာစုနှောင်းပိုင် ကာလအတွင်း အမေရိကန်ပြည်တွင် လူတစ်ယောက် ရပ်တည်ရှင်သန်နိုင် အတွက် လိုအပ်သည့် အနိမ့်ဆုံးဝင်ငွေသည် ၁၉ ရာစုနှစ် အတွင်း အမေရိကတွင် လိုအပ်ခဲ့သည့် အနိမ့်ဆုံးဝင်ငွေနှင့် မည်သို့မျှ မတူညီနိုင် သောကြောင့် ဖြစ်သည်။ နမူနာတစ်ခု ပြရသော်၊ ၁၉ ရာစု မိသားစုများ

မျိုးခန်းနှင့် အိမ်သာသည် နေအိမ်နှင့်တွဲလျက် မရှိလျှင်လည်း အရေး ကြီးခဲ့သော်လည်း ၂၀ ရာစု အကုန်ပိုင်း၌မူ ယင်းကိစ္စက မရှိမဖြစ် အပ်ချက် ဖြစ်လာခြင်းမျိုး ဖြစ်သည်။ ထို့ကြောင့် ၂၀ ရာစုနှောင်းပိုင်း သားအတွက် လုပ်ခကို စဉ်းစားသည့်အခါ သူ့ခေတ်ကာလ လူတို့ ရှင်သားရနေသည့် တိုးမြင့်လာသော နေထိုင်မှုအဆင့်အတန်းများနှင့် လျော်ညီသည့် အနိမ့်ဆုံးလိုအပ်ချက်ပေါ်တွင် ချိန်ဆစဉ်းစားဖို့ လိုလာမည် သည်။

အမြတ်အစွန်းဟူသည်နှင့် ပတ်သက်၍၊

ရီကာဒိုက၊ အလုပ်သမားတို့အား လုပ်ခကိုလည်းကောင်း၊ မြေရှင်တို့အား ငှားခကိုလည်းကောင်း၊ ပေးပြီးသည့်နောက် ကျန်ရှိသော ရာသည် ရင်းနှီးမြှုပ်နှံသူ ငွေရှင်အတွက် အမြတ်အစွန်းဖြစ်သည် ဟုဆို သည်။ လုပ်ငန်းအသီးသီးတို့မှ အမြတ်အစွန်း ရရှိနိုင်မှုနှုန်းထားတို့သည် သာတူညီမျှအားဖြင့် တူညီသည်ဟုလည်း သူ ရှုမြင်သည်။ အကြောင်းက၊ လုပ်ငန်းတစ်ခုသည် အခြားလုပ်ငန်းများထက် အကျိုးအမြတ် ပိုမို ရရှိ မည်ဆိုက ယင်းလုပ်ငန်းကဏ္ဍထဲသို့ ငွေရှင်များ (ရင်းနှီးမြှုပ်နှံသူများ) ဝင်လာကြမည်ဖြစ်ရာ၊ ၎င်းမှထွက်ရှိသည့် ပစ္စည်းများ ပိုလျှံကာ ဈေးနှုန်း ကျဆင်းသဖြင့်၊ အမြတ်အစွန်းများလည်း လျော့နည်းလာရမည် ဖြစ်သည်။ ထားတူ၊ အမြတ်အစွန်းနည်းသည့် လုပ်ငန်းများတွင်လည်း ငွေရှင်များ ရင်းနှီးမြှုပ်နှံသူများ) အခြားတစ်ပါးသို့ ရွှေ့ပြောင်းကြမည်ဖြစ်ရာ ယင်းမှ ထွက်ရှိသည့် ပစ္စည်းများ လျော့နည်းသွားသည်နှင့်အမျှ ဈေးနှုန်း ပြန်တက် ပြီး၊ ၎င်းနှင့်ညီညွတ်စွာ အမြတ်အစွန်းများလည်း တိုးမြင့်လာနိုင် သောကြောင့် ဖြစ်သည်။

ဖော်ပြခဲ့သည့်၊ ငှားခ၊ လုပ်ခနှင့် အမြတ်ဆိုင်ရာ သီအိုရီများအရ ကာဒို ဆက်လက် သုံးသပ်တွေ့မြင်လာသည့် အချက်များမှာ ဝမ်းမြောက် ဖွယ် မကောင်းလှပေ။

အကြောင်းက၊ ကာလကြာသည်နှင့်အမျှ တိုင်းပြည်၌ ငွေ ရေး ပွားများပြားလာမည်ဖြစ်ရာ၊ ထို တိုးလာသော ပါးစပ်ပေါက်များကို

ကျွေးမွေးရန်အတွက် စားနပ်ရိက္ခာတို့ ပိုမို ထုတ်လုပ်လာရမည့် အရေး သူ မြင်သောကြောင့် ဖြစ်သည်။ စားနပ်ရိက္ခာ များများရလိုလျှင် မြေသြ နည်းသည့် အညံ့စားမြေများတွင် တိုးချဲ့စိုက်ပျိုးလာကြရမည်။ ထိုအ မြေအားလုံးအတွက် ငှားခတက်လာသဖြင့် ချမ်းသာပြီးသား မြေရှင်မျ ကိုပင် ပို၍ပို၍ ပေးကြရမည်။ မြေငှားခတက်သဖြင့် စိုက်ပျိုးရေး ကုန် စရိတ်များ တက်သည့်အခါ ၎င်းမှထွက်သည့် စားနပ်ရိက္ခာဈေးနှုန်းမျ လည်း တက်လာမည်။ ထိုအခါ လုပ်သားတို့ ရပ်တည်ရှင်သန်နိုင် ပေးရသည့် လုပ်ခသည်လည်း တက်လာရတော့မည်။ လုပ်ခနှင့် ငှာ တက်လျှင် ငွေရင်းစိုက်ထုတ်သူအတွက် အကျိုးအမြတ် အလွန် နည်းသ လိမ့်မည်။ ထိုအခါ စိုက်ပျိုးရေးလုပ်ငန်းများ ကျဆင်းပြီး တိုင်းပြ စီးပွားရေးတစ်ရပ်လုံးလည်း နေးကွေးတုံ့ဆိုင်းသွားတော့မည်။

သို့နှင့်၊ ယင်းသို့ ဖြစ်ပေါ်လာနိုင်သည့် စီးပွားရေး အကျပ်အတည ကို ရင်ဆိုင်ဖြေရှင်းနိုင်ရန်အတွက် လုပ်ဆောင်သင့်သည့် အချက်မျာ သူ အကြံပြုတင်ပြသည်။

ပထမတစ်ချက် သူ တင်ပြသည်က၊ ဗြိတိသျှ ကောက်ပဲသီး ဥပဒေများကို ပြန်လည်ရုပ်သိမ်းဖို့ ဖြစ်သည်။

၁၆၆၀ ပြည့်နှစ်က စတင်ချမှတ်ခဲ့သည့် ၎င်းဥပဒေများ၏ ရ ရည်မှန်းချက်က အင်္ဂလန်ပြည်တွင် ကောက်ပဲသီးနှံဈေးနှုန်းများ တည်ငြ ရှိရေး ဖြစ်သည်။ ၎င်းဥပဒေများအရ၊ ပြည်တွင်းကောက်ပဲသီးနှံ အထွ ကောင်းသော ကာလတွင် သွင်းကုန်အပေါ် အခွန်ကောက်ခံမှု တိုးမြှ ထုတ်ကုန်အပေါ် အခွန်ကောက်ခံမှု လျှော့ချရန်၊ ပြည်တွင်းသီးနှံ အထွ နည်း၍ စားနပ်ရိက္ခာ ရှားပါးသော ကာလတွင် သွင်းကုန်အပေါ် အခွန် လျှော့ချခြင်း အခွန်ကင်းလွတ်ခွင့်ပေးခြင်းများ ပြုလုပ်ပြီး ပို့ကုန်ကိုမူ အ တိုးမြှင့်ကောက်ခံရန် သတ်မှတ်ပြဋ္ဌာန်းထားခဲ့ရာ၊ အစပိုင်း၌၊ သီးနှံရှား သော နှစ်များမှာပင် ဈေးနှုန်း အလွန်အကျွံ မတက်အောင် ထိန်းနိုင်ခဲ့သ ရည်မှန်းချက် အောင်မြင်သည့်သဘော ရှိခဲ့သည်။ သို့သော် နှစ်ကာ ကြာရှည်လာသည့်အခါ ထိုအနေအထားက ပြောင်းလဲလာသည်။ ၁



ည့်နှစ် ကျော်စနှစ်များလောက် ရောက်သည့်အခါ၌ ကောက်ပဲသီးနှံဥပဒေ သည် ဈေးနှုန်းများကို တည်ငြိမ်အောင်ထိန်းမထားနိုင်တော့ရုံမျှသာမက၊ နှံဈေးနှုန်းများ တစ်သမတ်တည်းတက်ကာ မြေရှင်တို့ တောက်လျှောက် ငွေကောင်းနေသည့် အနေအထားကို ကာကွယ်စောင့်ရှောက်ပေးသည့် ဒများသဖွယ် ဖြစ်လာတော့သည်။

ရီကာဒိုက၊ ကောက်ပဲသီးနှံဥပဒေများကို ပြန်လည်ရုပ်သိမ်းလိုက် င် ဗြိတိန်ပြည်တွင်းသို့ ပြည်ပမှ သီးနှံတင်သွင်းမှုများ တိုးတက်လာမည်။ ည်အခါ စိုက်ပျိုးရေးလုပ်ငန်းများတွင် အရင်းအနှီးပြုသူတို့ အတွက် မြတ်အစွန်း တိုးတက်ရရှိစေမည့် သက်ရောက်မှုနှစ်ခု ဖြစ်ပေါ်လာမည် မြင်သည်။ ယင်းအနက် တစ်ခုက၊ ပြည်ပသီးနှံများ ဝင်လာသည့်အခါ နပ်ရိက္ခာဈေးနှုန်းများ ကျဆင်းမည်၊ ထိုအခါ ရိက္ခာဈေး တက်သည်ကို ကြောင်းပြု၍ တိုးပေးနေရသော လုပ်ခနှုန်းများ ကျဆင်းမည်၊ ထိုအခါ ငန်းရှင်အတွက် ကုန်ကျစရိတ်သက်သာမည် ဟူသောအချက်ဖြစ်သည်။ ကတစ်ချက်မှာ၊ သီးနှံသွင်းကုန်များ ဝင်လာလျှင် တိုင်းပြည်၌ သီးနှံ လောက်အောင် မြေယာများ တိုးချဲ့စိုက်ပျိုးနေဖို့ လိုတော့မည် မဟုတ်။ ထွက်မကောင်းသော မြေညံ့များ၌ စိုက်ပျိုးရေးလုပ်ရန် မလိုအပ်တော့ဘူး လျှင်၊ ၎င်းမြေညံ့များနှင့် အထွက်နှုန်းချင်း နှိုင်းယှဉ်ကာ ဈေးတက် ခဲ့သည့် ပိုကောင်းသော မြေအတန်းအစားများ၏ ငှားခနှုန်းထားများသည် ည်း ပြန်၍ကျဆင်းလာမည် ဖြစ်သည်။ ထိုအခါ လုပ်ငန်းရှင်အနေနှင့် ငှားခ လျော့သွားသလောက် အကျိုးအမြတ် ပိုကျန်လာမည် ဟူ၍ သည်။

ပေါ်လစီပိုင်းဆိုင်ရာ၌ ပြုပြင်ပြောင်းလဲရန် ရီကာဒို တင်ပြခဲ့သည့် ယအကြံပြုချက်တစ်ရပ်က၊ အရင်းအနှီး တိုးတက်စုစည်းရေး (greater pital accumulation) ဖြစ်သည်။

အရင်းအနှီးကိရိယာ (capital equipment) များ တိုးတက်သုံး နိုင်သည်နှင့်အမျှ မြေယာမှ အထွက်နှုန်းပိုလာမည်ဟု သူမြင်သည်။ ပြင် စိုက်ပျိုးမြေအားလုံးကို အရည်အသွေး တိုးတက်အောင် သူ့အတိုင်း

အတာနှင့်သူ ပြုပြင်ပေးနိုင်က နှုန်းခွဲငွေခများ၌လည်း အပြောင်းအ ရှိလိမ့်မည် မဟုတ်။ တစ်ဖန်၊ လုပ်ခများမှာလည်း ကာလဝန်းကျင် လျော်ညီသည့် ရပ်တည်ရှင်သန်နိုင်ရေး လိုအပ်ချက်ပေါ်တွင် အခြေတ မည်ဆိုက ထုတ်လုပ်မှုစွမ်းအား တိုးတက်လာခြင်းကြောင့် လုပ်ခ အပြောင်းအလဲများ ဖြစ်ပေါ်စရာ အကြောင်းမရှိ။ ထိုအခါ အရင်းအ တိုးတက်စုစည်းခြင်းကြောင့် ထွက်ပေါ်လာသော အကျိုးရလဒ်တို့သ အမြတ်အစွန်းကဏ္ဍသို့သာ အဓိကရောက်ရှိမည်။ ထိုတိုးပွားလာသေ အမြတ်အစွန်းတို့ကြောင့် တစ်ဖန် ရင်းနှီးမြှုပ်နှံမှုများ ပိုမိုများပြားလာ လုပ်သားများ အလုပ်အကိုင် ပိုမိုရရှိပြီး၊ တိုင်းပြည်၏ ကုန်ထုတ်လု စွမ်းအားလည်း ပို၍ကြီးမားလာမည်ဟု သူ သုံးသပ်ခဲ့သည်။

သို့သော်၊ နောက်ပိုင်းတွင်မူ အရင်းအနှီး တိုးတက်စုစည်းခြင်း ဗြိတိန်၏လူနေမှုအဆင့်အတန်းကို အမှန်တကယ် တိုးမြှင့်ခြင်း ပြုနိုင်မ သူသံသယဝင်လာခဲ့သည်။ သူရေးသားပြုစုခဲ့သည့်နိုင်ငံရေးဘောဂဗေဒကျ (On the Principles of Political Economy) ကို တတိယအကြ တည်းဖြတ် ပြင်ဆင် ပုံနှိပ်သည့်အခါ၊ 'စက်ကိရိယာများ နှင့်စပ်လျဉ်း (On Machinery) ဟူသောခေါင်းစဉ်ဖြင့် အခန်းသစ်တစ်ခု တိုး ပါဝင်လာခဲ့သည်။ သည်အခန်း၌ သူက စက်ကိရိယာသစ်တို့သ လုပ်သားတို့နေရာ၌ အစားထိုးဝင်ရောက်ခြင်းဖြင့် ၎င်းတို့၏ အလု အကိုင်ကို အနှောင့်အယှက် ပြုကောင်းပြုလာနိုင်ကြောင်း သုံးသပ်ဖေ ထားသည်ကို တွေ့ရသည်။

ရီကာဒို မတိုင်မီကမူ စီးပွားရေးပညာရှင်တိုင်းလိုလိုပင် အက် စမစ်၏ အယူအဆအတိုင်း၊ စက်ကိရိယာတို့သည် အလုပ်ပိုင်းခြ လုပ်ကိုင်မှု (division of labour) ကို အားပေးကူညီခြင်းဖြင့် စီးပွား ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုကြသည် ဟူ၍သာ ရှုမြင် ရှိခဲ့သည်။ စက်ယန္တရားများဝင်လာလျှင် လုပ်သားများ အလုပ်အကိုင် ဆုံး ရလိမ့်မည် ဟူသောသဘောထားမျိုး မရှိခဲ့။ ရီကာဒို ကိုယ်တိုင်လည် အလားတူ ရှုမြင်ခဲ့၍၊ သူ၏ နိုင်ငံရေးဘောဂဗေဒကျမ်း စောစောပို

ပ်ခြင်းများ၌၊ စက်ပစ္စည်းများ တိုးတက်သုံးစွဲခြင်းကြောင့် အလုပ်လက်မဲ့ မည်ထက် ကုန်ဈေးနှုန်း ကျဆင်းခြင်းသာ ပို၍ဖြစ်ပေါ်ကာ လူ့အဖွဲ့ စည်းတစ်ရပ်လုံး အနေနှင့် အကျိုးအမြတ် ရရှိလိမ့်မည် ဖြစ်ကြောင်း ပြထားခဲ့သည်။

သို့သော်၊ ၁၈၁၇ ခုနှစ်တွင် ထွက်ပေါ်လာသည့် ဂျွန်ဘာတန် (John Barton) ၏ 'အလုပ်သမား လူတန်းစားတို့၏ အခြေအနေ ရှုစမ်း လာချက်' (Observations on the Condition of the Labouring Classes) အမည်ရှိစာတမ်းကို ဖတ်ရှုရပြီးသည့် နောက်တွင် သူ သဘော ပြောင်းသွားသည်။ ဘာတန်က အရင်းရှင်တို့အနေနှင့် အလုပ်သမား ရေ လျှော့ကာ စက်ပစ္စည်းများကို များများသုံးခြင်းဖြင့် အကျိုးအမြတ် ရရှိနိုင်ပုံအကြောင်းကို ကိန်းဂဏန်းဥပမာများနှင့် တွက်ချက်ပြခဲ့ရာ၊ ဥပမာ သာဓကများကို ကြည့်ပြီး၊ လုပ်သားတို့အနေဖြင့် စက်ကိရိယာ စ်များ ဝင်လာခြင်းအတွက် စိုးရိမ်ထိတ်လန့်ခြင်း၊ ယင်းတို့ကို အသုံး အောင် ဆန့်ကျင်ကန့်ကွက်ခြင်းများမှာ ကျိုးကြောင်းမဲ့ မဟုတ်ကြောင်း ကာဒို ကောက်ချက်ချဖြစ်ခဲ့သည်။ ၎င်းအနေအထားမျိုးကို ယခုခေတ်တွင် ည်းပညာပြောင်းအလုပ်လက်မဲ့ဖြစ်မှု (technological unemployment) ဟု ခေါ်ဝေါ်သုံးစွဲလျက် ရှိပါသည်။

စက်ကိရိယာများအကြောင်း အခန်းသစ်အရ ထူးခြားလာသည့် က်အချက်တစ်ခုက၊ အလုပ်လက်မဲ့ဦးရေ များပြားသော အနေအထား ည် ကာလကြာရှည် ဖြစ်ပေါ်နေနိုင်သည် ဟူသော မဲလ်သပ်(စ)၏ မြင်ကို ရီကာဒို လက်ခံလာခဲ့ခြင်း ဖြစ်သည်။ တစ်နည်းပြောရသော်၊ က်ယန္တရားသစ်များအပေါ် သဘောထား ပြောင်းလဲသွားခြင်းနှင့်အတူ ကာဒို၏ စီးပွားရေးရာ သုံးသပ်ချက်များက အဆိုးမြင်ဘက် ပိုကဲလာခဲ့ ည် ဟုဆိုနိုင်သည်။ နည်းပညာပြောင်း အလုပ်လက်မဲ့များ တိုးပွား ပြားလာမည့် အန္တရာယ်ကို ရှေ့ဆီတွင် မြင်ယောင်မှန်းဆနေမိသည့် နေအထားတွင်၊ ငွေအရင်းအနှီး တိုးတက်စုစည်းမိလာခြင်းကြောင့်လည်း

အများပြည်သူတို့၏ ဘဝများ တိုးတက်မြင့်မားလာလိမ့်မည်ဟု မမျှော်မှန်းနိုင်တော့ခြင်း ဖြစ်သည်။

❖

ရီကာဒို၏ စီးပွားရေးအမြင်များအကြောင်း ပြောလျှင် သူ့ တန်ဖိုးသီအိုရီ မပါဘဲ မပြည့်စုံပေ။

ရီကာဒို၏ တန်ဖိုးသီအိုရီက၊ 'ကုန်ပစ္စည်းတို့၏ အလဲအလှယ် တန်ဖိုး (exchange value) သည် အရင်းခံနှစ်ခုမှလာကြောင်း တစ်ခုသည် ယင်း၏ရှားပါးမှု (scarcity) ဖြစ်၍၊ နောက်တစ်ခု ယင်းအား ရရှိရန်အတွက် အသုံးပြုရသည့် လုပ်အားပမာဏ (quanti of labour) ဖြစ်ကြောင်း၊' ရှုမြင်သုံးသပ်ချက်မှ စတင်သည်။

ယင်းအနက်၊ 'ရှားပါးမှု' ဟူသည် နောက်ထပ် ကူးယူပွားများ နိုင်ခြင်း မရှိသည့် ပစ္စည်းမျိုး (irreproducible goods)၊ ဥပမာ ရှား ပန်းချီလက်ရာ၊ ရှေးဟောင်းဒင်္ဂါး စသည်တို့ကို တန်ဖိုးဖြတ်သည့် နေရာ သာ အရေးပါသည်ဖြစ်ရာ ယင်းကို ရီကာဒို စိတ်မဝင်စားပေ။ သူက ဆင် အရည်အသွေးတူ ထုတ်လုပ်နိုင်သည့် အခြား မြောက်မြားလှစွာသော ကုန်ပစ္စည်းများ (reproducible goods) တို့၏ ကိစ္စကိုသာ စိတ်ဝင်စား သည်။ ယင်းကုန်ပစ္စည်းတို့၏ တန်ဖိုးကို အဓိက သတ်မှတ်ပြဋ္ဌာန်းသော အရာသည် ယင်းတို့အား ထုတ်လုပ်ရာ၌ အသုံးပြုရသည့် လုပ်အားဖြစ်သ ဟု သူမြင်သည်။

လုပ်အားဆိုရာ၌ တိုက်ရိုက်လုပ်အားနှင့် သွယ်ဝိုက်လုပ်အားဟူ နှစ်မျိုးရှိသည် ဟု သူမြင်သည်။ တိုက်ရိုက်လုပ်အား (direct labour) ယင်းကုန်ပစ္စည်း ထုတ်လုပ်ရန်အတွက် လက်ငင်းသုံးစွဲရသည့် လုပ်သ ဦးရေနှင့် အလုပ်ချိန်ပမာဏတို့ကို ဆိုခြင်းဖြစ်ပြီး၊ သွယ်ဝိုက်လုပ်အ (indirect labour) မှာမူ ကုန်ပစ္စည်းထုတ်လုပ်ရာတွင် အသုံးပြုရသ စက်ယန္တရားများ၏ အလုပ်ကို ဆိုလိုခြင်း ဖြစ်၏။ သို့သော် စက်ယန္တရ



သည်လည်း ဆင်တူထုတ်လုပ်ရယူနိုင်သည့် ကုန်ပစ္စည်းများသာဖြစ်ရာ င်းတို့၏ တန်ဖိုးသည်လည်း ယင်းကို ထုတ်လုပ်ရာ၌ သုံးစွဲရသည့် က်ရိုက်လုပ်အားနှင့် သွယ်ဝိုက်လုပ်အားတို့ အပေါ်တွင်ပင် မူတည် သည်။ ထို့ကြောင့် နောက်ဆုံး ပြန်ချုပ်လိုက်သည့်အခါ၌၊ ကုန်ပစ္စည်း သီးသီးတို့၏ တန်ဖိုးသည် ယင်းအား ထုတ်လုပ်ရာ၌ သုံးစွဲရသည့် က်ရိုက်လုပ်အားပမာဏနှင့်၊ ထုတ်လုပ်မှုဖြစ်စဉ်တွင် ပါဝင်သည့် န်ပစ္စည်းတို့အတွက် ကျသင့်သည့် သွယ်ဝိုက်လုပ်အားပမာဏတို့ပေါ်တွင် တည်သည် ဟူ၍ပင် ဆိုရမည် ဖြစ်ပါသည်။

တစ်ဖန်၊ ရီကာဒိုက ဆင်တူထုတ်လုပ်ရယူနိုင်သည့် ကုန်ပစ္စည်း အား ရောင်းဝယ်ဖလှယ်မည်ဆိုက၊ ယင်းအား ထုတ်လုပ်ရာ၌ သုံးစွဲ သည့် တိုက်ရိုက်လုပ်အားနှင့် သွယ်ဝိုက်လုပ်အား ပေါင်းလဒ်ပေါ်၌ အဓိက တည်၍ နှုန်းထားသတ်မှတ်ရလိမ့်မည် ဟုဆိုပါသည်။ အကယ်၍ ော်တော်ဘုတ်တစ်စီး ပြုလုပ်ရန်အတွက် စိုက်ထုတ်ရသည့် လုပ်အား ာဏသည် ကားတစ်စီး ပြုလုပ်ရန်အတွက် စိုက်ထုတ်ရသည့် လုပ်အား ာဏ၏ နှစ်ဆရှိမည်ဆိုက၊ မော်တော်ဘုတ်သည် ကားထက် နှစ်ဆမျှ န်ဖိုးရှိမည်ဖြစ်ပြီး၊ အကယ်၍ မော်တော်ဘုတ်ပြုလုပ်ရာ၌ သုံးစွဲရသည့် ပ်အားပမာဏသည် ကားပြုလုပ်ရာမှာထက် သုံးဆရှိမည်ဆိုက ော်တော်ဘုတ်သည် ကားထက် သုံးဆမျှ တန်ဖိုးရှိမည် ဟူ၍ ဖြစ်သည်။

ဤတန်ဖိုးသီအိုရီအရ ဆင့်ပွားသက်ရောက်သည့် အရေးကြီးသော ချက်တစ်ရပ်က ကုန်ပစ္စည်းတို့၏ နှိုင်းရတန်ဖိုး (ဈေးနှုန်း) တို့သည် တ်လုပ်မှုဖြစ်စဉ်နှင့် သုံးစွဲသည့် နည်းနာတို့အပေါ်တွင်သာ လုံးလုံး းလျား မူတည်နေသည်ဟု ကောက်ချက်ချနိုင်ခြင်း ဖြစ်သည်။ ဤအမြင် ရမူ ကားနှင့် မော်တော်ဘုတ်တို့အတွက် ဝယ်လိုအား မည်၍မည်မျှရှိ ကြသနည်း ဟူသောအချက်သည် လုံးဝ အရေးမပါ၊ သူတို့ကို ဘယ်နည်း ယ်ပုံ ထုတ်လုပ်ရသလဲ၊ ထုတ်လုပ်ရာ၌ လုပ်အား မည်မျှစီ စိုက်ထုတ် သလဲ ဆိုတာသာ ပဓာနဖြစ်နေသည်။

သို့သော်၊ ရီကာဒိုက လုပ်အားတန်ဖိုးသီအိုရီကို အပြင်းမဲ့ ခံယူ

ခဲ့သည်တော့ မဟုတ်ပေ။ သူက ကုန်ပစ္စည်းများ ထုတ်လုပ်ရာ၌ ပစ္စည်း
အမျိုးအမည်ကို လိုက်၍၊ ယင်းအတွက် စိုက်ထုတ်ရသည့် လုပ်အားနှ
ငွေရင်းတို့၏ ပါဝင်မှု အချိုးအဆ (ဝါ) မတည်ရင်းနှီးမှုပုံသဏ္ဍာန် (capi
structure) များ ကွာခြားကြောင်းလည်း သိမြင်ကာ တန်ဖိုးတွက်ရ
ထည့်သွင်းစဉ်းစားခဲ့သည်။ ဥပမာအားဖြင့် ကုန်ပစ္စည်းနှစ်မျိုး ထုတ်လုပ်ရ
လုပ်အားနာရီ ၁၀၀၀ စီ အညီအမျှ ကုန်ကျကြသည် ဆိုသော်လည်
အကယ်၍ ပစ္စည်းတစ်ခုက သွယ်ဝိုက်လုပ်အား (စက်ယန္တရား) အများ
အပြား ထည့်ဝင်သုံးစွဲထားရမည်ဆိုက ၎င်းတို့နှစ်ဦးအတွက် ထုတ်လု
ကုန်ကျစရိတ်များမှာ တူညီနိုင်တော့မည် မဟုတ်။ အကြောင်းမူ၊ ပထ
တစ်မျိုး၌ တိုက်ရိုက်လုပ်အားခများကိုသာ တွက်ချက်ရန် ဖြစ်သော်လည်
ဒုတိယကုန်ပစ္စည်းအတွက်မူ တိုက်ရိုက်လုပ်အားတို့အတွက် လုပ်ခမျ
အပြင်၊ သုံးစွဲသည့် စက်ယန္တရားများထဲတွင် ထည့်ဝင်ခဲ့ရသော ယ
လုပ်အားအရင်းအနှီးများအတွက် အတိုးတွက် (interest cost) ကိုလည်
ထည့်တွက်စရာ ရှိသောကြောင့် ဖြစ်ကြောင်း သူ ရှုမြင်ခဲ့သည်။

ရီကာဒိုက ကုန်ပစ္စည်းတစ်ခု ထုတ်လုပ်ရာ၌ အသုံးပြုရသည်
ငွေရင်းနှင့် လုပ်အားတို့သည် ညီတူညီမျှလောက်ပင် ရှိသည် ဟုမြင်သည်
ထို့ကြောင့်ပင်၊ ကုန်ပစ္စည်းတစ်ခုအတွက် စိုက်ထုတ်ရသည့် လုပ်အ
ပမာဏသည် ယင်း၏တန်ဖိုးကို ယေဘုယျ ချင့်တွက်ခန့်မှန်းနိုင်သည်
အရာတစ်ခု ဖြစ်သည်ဟူ၍ သူခံယူခြင်း ဖြစ်သည်။ သို့သော်၊ ယင်းလုပ်အ
ပမာဏတို့သည် ကုန်ပစ္စည်းတို့၏ နှိုင်းယှဉ်ဈေးနှုန်း (relative price
များကို ပြဋ္ဌာန်းနိုင်သည့် ပြည့်စုံနိုင်လုံသည့် တိုင်းတာချက်များ ဖြစ်သည်
ဟူ၍ကား သူ မခံယူခဲ့ပေ။

❖

ရီကာဒို၏ အယူအဆများသည် နောင်ခေတ် စီးပွားရေးပညာရှ
တို့အပေါ် များစွာလွှမ်းမိုးခဲ့သည်။

၁၈ ရာစုနှောင်းပိုင်းမှသည် ၁၉ ရာစုနှောင်းပိုင်းထိ ရှည်လျား
သည့် ကျမ်းရိုးဘောဂဗေဒ သို့မဟုတ် ဘောဂဗေဒဂန္ထဝင် (classical
economics) ခေတ်တွင် အထင်ရှား အကြီးကျယ်ဆုံး ပညာရှင်ကြီး သုံးဦး
မှာ၊ ယင်းအနက် ရီကာဒိုသည် တစ်ဦးအပါအဝင်ဖြစ်၍ ကျန်နှစ်ဦးမှာ
အဒမ်စမစ်နှင့်၊ သူ့နောက်ကလာသူ ကားလ်မာ့က်(စ)
ဖြစ်ကြောင်း သုတေသီတို့ ဆိုစမှတ်ပြုကြပါသည်။

# အင်တွမ်း ဩဂတ်စတင်း ကိုးနိုး
## (၁၈၀၁ – ၇၇)



အင်တွမ်းကိုးနိုး (Antoine Augustin Cournot) က ယနေ့ခေတ်ရှိ မိုက္ကရိုဘောဂဗေဒ (microeconomics) ဘာသာရပ်၏ ကဏ္ဍများအပြားကိုပင် တီထွင်ဖော်ထုတ်ခဲ့သူ ဖြစ်သည်။ သူသည် ဝယ်လိုအားမျဉ်းကွေး (demand curve) ဟူသည်ကို စတင်ရေးဆွဲခဲ့သည့် စီးပွားရေးပညာရှင် ဖြစ်သကဲ့သို့၊ ဈေးကွက်၏ ဖွဲ့စည်းမှုပုံသဏ္ဌာန်က ဈေးနှုန်းအပေါ်မည်သို့သက်ရောက်ပုံ အကြောင်းကိုလည်းကောင်း၊ ဈေးကွက်အတွင်းပြိုင်ဆိုင်မှုအခြေအနေအထား မည်သို့ရောက်ရှိပုံ အကြောင်းကိုလည်းကောင်း ဦးစွာပထမ ရှင်းလင်းစိစစ်ပြခဲ့သူလည်း ဖြစ်သည်။ သို့သော်၊ ကိုးနိုးအား လူအများဆုံး သိရှိကြသည်က၊ လက်လှည့်ရောင်းဝယ်မှု (arbitrage) ဖြစ်စဉ်နှင့် ကုမ္ပဏီနှစ်ခုသာ အပြိုင်ရှိသည့် လုပ်ငန်းစုတစ်ခုအတွင်း ဈေးနှုန်းသတ်မှတ်ပုံ ဖြစ်စဉ်တို့ကို ခွဲခြမ်းစိစစ်ပြခြင်းများနှင့် စပ်လျဉ်း၍ ဖြစ်သည်။

❖

ကိုးနိုးကို ၁၈၀၁ ခုနှစ်တွင် ပြင်သစ်ပြည် ဒီးဇွန်မြို့အရှေ့ဘက် ဂရေးမြို့ကလေး၌ မွေးဖွားသည်။ မြို့ရှိ အထက်တန်းကျောင်းတွင် အသ ၁၅ နှစ် အရွယ်ထိ ပညာသင်ကြားပြီးနောက်၊ ဥပဒေပညာနှင့် သင်္ချာပညာ တို့ကို မိမိဘာသာ လေးနှစ်တာမျှ လေ့လာဆည်းပူးသည်။ ၁၈၂၁ ခုနှစ်တွ ပါရီမြို့ရှိ အဆင့်မြင့်ဆရာဖြစ်သင်ကောလိပ်သို့ တက်ရောက်ခွင့်ရသည် သို့သော်၊ နိုင်ငံရေးပြဿနာများကြောင့် ၎င်းကျောင်းကို ပိတ်ရသည့်အခါ ပါရီမှာပင်ရှိသည့် ဆော်ဘွန်းကောလိပ်သို့ ပြောင်းရွှေ့သင်ကြားခဲ့သည်

၁၈၂၃ ခုနှစ်တွင် ဘွဲ့ရရှိပြီး၊ ၎င်းနောက် ၁၀ နှစ်မျှကာလအတွင်း ကိုယ်ရေးအတ္ထုပ္ပတ္တိတစ်ခု ရေးသားပြုစုနေသည့် ပြင်သစ်စစ်ဗိုလ်ချုပ်ကြီး တစ်ဦးထံတွင် စာပြုလက်ထောက်အဖြစ် လုပ်ကိုင်ခဲ့သည်။ ၎င်းအလုပ် ပေါ့ပေါ့ပါးပါး အချိန်များများရသည့် အလုပ်ဖြစ်ရာ သည်အခွင့်အရေး သူ အပြည့်အဝအသုံးချသည်။ ထိုကာလအတွင်း နက္ခတ္တဗေဒ (astro- nomy) ဆိုင်ရာ စာတမ်းတစ်စောင်ကိုလည်းကောင်း၊ မက္ကင်းနစ်ပညာ ဆိုင်ရာ ပါရဂူဘွဲ့စာတမ်းတစ်စောင်ကိုလည်းကောင်း ပြုစုနိုင်ခဲ့ရုံမက ဥပဒေပညာဘွဲ့တစ်ခုပါ သူ ရရှိခဲ့သည်။ ထိုကာလအတွင်းမှာပင် သင်္ချာ ဆိုင်ရာ စာတမ်းများလည်း ရေးသားခဲ့ရာ၊ ပြင်သစ်သင်္ချာပညာရှင်များ လောက၌ ဂယက်ရိုက် လှုပ်ရှား လူသိများခဲ့ပြီး၊ နောက်ပိုင်း၌ လီယွန်း တက္ကသိုလ်တွင် စိစစ်မှုပညာ (analysis) နှင့် မက္ကင်းနစ်ပညာဆိုင် ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။

ကိုးနိုးက သင်္ချာဘက်တွင် ထူးချွန်ရုံမက အုပ်ချုပ်ရေးပိုင်းတွ လည်း အထူး ကျွမ်းကျင်လိမ္မာသူတစ်ဦးဖြစ်ရာ၊ မကြာမီပင် ဂရင်းနိုဘ သိပ္ပံကျောင်း၏ ကျောင်းအုပ်ကြီး ဖြစ်လာသည်။ နောက်ပိုင်း၌ ပါရီမြို့တေ ပညာရေးမှူးချုပ်၊ ဒီးဇွန်တက္ကသိုလ် ပါမောက္ခချုပ် စသည်တို့အပါအဝ အုပ်ချုပ်ရေးပိုင်းဆိုင်ရာ ရာထူးတာဝန်အတော်များများပင် ထမ်းဆောင် ရခဲ့ပြီး၊ ပြင်သစ်ဂုဏ်ထူးဆောင် တပ်ဖွဲ့တွင်လည်း ကွန်မင်ဒါအဆ ချီးမြှင့်ခြင်း ခံရသည်။



၁၈၆၂ ခုနှစ်တွင် အုပ်ချုပ်ရေးပိုင်းမှ အနားယူပြီး ပါရီတွင် အခြေချကာ သုတေသနကျမ်းပြု အလုပ်၊ ပုံနှိပ်ထုတ်ဝေသည့် အလုပ်များကို ကိုက်လုပ်ကိုင်ရန် သူ စီစဉ်သည်။ သို့သော် သည်အချိန်၌ အမြင်အာရုံက အတော်ပင် ချို့ယွင်းခဲ့ပြီဖြစ်ရာ၊ အငြိမ်းစားယူပြီးနောက်တွင် ထိထိ ရောက်ရောက် များများစားစား ရေးသားပြုစုနိုင်ခြင်း မရှိတော့ပေ။

❖

စောစောပိုင်းကာလ ကိုးနိုး ရေးသားထုတ်ဝေခဲ့သည့် အကြောင်း အရာများက သင်္ချာပညာနှင့် စပ်လျဉ်း၍ ဖြစ်သည်။ နောက်တွင် သူက တွေးအခေါ်ဘက်၌ စိတ်ဝင်စားလာပြီး၊ သမိုင်းဒဿနနှင့် သိမှုဆိုင်ရာ သီအိုရီများအကြောင်း ရေးသားခဲ့သည်။ သည့်နောက်တွင်မှ စီးပွားရေး ပညာဘက်သို့ သူ ရောက်ရှိလာခဲ့ခြင်း ဖြစ်သည်။

စီးပွားရေးပညာဘက်တွင် သူ ပြုစုခဲ့သည့် အဓိက အရေးပါဆုံး ကျမ်းက၊ ၁၈၃၈ ခုနှစ်တွင် ပြင်သစ်ဘာသာဖြင့် ပုံနှိပ်ထုတ်ဝေသည့် **ဓန သီအိုရီနှင့်စပ်လျဉ်းသည့် သင်္ချာပိုင်းဆိုင်ရာ မူသဘောများအကြောင်း သုတေသနပြုချက်များ** (Researches into the Mathematical Principles of the Theory of Wealth) အမည်ရှိကျမ်း ဖြစ်သည်။ သည်ကျမ်းက၊ စီးပွားရေးဆိုင်ရာ ခွဲခြမ်းစိတ်ဖြာရာ၌ ဒစ်ဖရင်ရှယ် ကဲကုလသင်္ချာကို ပထမဆုံး စတင်သုံးစွဲသည့် ကျမ်းဖြစ်သကဲ့သို့၊ လုပ်ငန်း များတို့ မိမိကုန်ပစ္စည်းအား ဈေးနှုန်းသတ်မှတ်ကြပုံ သဘောကို ကဲကုလပညာသုံး၍ စိစစ်ပြသည့် ပထမဆုံးကျမ်းလည်း ဖြစ်သည်။

သို့သော်၊ အံ့ဩဖွယ်ကောင်းသည့် အချက်က၊ ကိုးနိုး ကနဦး ထုတ်တင်ပြလာသည့်၊ ထိုကာလအဖို့ လုံးဝအသစ်ဖြစ်သော မိုက္ကရို ဗေဒဆိုင်ရာ စိတ်ဖြာစိစစ်မှုများကို သူနှင့်ခေတ်ပြိုင်ပုဂ္ဂိုလ်တို့ စိတ်မဝင်စားကြခြင်း ဖြစ်သည်။ စီးပွားရေးပညာ သမိုင်းဆရာ ကမူ၊ ကိုးနိုး၏ တင်ပြချက်များကို တစ်ပါးသူတို့ စိတ်မဝင်စားကြခြင်းမှာ

ထိုကာလ အခြားစီးပွားရေးပညာရှင်တို့ အနေနှင့် ကဲကုလသင်္ချာ လည်းကောင်း၊ စီးပွားရေးဆိုင်ရာ အခြေခံမူများနှင့် စပ်လျဉ်း၍ ကဲကုလ ပညာက မည်မျှ ရှင်းလင်း သုံးသပ်ပြနိုင်ကြောင်း ကိုလည်းကောင်း နားမလည် သဘောမပေါက်ကြသောကြောင့် ဖြစ်သည်ဟု ရှုမြင်ကြသည်။ သို့သော်၊ တချို့သုတေသီများကမူ၊ သည်ကိစ္စ၌ ကိုးနိုးကိုပင် အပြစ်တင် ကြသည်။ ကိုးနိုးအနေနှင့် သူ၏ သင်္ချာဘောဂဗေဒပညာကို ထိုခေတ် ကာလ စီးပွားရေးပြဿနာများအား သုံးသပ်ဆင်ခြင်ရာ၌ တကယ် လက်တွေ့ သုံးစွဲပြသခြင်း မရှိခဲ့သောကြောင့်သာ သူ့အယူအဆများကို အများ စိတ်မဝင်စားခဲ့ခြင်း ဖြစ်သည်ဟု ၎င်းတို့က ကောက်ချက်ချကြသည်။

...သုတေသနပြုချက်များကျမ်းကို ပုံနှိပ်ထုတ်ဝေပြီး ၂၅ နှစ် အကြာ ၁၈၆၃ ခုနှစ်တွင် သူ၏ စီးပွားရေးအမြင်များကို တစ်ကြိမ် ထပ်၍ ရှင်းလင်းတင်ပြရန်အတွက် **မနုဿအိုရိ၏ အခြေခံသဘောများ** အမည်ရှိ ကျမ်းတစ်အုပ် (ပြင်သစ်ဘာသာအမည် Principes de la théorie des richesses) ကို ပြုစုထုတ်ဝေပြန်သည်။ သည်အကြိမ်၌မူ ပရိသတ်များများ နားလည်ဖတ်ရှုနိုင်ရန် ရည်ရွယ်လျက် သင်္ချာကဏ္ဍအားလုံးကို ချန်လှပ် ထားခဲ့သည်။ သို့သော် သည်စာအုပ်သည်လည်း သူနှင့်ခေတ်ပြိုင်များအပေါ် ဆွဲဆောင်နိုင်စွမ်း မရှိခဲ့။ ကိုးနိုး လက်မလျှော့သေးပဲ၊ တတိယနှင့် နောက်ဆုံး အားထုတ်ချက်အဖြစ် Revue sommaire des doctrines économiques (**စီးပွားရေးအယူအဆများ သုံးသပ်ချက်အကျဉ်း**) အမည်ရှိ ကျမ်းကို ရေးသားပြုစုသည်။ ၁၈၇၇ ခုနှစ်တွင် ထုတ်ဝေသည့် ၎င်းစာအုပ်၌ သူ၏ အယူအဆများကို အရှင်းလင်း အလွယ်ကူဆုံး ဖြစ်အောင် သူ ကြိုးစားရေးသားခဲ့သည်။ သို့သော် ၎င်းမှာလည်း ယခင်စာအုပ်များနည်းတူ စိတ်ဝင်စားသူ နည်းပါးခဲ့ပေသည်။

ခေတ်ပြိုင်တို့ စိတ်မဝင်စားကြသော်လည်း၊ နောက်ပိုင်း ပေါ်ပေါက် သည့် စီးပွားရေးပညာရှင်တို့ကမူ ကိုးနိုးအားသူ၏ တွေ့ရှိချက်များအတွက် လေးစားသိမှတ်မှုပြု ကြပါသည်။ ကိုးနိုးဖော်ထုတ်သဖြင့် အသစ်တိုး လာသည့် အရာများထဲတွင် မိုက္ကရိုဘောဂဗေဒဆိုင်ရာ အသိသညာ



(concept) များ၊ ခွဲခြမ်းစိတ်စစ်ပုံနည်းနာများ ပါဝင်သည်။ ယင်းတို့အနက် အထင်ရှား အရေးပါဆုံးက ဝယ်လိုအား စိတ်စစ်ချက်၊ လုပ်ငန်းကုန်ကျစရိတ် နှင့် ထုတ်လုပ်ရေး အဆုံးအဖြတ် စိတ်စစ်ချက်၊ လက်လှည့်ရောင်းဝယ်ခြင်း ကြောင့် ကမ္ဘာအနှံ့အပြား၌ ကုန်ပစ္စည်းဈေးနှုန်းတို့ နီးစပ်တူညီနေနိုင်ပုံ အကြောင်း ရှင်းလင်းချက်၊ စသည်များဖြစ်သည်။

❖

ကိုးနိုးက လျှောဆင်းဝယ်လိုအားမျဉ်းကွေး (downward sloping demand curve) ဟူသည်ကို ပထမဆုံး အဓိပ္ပာယ် ဖွင့်ဆို ဖော်ပြ သည့် စီးပွားရေးပညာရှင် ဖြစ်သည်။ မည်သည့်ကုန်ပစ္စည်းတစ်ခုအတွက် မဆို ဝယ်လိုအားပမာဏသည် ယင်း၏ ဈေးနှုန်းပေါ်၌ မူတည်ကြောင်း၊ ဈေးနှုန်းမြင့်တက်လျှင် ဝယ်လိုအားလျော့ကျ၍၊ ဈေးနှုန်းကျသော် ဝယ်လိုအား တက်လာကြောင်း ကောက်ချက်ချပြီး၊ ယင်းအချက်တွင် အခြေတည်ကာ ဝယ်လိုအားနှင့် ဈေးနှုန်းတို့ ဆက်စပ်ဖြစ်ပေါ် ပုံကိုပြသည့် ဝယ်လိုအားမျဉ်းကွေးကို သူ ရေးဆွဲဖော်ပြသည်။ သူပြသည့်ပုံမှာ ယနေ့ခေတ် ဝယ်လိုအားသရုပ်ပြပုံ (demand diagram) များနှင့် မတူပေ။ ယနေ့သရုပ်ပြပုံများတွင် ဈေးနှုန်းကို ထောင်လိုက်ဝင်ရိုး၌လည်းကောင်း၊ ဝယ်လိုအားပမာဏ (အရေအတွက်) ကို ပြင်ညီဝင်ရိုး၌လည်းကောင်း ထားလေ့ရှိသည်။ ကိုးနိုးက သည်နှစ်ချက် ဆက်စပ်နိုင်းယှဉ်သည့် နေရာတွင် ဈေးနှုန်းသည် လွတ်လပ်ကိန်းရှင် (independent variable) ဖြစ်၍ ဝယ်လိုအားပမာဏသည် မှီခိုကိန်းရှင် (dependent variable) ဖြစ် ကြောင်း သတိပြုမိသည်။ ထို့ကြောင့် သူ့သရုပ်ပြပုံတွင် ပစ္စည်းအရေအတွက် (ဝယ်လိုအား) ကို ထောင်လိုက်ဝင်ရိုး၌ထားပြီး၊ ဈေးနှုန်းကို ပြင်ညီဝင်ရိုး၌ ထားပေသည်။

ထို့နောက် ဆက်လက်၍ ကိုးနိုးက၊ ဝယ်လိုအားနှင့် ရောင်းလိုအား တူညီသည့်နေရာ၌ မျှခြေဈေးနှုန်း (equilibrium price) ဟစ်ခုတည်

ရှိကြောင်း ဖော်ပြသည်။ အကယ်၍ ကုန်ပစ္စည်းတစ်ခုအတွ
ဝယ်လိုအားသည် ရောင်းလိုအားထက် ပိုနေက ဈေးနှုန်းတက်မ
ဖြစ်ကြောင်း၊ အကြောင်းက ဝယ်လိုအားများသည့်အခါ သိုလှောင်ရုံမှ
အတွင်း ကုန်ပစ္စည်းလက်ကျန် နည်းပါးလာသဖြင့် ထုတ်လုပ်သူတို့
မိမိတို့ပစ္စည်းကို ဈေးတင်ရောင်းမှ တော်မည်ဟု စဉ်းစားလာသောကြော
ဖြစ်ကြောင်း၊ ဈေးတက်လာသည့်အခါ၌မူ ဝယ်လိုအားလျော့နည်းလာ
၎င်းနောက်၌ ရောင်းအားနှင့်ဝယ်အား ညီမျှသည့် အနေအထားလော
ရောက်လာမည်ဖြစ်ကြောင်း သူက ရှင်းပြသည်။ တစ်ဖက်က စဉ်းစ
လျှင်လည်း၊ အကယ်၍ ရောင်းလိုအားက ဝယ်လိုအားထက် များနေမည
(ပစ္စည်းတွေ များများလုပ်ထားပြီး ဝယ်သူ သိပ်မရှိ ဖြစ်နေမည်) ဆိုလျှ
မိမိပစ္စည်းကို ဈေးလျှော့ရောင်းမှ ဖြစ်တော့မည့်အကြောင်း ထုတ်လုပ်သူမျာ
သိကာ ဈေးနှုန်းချလိမ့်မည်၊ ဈေးနှုန်းချိုလာလျှင် ဝယ်သူများလာ
ရောင်းလိုအားနှင့်ဝယ်လိုအား ညီမျှသော အနေအထားသို့ ပြန်လည်ချဉ်းက
လာမည်ဖြစ်ကြောင်း သူကဆိုသည်။



❖

ကိုးနီးက လုပ်ငန်းကုန်ကျစရိတ် (business cost) နှင့် စပ်လျဉ်း
သည့် စီးပွားရေးပညာဆိုင်ရာသိမှတ်ချက် အတော်များများကိုလည်း တွေ့
ဖော်ထုတ်ပေးခဲ့သူ ဖြစ်သည်။ ကုန်ကျစရိတ်ကို ပုံသေကုန်ကျစရိတ် (fix
cost) နှင့် ပြောင်းလဲနေသော ကုန်ကျစရိတ် (စရိတ်ရှင်) (variable cos
ဟူ၍ သူ နှစ်မျိုးခွဲခြားခဲ့သည်။ ဥပမာ၊ အရက်ချက်စက်ရုံတစ်ခု၌ အဆော
အအုံငှားရမ်းခနှင့် အာမခံကြေး စသည့်စရိတ်များသည် စက်ရုံကို တစ်စိတ်
တစ်ဒေသ လည်ပတ်သည်ဖြစ်စေ အပြည့်အဝ လည်ပတ်သည် ဖြစ်စေ
အပြောင်းအလဲမရှိ တစ်သမတ်တည်း ကုန်ကျသည့် ပုံသေကုန်ကျစရိတ်မျာ
ဖြစ်ပြီး၊ ကုန်ကြမ်းပစ္စည်း ဝယ်ယူခြင်း၊ စက်အစိတ်အပိုင်းများ ဖြည့်တင်
လဲလှယ်ခြင်း စသည်တို့အတွက် ကျသင့်သည်များနှင့်၊ လုပ်သားတို့အတွ



ပ်ခငွေများမှာမူ စက်ရုံ၏ ကုန်ထုတ်လုပ်မှုပမာဏ အနည်းအများပေါ်တွင်
တည်၍ တိုးနိုင်လျော့နိုင်သည့် စရိတ်ရှင်များ ဖြစ်သည်။ ဥပမာ၊
ရက်ချက်စက်ရုံအနေနှင့် ကုန်ထုတ်လုပ်မှု တိုးမြှင့်မည်ဆိုလျှင် ကုန်ကြမ်း
ပိုဝယ်ယူရမည်၊ ပုလင်းခွံ ပုလင်းဖုံးများ ဖြည့်တင်းရမည်၊ လုပ်သား
များလည်း တိုးတက်ငှားရမ်းရမည်ဖြစ်ရာ စရိတ်ရှင်အပိုင်းတွင် တက်လာ
ည်။ သို့သော် မူသေစရိတ်များဖြစ်သည့် အဆောက်အအုံငှားရမ်းခနှင့်
ာမခံကြေး စသည်များကတော့ မူလအတိုင်း တည်ရှိမည် ဖြစ်သည်။

ကိုးနီးက လုပ်ငန်းရှင်တို့အနေဖြင့် ထုတ်လုပ်မှု အပြောင်းအလဲ
ပါတွင် မူတည်ကာ ကုန်ကျစရိတ်နှင့် ဝင်ငွေတို့တွင် မည်သို့အပြောင်းအလဲ
တက်အကျ ရှိနိုင်ကြောင်း ချင့်တွက်သိရှိရန် လိုအပ်သည် ဟုမြင်သည်။
ို့ကြောင့်၊ ယင်းကိစ္စနှင့် ဆက်စပ်လျက် အစွန်းထွက်စရိတ်၊ အစွန်းထွက်
င်ငွေ စသည့်အကြောင်းများကို သူ ဖွင့်ဆိုရှင်းလင်းပြသည်။ အစွန်းထွက်
ရိတ် (marginal cost) ဆိုသည်မှာ ထုတ်ကုန်တစ်ယူနစ် တိုးတက်
ထုတ်လုပ်ရန်အတွက် (ဥပမာ၊ အရက်ချက်စက်ရုံ၌ နောက်ထပ် အရက်
တစ်သေတ္တာ တိုး၍ ထုတ်လုပ်ရန်အတွက်) ထပ်တိုးကုန်ကျမည့် စရိတ်ကို
ဆိုခြင်းဖြစ်ပြီး၊ အနေအထား အမျိုးမျိုးကိုလိုက်ကာ ယင်းအစွန်းထွက်
ကုန်ကျစရိတ်သည် နဂိုမူလတစ်ယူနစ် ထုတ်လုပ်ကုန်ကျစရိတ်ထက်
နိုင်သည်၊ လျော့နိုင်သည်၊ မပြောင်းလဲပဲလည်း ရှိနိုင်သည် ဟုဆိုသည်။
အစွန်းထွက်ဝင်ငွေ (marginal revenue) ဟူသည်ကမူ ကုန်ပစ္စည်း
တစ်ယူနစ် တိုးထုတ်သဖြင့် တိုး၍ရရှိလာမည့် ဝင်ငွေကို ဆိုခြင်းဖြစ်သည်။

ယင်းသတ်မှတ်ချက်နှစ်ခုကို အသုံးပြုကာ ကိုးနီးက လုပ်ငန်းစု
အတွင်း ပြိုင်ဘက်မရှိ တစ်ဦးတည်းလုပ်ခွင့်ရနေသည့် လက်ဝါးကြီးအုပ်
လုပ်ငန်းရှင် (monopolist) တစ်ဦးအနေနှင့် အမြတ်အများဆုံးရအောင်
မည်သို့မည်ပုံ ဆောင်ရွက်နိုင်ပုံအကြောင်းကို ရှင်းပြသည်။ သူက ၎င်း
လုပ်ငန်းမျိုးတစ်ခုသည် အစွန်းထွက်ကုန်ကျစရိတ်နှင့် အစွန်းထွက်ဝင်ငွေတို့
ညီမျှသော အနေအထားမျိုးတွင် လည်ပတ်ထုတ်လုပ်နေပြီး၊ ကုန်ပစ္စည်းအ
ဈေးနှုန်းကိုလည်း ယင်းအနေအထားတွင် ရှိသည့် ဝယ်လိုအားပမာဏနှင့်

ညီညွတ်အောင် ချိန်ဆသတ်မှတ်မည်ဆိုက လုပ်ငန်းမှ အကျိုးအမြတ်
အများဆုံးရရှိနေမည် ဖြစ်ကြောင်း တွက်ပြသည်။ ဥပမာ၊ အရက်ချက်
လုပ်ငန်းကို တစ်ဦးတည်း လုပ်ခွင့်ရနေသူ အနေနှင့် နောက်ထပ် အရက်
တစ်သေတ္တာ တိုးထုတ်သဖြင့် ပိုမိုကျသင့်လာမည့် အစွန်းထွက်ကုန်ကျ
စရိတ်သည် ယင်းကြောင့် တိုးလာမည့် အစွန်းထွက်ဝင်ငွေထက် ပိုနေမည်
ဆိုက ယင်းကို မထုတ်သင့်၊ အကြောင်းမူ ယင်းအတွက် ထုတ်လုပ်စရိတ်
မကျေ အရှုံးသာပေါ်နေသောကြောင့် ဖြစ်သည်။ အကယ်၍ ဝင်ငွေက
စရိတ်ထက် ပိုမည်ဆိုလျှင်မူ ယင်းတစ်သေတ္တာကြောင့် နောက်ထပ်
အမြတ်ငွေ တိုးစရာရှိသဖြင့် ဆက်ထုတ်သင့်သည်၊ စသဖြင့် သူကဆိုသည်။
လုပ်ငန်းရှင်အနေနှင့် အစွန်းထွက်ကုန်ကျစရိတ်နှင့် အစွန်းထွက်ဝင်ငွေတို့
ချင့်တွက်ကာ ကုန်ပစ္စည်းအရေအတွက် မည်ရွေ့မည်မျှ ထုတ်လုပ်မည်
ချိန်ဆသတ်မှတ်သည်နှင့် တစ်ပြိုင်တည်းပင်၊ ကုန်ပစ္စည်းအား မည်သည့်
ဈေးနှုန်းဖြင့် ရောင်းချမည်ကိုပါ ဆုံးဖြတ်ရမည် ဖြစ်သည်။ ဤနေရာ
ဝယ်လိုအားမျဉ်းကွေးက အရေးပါလာသည်။ လုပ်ငန်းရှင်အနေနှင့် မိမိ
ပစ္စည်းအတွက် ဝယ်လိုအား အနေအထား၊ မိမိထုတ်လုပ်ရန် လျာထားသည့်
အရေအတွက်၊ မည်သည့်ဈေးနှုန်းလောက်ထားလျှင် ၎င်းအရေအတွက်
ကုန်အောင် စားသုံးသူတို့ ဝယ်ယူကြမည်လဲဟူသည်ကို ဝယ်လိုအား
မျဉ်းကွေးတွင် ကြည့်ရှုတွက်ချက်ပြီး၊ ၎င်းအတိုင်း ဈေးနှုန်းသတ်မှတ်ခြင်း
ဖြင့် လုပ်ငန်းမှ ရနိုင်သမျှ အမြင့်ဆုံးအကျိုးအမြတ်ကို ရရှိမည် ဖြစ်သည်။

လက်ဝါးကြီးအုပ်လုပ်ခွင့် ရထားသော လုပ်ငန်းရှင်၏ အခြား
တစ်ဖက်စွန်းတွင် ပြိုင်ဆိုင်မှုအပြည့်ရှိသော (perfect competition)
ဈေးကွက်မျိုးအတွင်း လုပ်ကိုင်နေကြသူများ ရှိသည်။ ၎င်းပုဂ္ဂိုလ်တို့၏
လုပ်ငန်းသဘာဝကိုလည်း ကိုးနိုးက ရှင်းပြသည်။ လုပ်ငန်းစုတစ်ခုအတွင်
ပြိုင်ဆိုင်မှုအပြည့်ရှိရန်အတွက် သီးခြားလုပ်ငန်းရှင်အများ ရှိရန်လိုသည်
ထို့ပြင်၊ ယင်းလုပ်ငန်းစုနယ်ပယ်အတွင်းသို့ လုပ်ငန်းရှင်သစ်များ ဝင်မလာ
နိုင်အောင် တားဆီးထားခြင်းမျိုးလည်း မရှိဖို့လိုသည်။ တားဆီးသည်
ဆိုရာ၌ အစိုးရ စည်းမျဉ်းစည်းကမ်းများအရ ကန့်သတ်ထားခြင်းမျိုးအပြင်



ုပ်ငန်းအခြေတည်စရိတ် ကြီးမားလွန်းခြင်း စသည့် အဟန့်အတားမျိုး
ည်း ပါဝင်သည်။ ယင်းသို့ တားဆီးမှု မရှိ၊ အပြိုင်အဆိုင်သာ အပြည့်အဝ
ရှိနေသည့် လုပ်ငန်းစုထဲတွင်မူ ကုန်ပစ္စည်းရောင်းချသူတစ်ဦးချင်းတို့
အနေနှင့် မိမိရောင်းအားကို တိုးခြင်းလျှော့ခြင်းဖြင့် ဈေးကွက်တွင်း
င်းကုန်ပစ္စည်း၏ ဈေးနှုန်းကို တက်အောင်ကျအောင် ပြုလုပ်နိုင်စွမ်း
မရှိကြောင်း ကိုးနိုးက မှတ်ချက်ပြုသည်။

တစ်ဖန်၊ ဈေးကွက်အတွင်း ရောင်းသူနှစ်ဦးတည်း ရှိနေသည့်
နှစ်ဦးပြိုင်လက်ဝါးကြီးအုပ် (duopoly) အနေအထားမျိုးတွင် ရောင်းသူတို့
ကုန်ပစ္စည်းဈေးနှုန်းသတ်မှတ်ပုံ သဘောကိုလည်း သူ သုံးသပ်ပြသည်။
နှစ်ဦးပြိုင်လက်ဝါးကြီးအုပ်ဟူသည်၊ ဈေးကွက်အတွင်း တစ်ခုသော ကုန်
ပစ္စည်းကို လုပ်ငန်းရှင်နှစ်ဦးတည်းက အပြိုင် ထုတ်လုပ်ရောင်းချနေနိုင်
ကြသည်၊ ၎င်းတို့နှစ်ဦးလုံးပင် ဈေးကွက်၌ မိမိတို့ပစ္စည်းအတွက်
ဝယ်လိုအားပမာဏ မည်မျှရှိကြောင်း သိကြသည်၊ ၎င်းပစ္စည်းအတွက်
ထုတ်လုပ်ကုန်ကျစရိတ်များမှာလည်း နှစ်ဦးလုံး အတူတူလောက်ပင်
ရှိကြသည်၊ သို့သော် ဈေးကွက်တွင်း ၎င်းပစ္စည်း၏ ဈေးနှုန်းကို မူသေ
သတ်မှတ်ရန်ကား ၎င်းတို့တစ်ဦးချင်းအနေနှင့် လုံးဝမတတ်နိုင်ကြ၊ ဟူသော
အနေအထားမျိုး ဖြစ်သည်။

 အဲသည့်အနေအထားမျိုးတွင် လုပ်ငန်းရှင်တစ်ဦးက ဆုံးဖြတ်ချက်
တစ်ခုံတစ်ရာ ချမှတ်လုပ်ကိုင်လျှင် ယင်း၏ ဂယက်သည် နှစ်ဦးအပြိုင်
လုပ်ကိုင်နေသည့် ကုန်ပစ္စည်း၏ ဈေးနှုန်း ပေါ်တွင်လည်းကောင်း၊ တစ်ဖက်
လုပ်ငန်းရှင်၏ လုပ်ငန်းအစီအစဉ်များ ပေါ်တွင်လည်းကောင်း လွှမ်းမိုး
သက်ရောက်မှု ရှိပုံကို သူ ရှင်းပြသည်။ ဥပမာ၊ လုပ်ငန်းရှင်တစ်ဦးက
လုပ်ငန်းမှ ဝင်ငွေတိုးတက်ရရှိရန် ရည်ရွယ်၍ ထုတ်လုပ်မှုကို တိုးမြှင့်သည်
ဆိုပါစို့။ တိုးပွားလာသော မိမိကုန်ပစ္စည်းများအားလုံး ရောင်းထွက်စေရန်
အတွက် ဈေးနှုန်းကို သင့်တင့်စွာ သူချပေးရမည် ဖြစ်သည်။ သူက
ဈေးနှုန်းချသည့်အခါ သည်ပစ္စည်းတစ်မျိုးတည်းကိုပင် ထုတ်လုပ်ရောင်းချ
နေသည့် တစ်ဖက်လုပ်ငန်းရှင်မှာလည်း ဈေးကွက်ထဲတွင် မိမိ သက်လက်

ရပ်တည်ရှင်သန်နေနိုင်ရန်အတွက် မိမိပစ္စည်းကို ဈေးချလာရမည် ဖြစ်သည်။ သို့သော်၊ ဈေးချရုံနှင့်မပြီး၊ ဝင်ငွေမကျဖို့လည်း လိုသေးသည်ဖြစ်ရာ သူလည်း သူ့ကုန်ပစ္စည်းကို အရေအတွက် တိုးတက်ထုတ်လုပ်ရန် စီမံလာမည် ဖြစ်သည်။ ဒုတိယလုပ်ငန်းရှင်က ယင်းသို့ ထုတ်လုပ်မှု တိုးမြှင့်လာသည့်အခါ၊ ပထမလုပ်ငန်းရှင်အနေနှင့် စောစောက သူ ချထား ခဲ့သည့် ဈေးနှုန်းနှင့် ဆက်ရောင်း၍ အဆင်မပြေဖြစ်လာပြီး၊ ဈေးနှုန်းထပ်မံ ပြင်ဆင်ရန်နှင့် ပြောင်းလဲလာမည့် သူ့ဝင်ငွေအနေအထားကို ချင့်တွက်ကာ ဘယ်လောက်ထုတ်လုပ်လျှင် ကောင်းမည်လဲ စဉ်းစားဆုံးဖြတ်ဖို့ လိုလာ ပြန်သည်။ သူ၏ ဆုံးဖြတ်ဆောင်ရွက်မှုသည် ဒုတိယလုပ်ငန်းရှင်အပေါ် သက်ရောက်ပြန်ပြီး၊ ယင်း၏ ထပ်မံစဉ်းစားဆုံးဖြတ်ဆောင်ရွက်မှုကလည်း ပထမလုပ်ငန်းရှင်အပေါ် တစ်ဖန်ပြန်၍ သက်ရောက်လာပြန်မည်။ သို့သော် သည်အနေအထားသည် အဆုံးမရှိ အပြန်အလှန် ဆက်၍ဖြစ်ပေါ်နေမည် တော့ မဟုတ်ကြောင်း ကိုးနိုးက ရှင်းပြသည်။ အကြောင်းက၊ တစ်ချိန်တွင် လုပ်ငန်းရှင်နှစ်ဦးလုံးတို့ အနေနှင့် ထုတ်လုပ်မှုကို တိုးသည့်နည်းနှင့်ဖြစ်စေ လျှော့သည့်နည်းနှင့်ဖြစ်စေ မိမိတို့၏ ဝင်ငွေ (အမြတ်အစွန်း) တိုးတက် လာအောင် လုပ်၍မရသော အနေအထားတစ်ခုသို့ ရောက်ရမည် ဖြစ်သော ကြောင့်ဟု ဆိုသည်။ ယင်းအနေအထားကို နှစ်ဦးပြိုင်လက်ဝါးကြီးအုပ် လုပ်ငန်းတို့၏ မျှခြေအနေအထား (duopoly equilibrium) ဟု ခေါ်ပါသည်။



❖

ကိုးနိုး စိတ်ဝင်စားခဲ့သည့် နောက်ထပ်အရေးကြီးသော ကဏ္ဍ တစ်ရပ်က နိုင်ငံတကာကုန်ဈေးနှုန်းများ၊ တစ်နည်းအားဖြင့် နိုင်ငံခြားငွေ ဈေးနှုန်းများအကြောင်း ဖြစ်သည်။ ဈေးကွက်တစ်ခုနှင့်တစ်ခုအကြား လက်လှည့်ရောင်းဝယ်သည့်စနစ်က ဈေးနှုန်းများကွာခြားမှုလျှော့ပါးအောင် မတူညီသော ငွေကြေးများအကြား လဲလှယ်သည့်နှုန်းထားတို့ မျှခြေ



အနေအထားတွင် တစ်ပြေးညီ တည်ငြိမ်မှုရှိအောင် ဆောင်ရွက်ပေးကြောင်း ရှင်းပြသည်။

လက်လှည့်ရောင်းဝယ်မှု ဟူသည်က ကုန်ပစ္စည်းတစ်ခုကို တစ်နေရာ၌ ဝယ်ပြီး ထိုတစ်နေရာ၌ ရောင်းချကာ၊ ဈေးနှုန်းခြားနားမှု ပေါ်တွင် အကျိုးအမြတ်ရယူခြင်း ဖြစ်သည်။ ဥပမာ၊ မက္ကဆီကိုနိုင်ငံ၌ ပါးတစ်တောင်းလျှင် ၁ ဒေါ်လာ ဈေးပေါက်ပြီး၊ ကနေဒါနိုင်ငံ၌ ၁.၁ ါ်လာဈေး ပေါက်နေသည် ဆိုပါစို့။ မက္ကဆီကိုက စပါးကို ဝယ်ပြီး နေဒါ၌ ရောင်းလျှင် အမြတ်ရမည် ဖြစ်သည်။ သို့သော် သည်အတိုင်း န့်အသတ်မရှိ ဝယ်–ရောင်းနေနိုင်မည်တော့ မဟုတ်။ အကြောင်းက ဆီကိုတွင် စပါး အဝယ်လိုက်လာသည်နှင့်အမျှ ဈေးနှုန်းက တက်လိုက် ည် ဖြစ်ပြီး၊ ကနေဒါ၌လည်း စပါးအဝင်များလာသည်နှင့်အမျှ ဈေးနှုန်း လာမည် ဖြစ်သောကြောင့် ဖြစ်သည်။ ဤသို့၊ လက်လှည့်ရောင်းသမား bitrager) တို့၏ ဆောင်ရွက်မှုဖြင့် နိုင်ငံတကာ ဈေးကွက်တွင် နှုန်းတို့ ကွာခြားမှု လျော့ပါးကာ ညီညာမျှတနေရခြင်း ဖြစ်သည်။

စပါးရောင်းဝယ်ခြင်းနည်းတူ နိုင်ငံခြားငွေရောင်းဝယ်ရာ၌လည်း ထားတူ ဖြစ်ပေါ်သည်။ လက်လှည့်ရောင်းဝယ်သမားတို့က နိုင်ငံခြားငွေ နှုန်းများကို တစ်ကမ္ဘာလုံး တစ်ပြေးညီဖြစ်အောင် ထိန်းညှိပေးလျက် သည်။ ဥပမာ၊ ၁၉၉၆ ခုနှစ်က ဂျပန်ပြည်တွင် ဂျပန်ယန်းငွေ ၁၀၀ လျှင် ရိကန်ငွေ ၁ ဒေါ်လာဝန်းကျင်နှုန်း ဈေးပေါက်ပြီး၊ အင်္ဂလန်တွင်မူ တိန်ငွေ ၁ ပေါင်သည် အမေရိကန်ငွေ ၁.၅ ဒေါ်လာဝန်းကျင်နှုန်း က်၏။ ထို့ကြောင့် ယန်း၊ ဒေါ်လာ နှင့် ပေါင်ငွေ လဲလှယ်နှုန်းများ တွက်အောင်ဆိုလျှင် ဗြိတိန်ငွေ ၁ ပေါင်သည် ဂျပန်ယန်းငွေ ၁၅၀ နှင့် ဒိုးချင်းညီရမည်ဖြစ်ရာ ၎င်းအတိုင်းဖြစ်အောင် ငွေကြေးလက်လှည့် င်းဝယ်သူတို့က တာဝန်ယူထားသော သဘောရှိသည်။

ဘာကြောင့်နည်း။ ဥပမာအားဖြင့် ယန်း ၁၀၀ ကို ၁ ဒေါ်လာ ါင်ကို ၁.၅ ဒေါ်လာနှုန်း ပေါက်နေသည့်အချိန်၊ အင်္ဂလန်တစ်ခုတည်း က်ပြီး ၁ ပေါင် ယန်း ၂၀၀ နှုန်း အရောင်းအဝယ်ဖြစ်နေမည် ဆိုပါစို့၊

အမေရိကန်နေရာမှကြည့်လျှင်၊ ဂျပန်တွင် ယန်း ၁၀၀ ကို ၁ ဒေါ်
ပေးရပြီး၊ အင်္ဂလန်တွင် ယန်း ၁၀၀ ကို ၀.၇၅ ဒေါ်လာ (၇၅ ဆ
သာပေးရကြောင်း တွေ့ရမည် ဖြစ်သည်။ (ရှင်းရသော်၊ အင်္ဂလန်တွင် ယ
၂၀၀ ကို ၁ ပေါင်၊ ထို့ကြောင့် ယန်း ၁၀၀ ကို ပေါင်ဝက် ပေးရမည်
ပေါင်ကို အမေရိကန်ငွေဖြင့် ဝယ်မည်ဆိုလျှင် ၁ ပေါင်ကို ၁.၅ ဒေါ်
ထို့ကြောင့် ပေါင်ဝက်ကို ၀.၇၅ ဒေါ်လာ (ဝါ) ၇၅ ဆင့် ပေးရမည်
ထို့ကြောင့်အင်္ဂလန်တွင်ယန်း ၁၀၀ = ပေါင်ဝက် = ၇၅ ဆင့် ဖြစ်နေမည်
ထိုအခါ အမေရိကန်တို့အနေနှင့် အင်္ဂလန်တွင် ယန်းငွေတွေ ဝယ်
ဂျပန်တွင် ပြန်ရောင်းသောနည်းဖြင့် အကျိုးအမြတ် ရကြမည် ဖြစ်သ
ထိုသို့ ဝယ်ကြရောင်းကြသည့်အခါ (စပါးအရောင်းအဝယ်ကိစ္စမှာလို
အင်္ဂလန်၌ စောစောက ဈေးပေါနေခဲ့သော ဂျပန်ယန်းငွေသည် အဝယ်
သဖြင့် ဈေးတက်လာပြီး၊ ဂျပန်၌မူ အရောင်းများသဖြင့် ဈေးကျလာ
ဖြစ်ရာ ဈေးကွာခြားမှု တဖြည်းဖြည်း လျော့ပါးပြီး ကမ္ဘာအရပ်ရပ်မှာ
၎င်းငွေသုံးမျိုးတို့၏ ဈေးနှုန်းများ (ဝါ) ဖလှယ်နှုန်းများ တပြေး
တည်ရှိလာမည် ဖြစ်သည်။



❖

ကိုးနီးကား စီးပွားရေးပညာသမိုင်းတွင် သူနှင့် ထိုက်တန်သ
နေရာအဆင့်ကို ပြည့်ပြည့်ဝဝခံယူခွင့်မရခဲ့သည့် ပုဂ္ဂိုလ်တစ်ဦး ဖြစ်ပါသ
စီးပွားရေးပညာဆိုင်ရာ အသိသညာသစ်များ၊ ခွဲခြမ်းစိတ်ဖြာပုံနည်း
သစ်များ၊ သင်္ချာပညာကို စီးပွားရေးနယ်ပယ်တွင် ထိရောက်စွာ သုံး
ခဲ့ခြင်းများ စသည့်အရေးပါလှသော တွေ့ရှိချက်များအားဖြင့် စီးပွား
ပညာကို ဖြည့်ဆည်းပေးခဲ့ပါလျက် ယခုထက် ကြီးမားစွာ လေးစားသိမှ
မခံယူရခြင်းမှာ အံ့သြဖွယ် ဖြစ်ပါသည်။ သည်အချက်နှင့်စပ်လျဉ်း
အချို့က၊ ကိုးနီးသည် နည်းနာ (technique) ပေါ်တွင် အာရုံပြု
သောကြောင့် ဖြစ်သည်ဟု ကောက်ချက်ချကြပြီး၊ အချို့ကမူ သူ

သူ့အဆများကို တက်တက်ကြွကြွ ကြေညာဖြန့်ချိပေးမည့် တပည့်တပန်း
နည်းပါးသောကြောင့်ဟု ဆိုကြပါသည်။ မည်သို့ဖြစ်စေ၊ မိုက္ကရိုဘောဂဗေဒ
ဆိုင်ရာ သူ့အယူအဆနှင့် နည်းနာများကား ယနေ့တိုင် စွဲမြဲခိုင်မာနေဆဲ
ပါသည်။

# ဂျွန် စတူးဝပ် မေးလ်
(၁၈၀၆ – ၇၃)



ဂျွန်စတူးဝပ်မေးလ် (John Stuart Mill) က ကျမ်းရိုးဘောဂဗေဒ
ခေတ်မှ ကူးပြောင်းစကာလ အရေးပါသော စီးပွားရေးပညာရှင်တစ်ဦး
ဖြစ်သည်။ စင်စစ် သူက အက်ဒမ်စမစ်၊ တောမတ်(စ)မဲလ်သပ်(စ)၊ နှင့်
ဒေးဗစ်ရီကာဒို တို့အပါအဝင်ဖြစ်သော ကျမ်းရိုးဂိုဏ်း (classical school)
အတွင်း တစ်စိတ်တစ်ဒေသ ပါဝင်ခဲ့သကဲ့သို့၊ တစ်ဖက်က ကြည့်ပြန်လျှင်
သည်း ၁၉ ရာစုနှောင်းပိုင်းတွင် စတင်ပေါ်ထွန်းလာသည့် မာဂျင်နယ်လစ်
ဂိုဏ်း (marginalist school) ၏ အရေးပါသော ရှေ့ပြေးပုဂ္ဂိုလ်တစ်ဦး
ဖြစ်ပါသည်။

မေးလ်ကို အင်္ဂလန်ပြည် လန်ဒန်မြို့တွင် ၁၈၀၆ ခုနှစ်က မွေးသည်။
ဖခင်ဂျိမ်း(စ)မေးလ် (James Mill) မှာ ထင်ရှားသော သမိုင်းပညာရှင်
တစ်ဦး ဖြစ်သည်။ ဂျိမ်း(စ)မေးလ်သည် သားသမီးများအား ပညာဘက်တွင်
အဆင့်တန်းအဆင့် ရှိစေလိုသောဆန္ဒ ပြင်းပြသူဖြစ်ရာ၊ ကလေးများအား
သင်ကြားပေးသည့် အလုပ်ကို နေ့စဉ်နာရီပေါင်းများစွာ လုပ်ကိုင်ခဲ့သည်။
သည်တုန်းက သူတို့သားအဖတွေ ပညာဘက်တွင် စိတ်ဓာတ်ပြင်းထန်
မှုမှာ မှတ်သားဖွယ် ဖြစ်သည်။ ဂျွန်စတူးဝပ်မေးလ်၏ ကိုယ်တိုင်ရေး

အတ္ထုပ္ပတ္တိစာအုပ်တွင်၊ "ဂရိဘာသာကို ကျွန်တော် ဘယ်အချိန်လောက်က စတင်၍ သင်ကြားခဲ့သလဲ ကောင်းစွာ မမှတ်မိ။ သူများပြော၍ သိရသည်မှာ အသက် ၃ နှစ်သား အရွယ်လောက်ကဟူ၍ ဖြစ်၏။" စသဖြင့် ရေးသား ထားတာ တွေ့ရသည်။ ၃ နှစ်အရွယ်မှာ ဂရိဘာသာသင်ခဲ့သည့် မေးလ်သည် အသက် ၇ နှစ်လောက် ရောက်သည့်အခါ၌ ဂရိပညာရှိ ပလေးတိုး၏ အတွေးအခေါ်ဆွေးနွေးခန်း (dialogue) များကို ဖတ်ရှုနေခဲ့ပြီ ဖြစ်သည်။ အသက် ၈ နှစ်အရွယ်တွင် မေးလ်သည် လက်တင်ဘာသာကို စတင် သင်ယူသည်။ ထို့နောက် ၄ နှစ်မျှကာလအတွင်း သင်္ချာပညာကိုပါ သူ ဆည်းပူးလေ့လာသည်။ အခြေခံဂျီသြမေတြီနှင့် အက္ခရာသင်္ချာတို့ ကျေညက်ရုံမက ဒစ်ဖရင်ရှယ်ကဲကုလနှင့် အခြား အဆင့်မြင့်သင်္ချာပညာရပ် များကိုပါ နှံ့စပ်ခဲ့သည်။ အသက် ၁၂ နှစ်လောက်ရောက်သည့်အခါ ပညာရေး တစ်ဆင့်မြင့်သည့် အနေဖြင့် ယုတ္တိဗေဒနှင့် ဒဿန ဘာသာရပ် များကို သင်ယူမှတ်သားပြီး၊ နောက်နှစ်မှစတင်ကာ နိုင်ငံရေးဘောဂဗေဒ ဘာသာကို သင်ရိုးကုန်သည်အထိ လေ့လာဆည်းပူးခဲ့သည်။ နိုင်ငံရေး ဘောဂဗေဒ လေ့လာသည့်နေရာ၌ အလွန်အဖိုးတန်သည့် အခွင့်အရေးကြီး တစ်ခု သူရသည်။ ယင်းကား ဘောဂဗေဒပညာကျော်ကြီး ဒေးဗစ်ရီကာဒိုနှင့် သူ့ဖခင် ဂျိမ်း(စ)မေးလ်တို့၏ စီးပွားရေးပညာဆိုင်ရာ ဆွေးနွေးပွဲပေါင်း များစွာကို သူ နားထောင်ခွင့်ရခြင်း ဖြစ်သည်။

သို့သော်၊ စီးပွားရေးအမြင်တွင် ဂျွန်စတူးဝပ်မေးလ်အား ပို၍ ကြီးစိုးလွှမ်းမိုးခဲ့သူက ဂျယ်ရီမီဘင်သမ် (Jeremy Bentham) ဖြစ်၏။ ဘင်သမ်က မေးလ်တို့နေအိမ်သို့ အမြဲလိုလို ရောက်ရှိနေတတ်ရာ၊ မေးလ်မှာ သူနှင့် မကြာခဏဆွေးနွေး ပြောဆိုရခြင်း၊ သူရေးသည့် စာအုပ်စာတမ်း များကို ဖတ်ရှုရခြင်း စသည်တို့ကြောင့် ဘင်သမ်အား လေးစားအားကျစိတ် တွေ ဝင်ကာ၊ ဘင်သမ်နည်းတူ လူမှုပြုပြင်ရေးသမားတစ်ဦးဖြစ်ရန် ရည်မှန်း လာခဲ့သည်။ အရွယ်ရောက်ချိန်လောက်တွင်မူ ဘင်သမ်၏ အတွေးအခေါ် အယူအဆများကို ကမ္ဘာအနှံ့ဖြန့်ချိရန်ပင် သူကြိုးစားလာသည်။ ၁၈၃၄မှ ၁၈၄၀ ခုနှစ်အထိ သူက ဝက်(စ)မင်စတာရီဗျူးစာစောင်၏ အယ်ဒီတာ



အဖြစ် ဆောင်ရွက်သည်။ ဝက်(စ)မင်စတာရီဗျူးမှာ ဗြိတိန်ပညာတတ် စာကတွင် ထင်ရှားသော စာစောင်တစ်ခု ဖြစ်သကဲ့သို့၊ ဘင်သမ် ဆောင်သည့် ဗြိတိသျှ လူမှုပြုပြင်ရေးသမားအုပ်စုဝင် (philosophical radicals) တို့ အတွေးအခေါ် ဖလှယ်ဖြန့်ချိရာ ဌာနတစ်ခုလည်း ဖြစ်သည်။

နောက်ပိုင်းတွင်မူ မေးလ်က စီးပွားရေး၊ နိုင်ငံရေး၊ ဒဿနနှင့် လူမှုရေးဗေဒဆိုင်ရာ စာအုပ်စာတမ်းများပါ ရေးသားထုတ်ဝေလာခဲ့ရာ၊ ည်ကျမ်းများကြောင့် သူက ၁၉ ရာစု အင်္ဂလန်တွင် အထင်ရှားဆုံး၊ းစားမှု အခံယူရဆုံး ပုဂ္ဂိုလ်တစ်ဦး ဖြစ်လာခဲ့သည်။

ဂျွန်စတူးဝပ်မေးလ် ရေးသားသည့် ကျမ်းများ၊ ဆောင်းပါးစာတမ်း များတွင် စီးပွားရေးပညာရပ်အတွက် အရေးပါသော ဖြည့်ဆည်းချက်သစ် များစွာ ပါဝင်သည်။ ယင်းအနက်၊ အချို့က ကျမ်းရိုးဘောဂဗေဒပညာမှ စိတ်ဖြာမှုနည်းနာများကို တိုးတက်ချဲ့ထွင်ခြင်း၊ မပြည့်စုံသေးသည်များကို ပြည့်စုံအောင် ဖြည့်စွက်ပေးခြင်းများ ဖြစ်၍၊ စီးပွားရေးဖြစ်စဉ်ကို ကွင်းဆက် (relationship) များ၊ ဖလှယ်မှု (trade-off) များအဖြစ် ခွဲခြမ်းစိတ်စစ်ပြခြင်း ကမူ သူ တီထွင်ဖော်ထုတ်လုပ်သည့် လမ်းကြောင်းသစ်များ ဖြစ်ပါသည်။ ပွားရေးပညာနှင့် အတွေးအခေါ်ပညာတို့ ရောယှက်ဆက်စပ်နေသည့် ယ်ဝန်းသော နယ်ပယ်ထဲတွင်လည်း သူ၏ ဖြည့်ဆည်းချက် များစွာပင် ခဲ့သည်။ အဓိကက စီးပွားရေးရာနှင့် စပ်လျဉ်းသည့် ဒဿနအခြေခံများ အကြောင်း ရှင်းလင်းဖော်ပြချက်များ ဖြစ်ပြီး၊ လူပုဂ္ဂိုလ်တစ်ဦးချင်းအနေနှင့် တ်လပ်ခွင့်ရှိရေး၊ စီးပွားရေးနှင့် လူမှုရေးဆိုင်ရာ တို့တွင် အစိုးရ၏ ပါဝင် က်ဖက်မှု ကန့်သတ်လျှော့ချရေးတို့ကို သူ ထောက်ခံတင်ပြခဲ့သည်။

❖

၁၈၄၈ ခုနှစ်တွင် ဂျွန်စတူးဝပ်မေးလ် ရေးသားသည့် **နိုင်ငံရေး ဘောဂဗေဒဆိုင်ရာ အခြေခံမူများ (Principles of Political Economy)** ကျမ်းနှစ်တွဲ ထွက်ခဲ့သည်။ စီးပွားရေးပညာ သင်ကြားသူတို့

အတွက် လက်စွဲစာအုပ်ဖြစ်ခဲ့သည့် ၎င်းကျမ်းတွင် ထိုစဉ်ကာလ (၁၉ ရာ အလယ်ပိုင်း) အင်္ဂလန်တွင် ထွန်းကားပေါ်ပေါက်လျက်ရှိသည့် စီးပွားရေ ပညာဆိုင်ရာ အသိသညာအားလုံးကို စုစည်းပေးထားသော သဘော ရှိခဲ့သည်။ ၎င်းစာအုပ်မှာ အကြိမ်ပေါင်းများစွာ ရိုက်နှိပ်ထုတ်ဝေခဲ့ရပြီ အဲဖရက်မာရှယ် (Alfred Marshall) ၏ **ဘောဂဗေဒဆိုင်ရာ အခြေခံမူများ** (Principles of Economics) ကျမ်း ထွက်လာသည် ၁၈၉၀ ခုနှစ်ဝန်းကျင်ကာလတိုင် ကျောင်းသုံးလောက၌ လွှမ်းမိုးတွင်ကျယ် နေခဲ့သည်။

မေးလ်၏ အခြေခံမူများကျမ်းတွင် ပါဝင်သည့် အရေးပါသော အချက်တစ်ရပ်က၊ အနာဂတ်စီးပွားရေး ဖွံ့ဖြိုးမှုကို ခွဲခြမ်းစိတ်ဖြာခြင်း ဖြစ်သည်။ ဤနေရာ၌ မေးလ်က အက်ဒမ်စမစ်နှင့် မဲလ်သပ်(စ)တို့ နှစ်ဦးကြားတွင် အလယ်လမ်းတစ်ခုဖောက်ရန် ကြိုးစားကြည့်ခဲ့ကြောင်း တွေ့ရသည်။

စမစ်က ကုန်သွယ်ရောင်းဝယ်ရေး လွတ်လပ်မှု၊ နည်းပညာသစ် တီထွင်မှု၊ အလုပ်ပိုင်းခြားလုပ်ကိုင်မှုနှင့် ရင်းနှီးမြှုပ်နှံမှုတို့ တိုးတက် လာသည်နှင့်အမျှ လူ့အဖွဲ့အစည်းတစ်ရပ်သည် ချမ်းသာကြွယ်ဝလာလိမ့် မည် ဖြစ်ကြောင်း ဟောကိန်းထုတ်ခဲ့ပြီး၊ တစ်ဖက်တွင်မူ မဲလ်သပ်(စ)က လူဦးရေ တိုးပွားသလောက် အရင်းအမြစ်တို့ လိုက်ပါတိုးပွားနိုင်ခြင်း မရှိသည့် အချက်က ဖွံ့ဖြိုးတိုးတက်မှုကို ကန့်သတ်တားဆီးထားကြောင်း သုံးသပ်ပြောဆိုခဲ့သည်။ မေးလ်က ၎င်းတို့ပြောခဲ့သည့် အချက်များ အားလုံးပင် တစ်ပြိုင်တည်း တည်ရှိနေသည်ဖြစ်ရာ၊ တကယ်လက်တွေ့ ထွက်ပေါ်လာမည့် ရလဒ်သည် ရေရှည်တွင် ဘယ်အင်အားစုက လွှမ်းမိုးခဲ့ပြီး ဘယ်အကြောင်းအချက်တွေက မှေးမှိန်နေခဲ့သလဲဆိုသည့် အချက်ပေါ်တွင် မူတည်၍ အမျိုးမျိုး အဖုံဖုံ ဖြစ်ပေါ်နိုင်သည်ဟု ကောက်ချက်ချခဲ့သည်။ ထို့နောက် သူက၊ ဖြစ်နိုင်ခြေတစ်ခုချင်းကို ယခုကဲ့သို့ မှန်းဆပုံဖော် ကြည့်သည်။



ပထမဖြစ်နိုင်ခြေကို သူက မဲလ်သပ်(စ)၏လမ်းကြောင်းဘက်မှ ဖောက်ပြသည်။ ယင်းလမ်းကြောင်းအရမူ လူဦးရေ တိုးတက်နှုန်းက အရင်းနှင့်နည်းပညာတို့ကြောင့် ဖြစ်ပေါ်လာမည့် ထုတ်လုပ်မှု တိုးတက်နှုန်း ထက် ပို၍လျင်မြန်နေမည်ဟု မှတ်ယူသည်ဖြစ်ရာ၊ လူဦးရေတိုး – အလုပ် လက်မဲ့တိုး – အလုပ်လိုချင်သူတိုးသဖြင့် လုပ်ခတွေ လျော့နည်းကာ ထုတ်လုပ်သူတို့ အကျိုးအမြတ် များများရကြပြီး၊ သာမန်လုပ်သားတို့၏ နေမှုအဆင့်အတန်းများကမူ ယခင်ထက် ပို၍နိမ့်ကျလာလိမ့်မည်ဟု ရှုမြင်ရသည်။

စမစ်၏ လမ်းကြောင်းဘက်မှလိုက်ကြည့်သည့် ဒုတိယဖြစ်နိုင်ခြေ အရမူ၊ အရင်းအနှီးစုစည်းမှုက လူဦးရေတိုးတက်မှုထက် ပို၍ လျင်မြန်စွာ ဖြစ်ပေါ်ခြင်းကြောင့်၊ အလုပ်လိုချင်သူအရေအတွက်ထက် လုပ်ငန်းရှင်တို့ လိုချင်သည့် လုပ်သားဦးရေက ပိုနေမည်ဖြစ်ရာ၊ လုပ်သားများ လုပ်ခ တိုးမြင့်ရရှိသဖြင့် ၎င်းတို့၏ နေထိုင်မှုအဆင့်အတန်းများ မြင့်မားလာ လိမ့်မည် ဟုရှုမြင်ရသည်။

တတိယက၊ လုပ်ငန်းအရင်းအနှီးနှင့် လူဦးရေတို့ တူညီသော နှုန်းထားလောက်နှင့် တိုးတက်နေပြီး နည်းပညာပိုင်း၌ တိုးတက်ပြောင်းလဲမှု သိပ်မရှိသည့် အခါမျိုးတွင် ဆက်လက်ဖြစ်ပေါ်လာနိုင်သည့် အနေအထား ဖြစ်သည်။ လုပ်ငန်းအရင်းအနှီး တိုးသဖြင့် တိုးတက်လာမည့် လုပ်သား လိုအပ်ချက်နှင့်၊ လူဦးရေတိုးသဖြင့် တိုးတက်လာမည့် လုပ်သားအင်အားတို့ ညီမျှနေက လုပ်ခနှုန်းများတွင် အပြောင်းအလဲ ဖြစ်စရာ အကြောင်းမရှိ။ သို့သော် နည်းပညာ မတိုးတက်သဖြင့် အထွက်နှုန်းလည်း မတိုးတက်သည့် အခါ၊ တစ်ဖက်က တိုးလာနေသည့် လူဦးရေကို ကျွေးမွေးနိုင်ရန်အတွက် စိုက်ပျိုးမြေများ တိုးချဲ့လာရမည်။ ယခင်က အထွက်ကောင်းမြေများ တွင်သာ စိုက်ပျိုးနေရာက သိပ်တွက်ခြေမကိုက်သည့် မြေညံ့များတွင်ပါ စိုက်ပျိုးလာရမည်။ ထိုအခါ မြေငှားခအပါအဝင် ထုတ်လုပ်စရိတ်များ တက်သဖြင့် စားနပ်ရိက္ခာဈေးနှုန်းများ တက်မည်။ ကုန်ဈေးနှုန်းတက်သော် လုပ်သားများ ရပ်တည်ရှင်သန်နိုင်ရန်အတွက် လုပ်ခများ တိုး၍ ပေးရမည်။

ထိုအခါ ထုတ်လုပ်သူအတွက် အမြတ်အစွန်း နည်းလာလိမ့်မည်။ ဤတတိယဖြစ်နိုင်ခြေကမူ ဒေးဗစ်ရီကာဒို၏ အယူအဆများပေါ်တွင် အခြေခံထားခြင်း ဖြစ်ပါသည်။

စတုတ္ထဖြစ်နိုင်ခြေတစ်ခု သူ ထပ်၍ စဉ်းစားပြသည်။ ယင်းက အရင်းအနှီး တိုးတက်နှုန်း လူဦးရေ တိုးတက်နှုန်းတို့ထက် နည်းပညာ တိုးတက်နှုန်းက ပို၍လျင်မြန်နေမည့် အနေအထားမျိုး ဖြစ်သည်။ ယင်း အနေအထားတွင်မူ နည်းပညာ တိုးတက်သဖြင့် အထွက်နှုန်း တက်မည်။ ထိုအခါ လုပ်အားလိုအပ်မှု လျော့သွားသဖြင့် လုပ်ခအကုန်အကျ သက်သာ မည်။ ထို့ပြင် မြေယာအသုံးများတွင် စိုက်ပျိုးရန် မလိုသဖြင့် ငှားခနှုန်းများ လည်း ကျဆင်းလာမည်။ ထိုအခါ လုပ်ငန်းများမှ အကျိုးအမြတ် ပိုထွက် ကာ စီးပွားရေး ဖွံ့ဖြိုးရှင်သန်မည်၊ ဟူ၍ဖြစ်သည်။

အထက်တွင် ဖော်ပြခဲ့သည်များအနက် တတိယအနေအထားသည် ဖြစ်နိုင်ခြေအများဆုံး ဖြစ်သည်ဟု မေးလ်က ယူဆသည်။ စက်မှု တော်လှန်ရေးကြီး၏ အလယ်ပိုင်းကာလတွင် သက်ရှင်နေထိုင်လျက်ရှိသူ တစ်ဦးအနေနှင့် နည်းပညာသစ်တို့ တစ်ခုအပေါ်တစ်ခု ချိတ်ဆက် တိုးတက်မှုသည် ကာလကြာရှည် ဖြစ်ပေါ်နေလိမ့်မည်ဟု သူ မယုံကြည် နိုင်ခဲ့။ အရာခပ်သိမ်းနည်းတူ နည်းပညာတိုးတက်မှုသည်လည်း အချိန်တန် လျှင် နှေးကွေးတုံ့ဆိုင်းသွားလိမ့်မည် ဟူ၍သာ ယူဆခဲ့သည်။ ထို့ကြောင့် ယင်းသို့ဖြစ်ပါက အမြတ်အစွန်းတွေ လျော့ပါးကာ အရင်းအနှီး စုစည်းမှုလည်း ကျဆင်းမည်၊ ထိုအခါ စီးပွားရေးဖွံ့ဖြိုးမှုလည်း ရပ်ဆိုင်း သွားလိမ့်မည်ဟု ရီကာဒို တွေးခေါ်ပုံနည်းလမ်းအတိုင်း သူ ခန့်မှန်းခဲ့ခြင်း ဖြစ်သည်။

❖

မေးလ်က ကျမ်းရိုးသီအိုရီမှ အချို့အစိတ်အပိုင်းများတွင် မပြည့်စုံ သေးသည်ကို ပြည့်စုံသွားအောင် ဖြည့်စွက်ပေးခြင်းများ ရှိပါသည်။ ဥပမာ



နှိုင်းယှဉ်အကျိုးကျေးဇူးသီအိုရီ (theory of comparative adantage) အကြောင်း ရီကာဒို ရှင်းလင်းတင်ပြစဉ်က ပြဿနာတစ်ခု မဖြေပြတ်ဘဲ ကျန်ရစ်သည်။ ယင်းက၊ နိုင်ငံချင်းချင်းကုန်သွယ်ခြင်းမှ ရရှိလာသည့် အပိုထွက်အကျိုးအမြတ်ကို မည်သို့ခွဲဝေရရှိကြသလဲ ဟူသောအချက် ဖြစ်သည်။ မေးလ်က အဆိုပါ အပိုထွက်အမြတ်ထဲမှ အများစုကို ဝယ်လိုအားနည်းသော သို့မဟုတ်၊ ဝယ်လိုအားအလျော့အတင်း ပြုနိုင်စွမ်း (elasticity of demand) ပိုများသော တိုင်းပြည်က ရကြောင်း ရှင်းပြသည်။ ဝယ်လိုအား အလျော့အတင်း ကောင်းသည့်အခါ ဈေးနှုန်းအပြောင်းအလဲကို လိုက်၍ စားသုံးသူတို့ ဝယ်ယူမှု အတက်အကျများများ ဖြစ်ပေါ်မည်၊ ဝယ်လိုအားအလျော့အတင်း နည်းသည့်အခါ ဈေးနှုန်းပြောင်းလဲသော်လည်း ဝယ်ယူသည့် အရေအတွက်က သိသိသာသာ ပြောင်းလဲမည် မဟုတ်။

ဥပမာအားဖြင့်၊ အမေရိကန်နှင့် ဂျပန်တို့ ကုန်သွယ်ရာ၌၊ အမေရိကန်က ဂျပန်ကားကို ဝယ်၍ ဂျပန်က အမေရိကန်မှ စားနပ်ရိက္ခာများ ဝယ်လေ့ရှိသည် ဆိုပါစို့။ အမေရိကန်တို့အနေနှင့် ဂျပန်ကားကို ဝယ်လျှင် လည်း ရသည်၊ မဝယ်ရလျှင်လည်း အရေးမကြီး ဟူသောအနေအထား၊ (ဝါ) ဝယ်လိုအား အလျော့အတင်း ကောင်းသည့်အနေအထား ရှိနေပြီး၊ ဂျပန်ကမူ အမေရိကန်မှ စားနပ်ရိက္ခာများကို လက်မလွှတ်နိုင်သောသဘော (ဝါ) ဝယ်လိုအား အလျော့အတင်း သိပ်မလုပ်နိုင်သည့် သဘောရှိမည် ဆိုပါစို့။ ၎င်းနှစ်နိုင်ငံတို့ မိမိအားသန်ရာ ကုန်ပစ္စည်းအသီးသီးကို အဓိက ထုတ်လုပ်ကာ ကုန်သွယ်မှုပြုသဖြင့် ထွက်ပေါ်လာသည့် နှစ်နိုင်ငံလုံးနှင့် ဆိုင်သော အပိုထွက်အမြတ်၏ အများစုကို အမေရိကန်မှ ရရှိမည် ဖြစ်သည်။ အကြောင်းမူ၊ ဂျပန်က အမေရိကန်မှ စားနပ်ရိက္ခာကို ဈေးကြီးပေးပြီး ဝယ်ကြသည့်အချိန် အမေရိကန်တို့က ဂျပန်ကားကို ဈေးချိုချိုရမှ ဝယ်ကြ သည့် အနေအထားကြောင့် ဖြစ်သည်။ သို့သော် အကယ်၍၊ အမေရိကန် တို့က ဂျပန်ကားမှ ဂျပန်ကား ဖြစ်နေပြီး၊ ဂျပန်တို့ကမူ စားနပ်ရိက္ခာကို အမေရိကန်မှသာမဟုတ် အခြား မည်သည့်နိုင်ငံမှမဆို ဝယ်ယူ၍ရနိုင်သည် ဟူသောအနေအထားမျိုး ရှိနေမည် ဆိုပါစို့။ နှစ်နိုင်ငံကုန်သွယ်ရေးမှ

ထွက်ပေါ်သည့် အပိုထွက်အမြတ်သည် ဂျပန်သို့ အမိက ရောက်ရှိမည် ဖြစ်သည်။ ဤအနေအထားတွင်မူ၊ အမေရိကန်၏ ဝယ်လိုအားက အလျှော့အတင်း သိပ်လုပ်၍မရ၊ ဂျပန်ကတော့ လျှော့နိုင်တင်းနိုင်သည် သို့မဟုတ် ဝယ်လိုအားနည်းသည်၊ ဟူသောသဘော ဖြစ်ပါသည်။

❖

စီးပွားရေးပညာဆိုင်ရာ မေးလ်၏ စွမ်းဆောင်မှုများအနက် ကျမ်းရိုးဘောဂဗေဒကဏ္ဍသို့ ဖြည့်စွက်ချက်များထက်၊ သူ၏ ကိုယ်ပိုင် လမ်းသစ်ထွင်အတွေးများက ပို၍ ရေရှည်လွှမ်းမိုးသက်ရောက်ခဲ့သည်။

သူက ရောင်းလိုအားနှင့် ဝယ်လိုအားတို့ကို ကွင်းဆက်များအဖြစ် ပထမဆုံး စတင် သုံးစွဲပြောဆိုသည့် စီးပွားရေးပညာရှင် ဖြစ်သည်။ အက်ဒမ်စမစ်၊ ဒေးဗစ်ရီကာဒိုနှင့် အခြားကျမ်းရိုးဘောဂဗေဒသမားတို့က ရောင်းလိုအားနှင့် ဝယ်လိုအားတို့ကို ဈေးကွက်သို့ ရောက်ရှိလာသည့် ကုန်ပစ္စည်းပမာဏများနှင့် စားသုံးသူတို့ ဝယ်ယူကြသည့် ကုန်ပစ္စည်း ပမာဏများ အဖြစ်သာ သုံးစွဲပြောဆိုခဲ့ကြသည်။ မေးလ်ကမူ ၎င်းအရေ အတွက်များသည် ကုန်ပစ္စည်း၏ ဈေးနှုန်းပေါ်တွင် မူတည်၍ အပြောင်း အလဲရှိကြောင်း၊ ကုန်ပစ္စည်း ဈေးတက်လျှင် (ဈေးကောင်းရလျှင်) လုပ်ငန်းရှင်တို့က ဈေးကွက်အတွင်းသို့ ကုန်ပစ္စည်းများများ ပို၍ တင်သွင်း လာမည်ဖြစ်ပြီး၊ ဈေးကျလျှင်မူ စားသုံးသူတို့က များများ ပို၍ ဝယ်ယူလာ ကြမည်ဖြစ်ကြောင်း သုံးသပ်ပြခဲ့သည်။

မေးလ်က အခွင့်အလမ်းစရိတ် (opportunity cost) ဟူသည်ကို ပထမဆုံး ထုတ်ဖော်ခဲ့သူလည်း ဖြစ်သည်။ လူသည် တစ်စုံတစ်ရာကို ပြုလုပ်သည့် အခါတိုင်းပင် အခြားတစ်စုံတစ်ရာအား လုပ်ကိုင်နိုင်သည့် အခွင့်အလမ်းကို စွန့်လွှတ်ရသည်၊ (တစ်ခုလုပ်လျှင် နောက်တစ်ခုမလုပ်နိုင်) ဟူသောရှုမြင်ချက် ဖြစ်သည်။ သည်အမြင်အရ၊ အလုပ်တစ်ခုအတွက် ပေးရသည့် အခွင့်အလမ်းစရိတ် ဟူသည်တွင် ငွေကြေးကုန်ကျစရိတ်များ



သကဲ့သို့ ငွေကြေးတန်ဖိုး တွက်မရသည့် ကုန်ကျစရိတ်များလည်း ပါဝင်သည်။ ဥပမာ၊ တက္ကသိုလ်ပညာ သင်မည်ဆိုလျှင် ကျောင်းလခ၊ စာအုပ်ဖိုး စသည်များအတွက် ငွေကြေးသုံးစွဲရလိမ့်မည်။ အကယ်၍ ကျောင်း မနေခဲ့သော် ၎င်းငွေကြေးကို အခြားအရာများ ဝယ်ယူရာ၌ အသုံးပြု နိုင်သည်။ ယခု ယင်းတို့ကို မဝယ်ခြမ်းနိုင်၊ အသုံးမပြုနိုင်။ ဤသည်မှာ တက္ကသိုလ် တက်သဖြင့် ပေးရသည့် အခွင့်အလမ်းစရိတ်၏ တစ်စိတ် တစ်ဒေသ ဖြစ်သည်။ ကျန်တစ်စိတ်တစ်ဒေသကမူ၊ ကျောင်းတက်နေစဉ် အလုပ်မလုပ်နိုင်သဖြင့် ဝင်ငွေမရသည့်ကိစ္စ ဖြစ်သည်။ ကျောင်းမတက်ဘဲ အလုပ်လုပ်သူများမှာ ဝင်ငွေရှိနေရာ ကျောင်းတက်သူအနေဖြင့် ၎င်းဝင်ငွေ ကို စွန့်လွှတ်ရသည့် သဘောရှိသည်။ ထို့ကြောင့် တက္ကသိုလ်ပညာသင် ခြင်းဖြင့် ပေးရသည့် အခွင့်အလမ်းစရိတ် စုစုပေါင်းသည် ကျောင်းအတွက် ကုန်ကျငွေများနှင့် ကျောင်းနေသဖြင့် စွန့်လွှတ်ရသည့် လုပ်ခဝင်ငွေတို့၏ ပေါင်းလဒ်ဖြစ်သည် ဟူသောအမြင်ကို မေးလ်က တင်ပြခဲ့ခြင်း ဖြစ်သည်။

စီးပွားရေးပညာသို့ မေးလ်၏ ဖြည့်ဆည်းချက်များ အနက် နောက်ဆုံးအချက်တစ်ခုက၊ ကျမ်းရိုးဘောဂဗေဒသမားတို့ လက်ခံထား သည့် လုပ်ခရန်ပုံငွေအယူအဆ (wage fund doctrine) ကို သူ ငြင်းပယ် ခြင်း ဖြစ်သည်။ ၎င်းအယူအဆက၊ လုပ်သားတို့အတွက် လုပ်ခငွေများ သည် အရင်း (capital) တစ်မျိုးဖြစ်၍၊ လုပ်ငန်းသမားတို့ အနေနှင့် ကုန်ပစ္စည်းထုတ်လုပ်သည့် လုပ်ငန်းမစတင်မီ စုစည်းခဲ့သည့် အရင်း ငွေမှပင် ၎င်းတို့ကိုပေးရသည် ဟုမှတ်ယူသည်။ သည်အမြင်အရမူ၊ လုပ်ငန်းသမားတစ်ဦး အနေနှင့် လုပ်သားဦးရေ တိုးချဲ့ခြင်း၊ လုပ်အားခ တိုးမြှင့်ပေးခြင်းများ ပြုလုပ်လိုက ဦးစွာပထမ အမြတ်ငွေများများကို ရင်းအနှီးအလို့ငှာ ကြိုတင်စုဆောင်းထားရန်မှအပ အခြားနည်းလမ်း မရှိသလို ဖြစ်နေသည်။ မေးလ်က ထိုသို့ မယူဆ။ လုပ်ငန်းရှင်တို့အနေနှင့် လုပ်ခကို မည်ရွေ့မည်မျှ ပေးရမည်ဟု မူသေသတ်မှတ်ချက် မရှိဟု ဆိုခြင်းသည်။ လုပ်ခဟူသည် လုပ်သားတို့ အပေါ်ထားသည့် လုပ်ငန်းရှင်၏ သဘောဆန္ဒပေါ်တွင် မူတည်ကာ များစွာ အတိုးအလျှော့ ရှိနိုင်သည်။

ဥပမာ၊ လုပ်ငန်းရှင်အနေနှင့် သန်း ၂၀ တန် အိမ်ဝယ်မည့်အစား ၅ သန်း အိမ်ဝယ်မည်ဆိုက သူ၌ လုပ်သားတို့အား ပေးရန် ငွေများများ ရှိနေမည်။ သို့သော် လုပ်ခရန်ပုံငွေဟူ၍ သီးသန့်ထားရှိလိမ့်မည် မဟုတ်။ ထို့ပြင် လုပ်ငန်းရှင်တို့အနေနှင့် လုပ်ငန်းချဲ့ရန်အတွက် လုပ် ဦးရေ တိုးတက်ငှားရမ်းမည်ဆိုလျှင် လိုအပ်သောငွေကို ရှာ၍ရနိုင်သ လုပ်သားများအား လခတိုးပေးမည်ဆိုလျှင်လည်း တိုးပေးနိုင်စွမ်း ရှိသ လုပ်ခနှင့်ပတ်သက်၍ လုပ်ငန်းရှင်နှင့် လုပ်သားတို့ ညှိနှိုင်းမှုပြုနိုင်သ အပိုင်းလည်း အမြဲရှိသည်၊ ဟူ၍ သူကရှုမြင်ခဲ့သည်။

❖

မေးလ်က စီးပွားရေးရာနှင့် ပတ်သက်၍သာ မဟုတ်၊ နိုင်ငံရေး ဒဿနရေးရာ ရေးသားချက်များအတွက်ပါ ထင်ရှားခဲ့သူ ဖြစ်သည် သို့သော် ထိုကဏ္ဍနှစ်ရပ်လုံးတွင်ပင် သူ၏ စီးပွားရေးအမြင်များ ရောယှ ဆက်နွယ်၍ နေသည်။ မေးလ်သည် သူ၏ဖခင်နှင့် တွေးခေါ်ရှင် ဂျယ် ဘင်သမ်တို့ စတင်ထုတ်ဖော်ခဲ့သော လူအများဆုံး အလိုဆန္ဒပြည့်ဝရေး အယူအဆများကို ကာကွယ်သည့် Utilitarianism ကျမ်းကိုလည ရေးသားခဲ့သည်။ ၎င်းဝါဒအမြင်များသည် သူ၏ စီးပွားရေးဆိုင် အယူအဆ အတော် များများအတွက် အခြေခံအုတ်မြစ် ဖြစ်ခဲ့သည်။

မေးလ်ရေးသားသည့် ပို၍အရေးပါသော စာတမ်းတစ်ခုက ၁ ခုနှစ် ထုတ်ဝေသည့် ဆောင်းပါးစာတမ်းစုတွင် ပါဝင်သည့် 'နိုင်ငံ ဘောဂဗေဒ အဓိပ္ပာယ်ဖွင့်ဆိုချက်' (On the Definition of Politi Economy) ဖြစ်၏။ ၎င်းစာတမ်းမှာ စီးပွားရေးပညာဆိုင်ရာ နည်း (method) ပြဿနာကို ပညာရှင်တစ်ဦးအနေနှင့် ပထမဆုံး စူးစမ်းစိ ပြသထားသည့် စာတမ်း ဖြစ်သည်။ မေးလ်က စီးပွားရေးပညာ အပါအ ဖြစ်သည့် လူမှုရေး၊ လူ့အပြုအမူရေးနှင့် ကျင့်ဝတ်ရေးရာ သိပ္ပံပညာ ဆိုသည်များကို သဘာဝသိပ္ပံဘာသာရပ်များ (natural sciences) နှ



ဘာဝချင်းတူမတူ စောကြောဝေဖန်ကြည့်ပြီးနောက်၊ 'မတူညီ' ဟု ဖြတ်ထုတ်သည်။ အကြောင်းက ၎င်းတို့၌ သဘာဝသိပ္ပံဘာသာရပ်များမှာ သို့ ထိန်းချုပ်စမ်းသပ်မှု (controlled experiment) များ ပြုလုပ်နိုင်ခြင်း သောကြောင့် ဟုဆိုသည်။ သဘာဝသိပ္ပံဘာသာရပ်များတွင် ယူဆချက် ရပ် မှန်မမှန် စမ်းသပ်လိုက တူညီသော အရာနှစ်ခု (ဥပမာ၊ ကန်နှစ်ကောင်၊ သို့မဟုတ် သတ္တုချောင်းနှစ်ချောင်း) ကိုယူ၍၊ တစ်ခုကို သပ်ခံ၊ တစ်ခုကို အနိုင်းခံ ဟုသတ်မှတ်ကာ၊ စမ်းသပ်ခံကို စမ်းသပ်ပြီး ၌ ပြောင်းလဲဖြစ်ပေါ်ပုံကို အနိုင်းခံနှင့်နှိုင်းယှဉ် ကြည့်ခြင်းဖြင့် ချက် မှန်မမှန် ချိန်ထိုးအကဲဖြတ်နိုင်ကြသည်။ စီးပွားရေးပညာ၌မူ၊ သည့်အချက်တစ်ရပ်တွင် အပြောင်းအလဲ ပြုလုပ်ကြည့်ခြင်းဖြင့် ပြည်/မြို့ရွာတစ်ခု၏ စီးပွားရေးတွင် မည်သို့သက်ရောက်မှုများ ပေါ်ပုံအကြောင်းကို တိကျစွာ တိုင်းတာပြောဆိုနိုင်ရန်အတွက် လက်တွေ့ သပ်မှု ပြုလုပ်နိုင်မည့် အခြေအနေအရပ်ရပ် တူညီသည့် တိုင်းပြည်/ နှစ်ခု မရရှိနိုင်ဟု သူမြင်သည်။ စီးပွားရေးဆိုင်ရာ အသိပညာကို တွေ့အကြုံ (experience) သက်သက်ဖြင့် မရရှိနိုင်က၊ မိမိခံစားမှု မြင်မှုများအား ဧစ္စငုဆင်ခြင်သောနည်း (introspection) ကို အသုံးပြု မည်ဟု သူသုံးသပ်သည်။ လူသည် မိမိအတွက် စိတ်ချမ်းသာမှု ဆုံးရရှိရန် အစဉ် ရည်သန်အားထုတ်လေ့ရှိကြောင်း မိမိတို့ကိုယ်ကို ကြာဝေဖန်ခြင်းဖြင့် ကျွန်ုပ်တို့သိကြသည်။ တစ်ဖန်၊ ယင်းသို့ အများဆုံး ရှိရန် အားထုတ်မှုမှန်သမျှသည် သဘာဝပတ်ဝန်းကျင်၏ ထိန်းချုပ် တ်မှုကို ခံကြရစမြဲဖြစ်ကြောင်းလည်း ကျွန်ုပ်တို့သိကြသည်။ ဥပမာ၊ စ်ယောက် တစ်နေ့ပတ်လုံး မည်မျှအားထုတ်လုပ်ကိုင်သော်လည်း သူ လုပ်နိုင်သည့် ပမာဏသည် တစ်နေ့တာဟူသည့် အတိုင်းအတာထဲမှာပဲ သည့်သဘော ဖြစ်သည်။ ထို့ကြောင့်၊ မေးလ်က စီးပွားရေးပညာ ည် အဆိုပါ သိမြင်မှတ်ယူချက် (assumption) များကို အခြေခံကာ သို့သော အကျိုးသက်ရောက်မှုများ ဆက်လက်ဖြစ်ပေါ်နိုင်ကြောင်း ချက်ချခြင်း ထုတ်ယူဆင်ခြင်ခြင်းများ ပြုလုပ်သည့် သိပ္ပံပညာ

တစ်ရပ်ဖြစ်သည် ဟူ၍ခံယူခဲ့သည်။ ဥပမာ သဘောနှိုင်းယှဉ်ပြောရသော် ဂဲသြမေတြီပညာ၌ အစက်များ၊ မျဉ်းများ၊ ထောင့်များနှင့်ပတ်သက် 'မှတ်ယူချက်'များ ကြိုတင်ချထားခဲ့ပြီးသည့် နောက်တွင်မှ၊ ယင်းတို့ တွင် အခြေခံကာ တြိဂံများ စက်ဝိုင်းများ နှင့်စပ်လျဉ်းသည့် သီအိုရမ် မှန်ကန်ကြောင်း သက်သေပြသကဲ့သို့ ဖြစ်သည်။

၁၈၅၉ ခုနှစ်တွင် မေးလ်ရေးသားသည့် လွတ်လပ်ခွင့်အကြောင်း (On Liberty) ခေါင်းစဉ်တပ် အတွေးအခေါ်ကျမ်းတစ်အုပ် ထွက် သည်။ ထိုကျမ်းတွင် မေးလ်က အစိုးရအာဏာ၏ အတိုင်းအတာ အ အသတ်များ၊ တစ်ဦးချင်းလွတ်လပ်ခွင့်အပေါ် လူ့အဖွဲ့အစည်း၏ တား ကန့်သတ်မှုများအကြောင်း သုံးသပ် တင်ပြထားသည်။ မေးလ် နိုင်ငံတော်နှင့် လူ့အဖွဲ့အစည်းတို့ အနေဖြင့်၊ လူနှင့်လူချင်းရန်ပြုခြင် ကာကွယ်ရန် အလို့ငှာသာ တစ်ဦးချင်းတို့၏ လွတ်လပ်မှုကို ချုပ် တားဆီးပိုင်ခွင့်ရှိသည် ဟုမြင်သည်။ တစ်နည်းဆိုရသော် မေးလ် 'လွတ်လပ်ခွင့်အကြောင်း'သည် လွတ်လပ်စွာစီးပွားရှာခွင့် (laissez-fa ဝါဒကို ကျယ်လောင်စွာ ထောက်ခံအတည်ပြုပေးလိုက်သည့် ကျ တစ်စောင် ဖြစ်ပါသည်။ လွတ်လပ်စွာစီးပွားရှာခွင့် ဝါဒကို ထောက်ခံ မေးလ်နှင့်အက်ဒမ်စမစ်တို့ မတူညီကြပါ။ စမစ်က ရပ်ဝတ္ထုကြွယ်ဝပြည့် အမြင့်မားဆုံး ရရှိစေသည့် စနစ်အဖြစ် သဘောကျခြင်းဖြစ်ပြီး၊ မေးလ် တစ်ဦးချင်းတို့၏ ဖွံ့ဖြိုးတိုးတက်မှု အမြင့်မားဆုံး ရရှိစေခြင်းအတွ နှစ်သက်လိုလားခြင်း ဖြစ်ပါသည်။ အလားတူပင်၊ **အမျိုးသမီးတို့အ** **လွှမ်းမိုးချုပ်ချယ်ခြင်း** (The Subjection of Women) အမည်ရှိ သူ စာတမ်းတွင် အမျိုးသမီးတို့အတွက် တန်းတူညီမျှခွင့်ကို တောင်းဆို လည်း အဆိုပါ လူတစ်ဦးချင်းတို့ တိုးတက်ဖွံ့ဖြိုးမှု ရရှိစေရေး ဟူ အခြေခံ၍ ရပ်၍ပင် သူပြောဆိုခဲ့ခြင်း ဖြစ်သည်။ အမျိုးသမီးလွတ်လပ် အတွက် အကြီးမားဆုံး အတားအဆီးကား လူ့အဖွဲ့အစည်းအတွင်း အ သမီးများကို လက်အောက်ခံနေရာသို့ တွန်းပို့ပေးထားသည့် အစဉ်အ

ယူအဆနှင့် ဓလေ့ထုံးစံများဖြစ်ကြောင်း၊ ထိုအတားအဆီး **အကန့်** သတ်များကြောင့် လူဦးရေ၏ ထက်ဝက်မျှသည် လွတ်လပ်စွာ **ဖွံ့ဖြိုး** တိုးတက်ခွင့် မရှိ ဖြစ်နေရကြောင်း၊ ထိုအခါ လူ့အဖွဲ့အစည်းတစ်ရပ်လုံး အနေနှင့် ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်နိုင်စွမ်း နည်းပါးသွားရကြောင်း၊ အမျိုးသမီးများအား အသက်မွေးဝမ်းကျောင်း အလုပ်အကိုင်များတွင် သာမက အခြားရာထူးဌာနန္တရများတွင်ပါ အမျိုးသားများနှင့် တန်းတူ ညီတူ ယှဉ်ပြိုင်ရယူခွင့်ပေးခြင်းအားဖြင့် နေရာတိုင်း ဌာနတိုင်းတွင် အတော်ဆုံး၊ အရည်အချင်းအရှိဆုံး ပုဂ္ဂိုလ်များ တာဝန်ယူဆောင်ရွက်ခွင့် ရသည်ဖြစ်ရာ ၎င်းလူ့အဖွဲ့အစည်းအတွက် များစွာပို၍ အကျိုးရှိမည် ဖြစ်ကြောင်း သူ တင်ပြခဲ့သည်။

❖

သူ သက်ရှိထင်ရှားရှိစဉ် ကာလကမူ မေးလ်အား အကြီးကျယ်ဆုံး စီးပွားရေးတွေးခေါ်ရှင်ကြီး နှစ်ဦးသုံးဦးစာရင်းတွင် ထည့်သွင်းဖော်ပြလေ့ ရှိကြပါသည်။ သို့သော် သည်ကနေ့၌မူ သူ့အား အရေးပါဆုံး ထိပ်သီး စာရင်းများထဲတွင် ထည့်သွင်းလေ့မရှိကြတော့ပါ။ အကြောင်းက၊ စီးပွားရေး ပညာနယ်တွင် ဟိုတစ်စ သည်တစ်စ စသဖြင့် သူ ဖြည့်ပေးခဲ့သည့် ကွက်လပ်တွေ အများအပြားရှိသော်လည်း၊ ကြီးကြီးမားမား တစ်ဆင့်မြင့် သွားအောင် ဆောင်ရွက်ပေးနိုင်ခဲ့သည့် အပိုင်းမျိုး မရှိသောကြောင့် ဖြစ်သည်။ နောက်တစ်ချက်က၊ ကျမ်းရိုးဘောဂဗေဒခေတ်မှ ထွက်ခွာစ သွင်ကူးပြောင်းမှုကာလ၏ နမူနာပြပုဂ္ဂိုလ်တစ်ဦးအနေနှင့် မေးလ်၌ ယူအဆများကို ချီးမြှောက်ဂုဏ်တင်ချဲ့ထွင်မည့် နောက်ပါသာဝက နည်းပါးခဲ့ခြင်း ဖြစ်သည်။ နောက်တစ်ချက်မှာမူ၊ မေးလ်အနေနှင့် ကျယ်ဝန်း သော စီးပွားရေးပညာနယ်ပယ်တွင် တစ်ထောင့်တစ်ဌာနတည်း၌ ထူးပြုလေ့လာခြင်း ဖြည့်ဆည်းခြင်း မပြုဘဲ၊ နယ်ပယ်အနှံ့အပြားပင်

ဖြန့်ကြက်လေ့လာခဲ့ခြင်း ဖြစ်သည်။ သို့သော်၊ တစ်စုံတစ်ခု ထုနှင့်ထည်
မပြနိုင်ခဲ့ဟု ဆိုသော်လည်း သူ၏ လေ့လာတွေ့ရှိချက်များမှာ နည်းနာပို
သီအိုရီပိုင်း၊ ပေါ်လစီပိုင်းတို့အပြင်၊ လုပ်သားဘောဂဗေဒ၊ နိုင်ငံတကာ
ကုန်သွယ်ရေး၊ နိုင်ငံရေးသီအိုရီ စသဖြင့် ကဏ္ဍစုံတို့၌ပင် ဖြန့်ကြက်တည်
ခဲ့ပေသည်။

# ကားလ်မာ့က်(စ)

## (၁၈၁၈ – ၈၃)



ကားလ်မာ့က်(စ) (Karl Marx) ၏ အမည်သည် ဆိုရှယ်လစ်
ွားရေးစနစ်နှင့် အများဆုံး ဆက်စပ်ပတ်သက်သည် မှန်သော်လည်း
င်စစ် ဆိုရှယ်လစ်ဝါဒအကြောင်းကို သူ များများစားစား ရေးသားခဲ့သည်
ုတ်ပေ။ အရင်းရှင်စီးပွားရေးယန္တရား၏ လုပ်ရှားလည်ပတ်ပုံ အကြောင်း
းကိုသာ သူ အဓိက စူးစမ်းလေ့လာပြီး၊ ယင်းစနစ်ကြောင့် ဖြစ်ပေါ်သည့်
သနာရပ်များကို ခွဲခြမ်းစိတ်ဖြာပြခဲ့သည်။ မာ့က်(စ)က၊ ၎င်းပြဿနာ
းသည် စီးပွားရေးပေါ်လစီတို့ဖြင့် ကုစားဖြေရှင်း၍ ရနိုင်သည့်အရာများ
ုတ်သကဲ့သို့ အခြားနည်းလမ်းများဖြင့်လည်း သက်သာလျော့ပါးစေ
င်ရာ မရှိကြောင်း၊ အကြောင်းမှု ယင်းပြဿနာများ ကိုယ်တိုင်သည်ပင်
ရင်းရှင်စနစ်၏ မရှိမဖြစ် လက္ခဏာရပ်များ ဖြစ်နေသောကြောင့် ဖြစ်
ကြောင်း ပြောဆိုခဲ့သည်။ မာ့က်(စ)က၊ ယင်းပြဿနာများသည် အရင်းရှင်
ွားရေး အဆောက်အအုံများ၌ အတွင်းလိုက်စားကာ၊ နောက်ဆုံး
င်းတို့အား ပျက်သုဉ်းစေလိမ့်မည် ဟုရှုမြင်ခဲ့သည်။

❖

မာ့က်(စ)ကို ၁၈၁၈ ခုနှစ်တွင် ဂျာမနီပြည် ထရီယာမြို့၌ ဂျူးလူမျိုး လူလတ်တန်းစား မိသားစုမှ မွေးဖွားသည်။ အစပိုင်းတွင် သူ့အား နေအိမ်မှ ပင် မိဘများ ကိုယ်တိုင်လည်းကောင်း၊ အိမ်နီးချင်းလည်းဖြစ် သူ့ဖခင်၏ ရင်းနှီးသော မိတ်ဆွေလည်းဖြစ်သူ ဘေရွန် ဖွန် ဗက်(စ)ဖာလင်း က လည်းကောင်း စာသင်ပေးခဲ့သည်။ ထို့နောက်တွင် ထရီယာမြို့ အထက်တန်းကျောင်းသို့ တက်ရောက်ပြီး၊ အခြေခံပညာ ပြီးဆုံးသောအခါ ဘွန်းတက္ကသိုလ်တွင် ဥပဒေပညာ သင်ယူရန် သွားရောက်ခဲ့သည်။ သို့သော် များမကြာမီမှာပင် ဥပဒေကိစ္စ အမှုအခင်းကိစ္စများကို သူ ငြီးငွေ့ကာ အတွေး အခေါ် ပညာဘက်သို့ အာရုံဝင်စားလာသဖြင့်၊ ဘာလင်တက္ကသိုလ်သို့ ရွှေ့ပြောင်းခဲ့သည်။ ထိုစဉ်က ဘာလင်တက္ကသိုလ်မှာ ဟေဂယ်(လ)၏ ဒဿနများ (Hegelian philosophy) သင်ကြားဖြန့်ချိရာ ဗဟိုဌာနတစ်ခု ဖြစ်ပေသည်။

ဟေဂယ်(လ) (Georg Wilhelm Friedrich Hegel ၁၇၇၀-၁၈၃၁) က၊ လူ့မှုဘဝဟူသည် မပြတ် လှုပ်ရှား ပြောင်းလဲနေသော အရာ ဖြစ်သည် ဟူ၍လည်းကောင်း၊ အယူအဆတိုင်း အင်အားတိုင်းသည် ယင်းနှင့်ဆန့်ကျင်ဘက်ကို ဖြစ်ပေါ်စေ၍၊ ထိုဆန့်ကျင်အင်အားနှစ်ခုအကြား ဖြစ်ပေါ်သည့် ပဋိပက္ခကြောင့် ပြောင်းလဲမှုများ မလွှဲမရှောင်သာ ပေါ်ပေါက် ရသည်၊ ဟူ၍ရှုမြင်သည်။ မာ့က်(စ)က ဟေဂယ်(လ)၏ အဆို ပြောင်းလဲခြင်း သဘောတရားကို အထူးပင် နှစ်သက်ယုံကြည်ခဲ့သည် နောက်ပိုင်း မာ့က်(စ)တင်ပြခဲ့သည့်၊ 'စီးပွားရေးစနစ်တိုင်းပင် မိမိအ ဆန့်ကျင်မည့် အင်အားစုကို ဖန်တီးဖြစ်ပေါ်စေပြီး ယင်းကြောင့်ပင် အရင်း အမြစ်လှန် ပြောင်းလဲမှုများ ပေါ်ပေါက်ရသည်' ဟူသော အယူအဆသည် ဟေဂယ်(လ)၏ ဒဿနမှ ဆင်းသက်လာခဲ့ခြင်း ဖြစ်သည်။ မာ့က်(စ)၏ 'ပြောင်းလဲမှု' အမြင်သည် ပိုနေမြဲကျားနေမြဲအနေအထားကို ထိန်းထား သည့် နိုင်ငံရေးအကြီးအကဲများ ကိုလည်းကောင်း၊ မိမိတို့၏ စီးပွားရေး အဆောက်အအုံများကို တိုက်ခိုက်ဖြိုဖျက်မည့် အစီအစဉ် ဖြစ်သည်ဟု ရှုမြင် ကြသည့် စီးပွားရေးအကြီးအကဲများ ကိုလည်းကောင်း များစွာ နိုးနိုး ထိတ်လန့်စေခဲ့သည်။



❖

မာ့က်(စ)သည် ၁၈၄၁ ခုနှစ်တွင် ဒဿနိကဗေဒဆိုင်ရာ ပါရဂူဘွဲ့ ရရှိပြီး၊ ၁၈၄၃ တွင် ဘေရွန် ဖွန် ဗက်(စ) ဖာလင်း၏ သမီး 'ဂျင်နီ' (Jenny) နှင့် လက်ထပ်ခဲ့သည်။ တက္ကသိုလ်တွင် ဒဿနိကဗေဒဆရာအဖြစ် လုပ်ကိုင် ရန် အခွင့်အလမ်း မရခဲ့သည့် မာ့က်(စ)သည် ကလုံးမြို့ရှိ Rheinische Zeitung သတင်းစာတွင် အယ်ဒီတာအဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ လက်ဝဲယိမ်း လစ်ဘရယ်အယူအဆများကို ဖောင်းပေးဖော်ပြလေ့ရှိသည့် ယင်းသတင်းစာအား တစ်နှစ်လောက်အတွင်းမှာပင် အစိုးရအာဏာပိုင်တို့က ထုတ်ဝေခွင့်ရုပ်စဲခဲ့သည်။ ဂျာမနီတွင် ရှေ့ဆက်လုပ်ကိုင်ခွင့်ရစရာ လမ်းမမြင် သည့်အခါ ပြင်သစ်ပြည် ပါရီသို့ သူ ရွှေ့လာသည်။ ပါရီတွင် ဆိုရှယ်လစ် ကွန်မြူနစ် အများအပြားနှင့် တွေ့ဆုံရသည်။ သူ၏ ရာသက်ပန်မိတ်ဆွေကြီး ဖြစ်လာမည့် ဖရက်ဒရစ် အိန်းဂဲလ်(စ) (Frederick Engels) နှင့်လည်း ပါရီမှာပင် စတင်သိကျွမ်းရသည်။ ကြွယ်ဝသော ချည်ထည်လုပ်ငန်းရှင်ကြီး တစ်ဦး၏ သားဖြစ်သူ အိန်းဂဲလ်(စ)မှာ ထင်ရှားသော စီးပွားရေး တွေးခေါ်ရှင်တစ်ဦးလည်း ဖြစ်သည်။ သူရေးသားပြုစုသော၊ 'အင်္ဂလန်ရှိ အလုပ်သမား လူတန်းစားတို့၏ အခြေအနေ' (The Condition of the Working Class in England) အမည်ရှိ စာအုပ် (၁၈၄၄ ခုနှစ်) တွင် အင်္ဂလန်ပြည်မြောက်ပိုင်း စက်မှုမြို့များမှ အလုပ်သမား မိသားစုများ၏ ဆိုးဝါးသော ဘဝအခြေအနေများကို ကွက်ကွက်ကွင်းကွင်း ဖော်ပြခဲ့သည်။ အိန်းဂဲလ်(စ)နှင့် မာ့က်(စ)သည် အလျင်အမြန်ပင် ရင်းနှီးခင်မင်ကာ ရည်ရွယ်ချက်တူ စိတ်ဓာတ်တူသည့် ရဲဘော်ရဲဘက်များ ဖြစ်သွားခဲ့သည်။ သူတို့နှစ်ဦးဆက်ဆံရေးနှင့် စပ်လျဉ်းသည့် အခြား မှတ်သားဖွယ်တစ်ရပ်က

မာ့က်(စ)၏ဘဝ နောက်ပိုင်းကာလ တစ်လျှောက်လုံးလောက်ပင် အိန်းဂဲလ်(စ)က ငွေရေးကြေးရေးအရ ထောက်ပံ့ကူညီခဲ့ခြင်း ဖြစ်ပေသည်။

❖

မာ့က်(စ)မှာ ပါရီတွင် ကြာရှည်နေခွင့်မရခဲ့ပါ။ သူ၏ တော်လှန်ပြောင်းလဲရေး အတွေးအမြင်များကြောင့် ပါရီမှ နှင်ထုတ်ခြင်း ခံရသည်။ ဘယ်လဂျီယမ်ပြည် ဘရပ်ဆဲလ်(စ)မြို့တွင် နေထိုင်ဖို့ သူကြိုးစားပြန်သည်။ သို့သော် ဘရပ်ဆဲလ်(စ)မှလည်း အနှင်ခံရပြန်သည်။ သို့နှင့်၊ နောက်ဆုံးတွင် လန်ဒန်သို့ သူ ရောက်ရှိလာသည်။ လန်ဒန်တွင်မူ အင်္ဂလိပ်အာဏာပိုင်တို့က သူ့အား လိုလိုလားလား မရှိလှသော်လည်း နေထိုင်ခွင့်ကား ပေးခဲ့ကြသည်။ မာ့က်(စ)၏ဘဝ နောက်ပိုင်းကာလ ၃၃ နှစ်လုံးလုံးပင် လန်ဒန်၌ သူ နေထိုင်သွားခဲ့သည်။ ထိုကာလအတွင်း အချိန်အများစုမှာ ဗြိတိသျှပြတိုက် စာကြည့်တိုက်ကြီးတွင် စာအုပ်စာတမ်းများ ဖတ်ရှုလေ့လာခြင်း၊ စီးပွားရေးဆိုင်ရာ ကျမ်းများ ရေးသားပြုစုခြင်းတို့ဖြင့် ကုန်လွန်ခဲ့သည်။

မာ့က်(စ)၏ ရေးသားချက်များ၌၊ အရင်းရှင်စီးပွားရေးစနစ် လှုပ်ရှားလည်ပတ်ပုံ အကြောင်းများကိုလည်းကောင်း၊ လူသား၏ စီးပွားရေးရာ သမိုင်းစဉ်အတွင်း အရင်းရှင်စနစ်၏ နေရာကဏ္ဍ ကိုလည်းကောင်း ရှင်းလင်းဖော်ပြရန် အားထုတ်ခဲ့သည်။ မာ့က်(စ)က အရင်းရှင်စနစ်သည် တိုင်းပြည်နိုင်ငံတိုင်း ဖြတ်သန်းကြရသည့် စီးပွားရေးသမိုင်းဖြစ်စဉ်၏ အဆင့်တစ်ရပ် ဖြစ်သည် ဟုရှုမြင်သည်။ လူသားတို့၏ စီးပွားရေးဘဝသည် အမဲလိုက်ခြင်း သစ်ဥသစ်ဖုရှာဖွေခြင်း အဆင့်မှ စတင်ကြောင်း၊ ထို့နောက် တစ်နေရာ၌ အခြေချ၍ ထွန်ယက်စိုက်ပျိုးခြင်းဖြင့် အသက်မွေးမြူသည့် လူစုများ အဆင့်သို့ ရောက်ရှိကြောင်း၊ ထို့နောက်တွင် မြေရှင်ပဒေသရာဇ် စီးပွားရေးစနစ်သို့ ကူးပြောင်းသွားကြောင်း၊ ၎င်းစနစ်အောက်တွင် မြေရှင်တို့က တောင်သူလယ်သမားတို့အား ကာကွယ်စောင့်ရှောက်မှု ပေးပြီး လယ်သမားတို့က မိမိထုတ်လုပ်မှု၏ တစ်စိတ်တစ်ဒေသကို မြေရှင်အား



ပေးရကြောင်း၊ သို့သော် မြေရှင်ပဒေသရာဇ်ခေတ်ထဲမှာပင် တစ်နိုင်တစ်ပိုင် ကုန်ပစ္စည်းထုတ်လုပ်ခြင်း၊ ပြည်တွင်းပြည်ပ ရောင်းဝယ်ကုန်သွယ်ခြင်းများ လုပ်ကိုင်သည့် လုပ်ငန်းရှင်များ ပေါ်ပေါက်လာ၊ မြေရှင်စနစ်မှသည် အရင်းရှင် စီးပွားရေးစနစ်သို့ ကူးပြောင်းခဲ့ကြောင်း၊ သူက ရှင်းလင်းဖွင့်ဆိုသည်။

စီးပွားရေးခေတ် အသီးသီးတို့၏ သဘောသဘာဝ အတိုင်းပင် အရင်းရှင်စနစ်၌လည်း ကောင်းသော လက္ခဏာရပ်များနှင့် မကောင်းသော လက္ခဏာရပ်များ ဒွန်တွဲတည်ရှိကြောင်း မာ့က်(စ)ကဆိုသည်။ သူက၊ အရင်းရှင်စနစ် လက်အောက်၌ နည်းနာသစ် စက်ယန္တရားသစ်များ ပေါ်ထွန်း၍ ယင်းတို့၏ စွမ်းအားဖြင့် လူ့အဖွဲ့အစည်း၏ ပျမ်းမျှ လူနေမှု အဆင့်အတန်းကို မြှင့်တင်ပေးနိုင်ခြင်းသည် ယင်း၏ ကောင်းကွက်တစ်ခု ဖြစ်သည် ဟုဆိုသည်။ အလားတူ၊ လယ်ယာကျေးလက်၌ အချည်းနှီး အကျိုးမဲ့ဖြစ်နေသည့် လုပ်သားအများအပြားကို မြို့ပြသို့ ဆွဲဆောင် ခေါ်ယူနိုင်ခြင်းမှာလည်း ကောင်းသောအချက်ပင် ဖြစ်သည်ဟု သူကရှုမြင်သည်။

သို့သော်၊ အရင်းရှင်စနစ်၌ ကောင်းသော လက္ခဏာများထက် မကောင်းသော လက္ခဏာများက ကြီးစိုးလွှမ်းမိုးလျက်ရှိသည်ဟု မာ့က်(စ) က သုံးသပ်သည်။ ထို့ပြင်၊ ထိုမကောင်းသော လက္ခဏာများသည် အရင်းရှင် စနစ်အတွက် မရှိမဖြစ်သော အချက်များဖြစ်ရာ၊ ယင်းလက္ခဏာများ ကင်းစင်အောင် ပြုပြင်ကုစားဖို့၊ တစ်နည်းအားဖြင့်၊ အရင်းရှင်စနစ်အား ယင်း၏ မကောင်းသော မူလလက္ခဏာရပ်များကြောင့် ပျက်သုဉ်းရမည့် ဘေးမှ ကယ်တင်ဖို့မှာ လက်တွေ့မဖြစ်နိုင်ဟု သူ ကောက်ချက်ချခဲ့သည်။

စင်စစ်၊ မာ့က်(စ)နှင့်အိန်းဂဲလ်(စ)တို့၏ ကွန်မြူနစ်ကျေညာစာတမ်း (The Communist Manifesto) (၁၈၄၈ ခုနှစ်) တွင် အရင်းရှင်စနစ်၏ ဆိုးကျိုးများ လျော့ပါးသက်သာအောင် ကုစားပေးနိုင်မည့် နည်းလမ်း အချို့ကို ဖော်ပြခဲ့ပါသေးသည်။ ယင်းအထဲတွင် အခမဲ့ပညာရေး၊ အခမဲ့ ပြည်သူ့စာကြည့်တိုက်များ ဖွင့်လှစ်ရေး၊ စက်ရုံအလုပ်ရုံများတွင် ကလေး လုပ်သား ခိုင်းစေမှု ရပ်စဲရေး၊ ဝင်ငွေ အနည်းအများအလိုက် အပြတ်ခွန် အဆင့်ဆင့် တိုးမြှင့်ကောက်ခံရေး၊ အမွေဆက်ခံမှုအားလုံး ရုပ်သိမ်းရေး၊ ဆက်

သွယ်ရေးနှင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းများကို အစိုးရထိန်းချုပ်ရေး နိုင်ငံတော်ဘဏ်တစ်ခု ထူထောင်ရေး စသည်များ ပါဝင်သည်။ သို့သော် ထိုသို့ ဖော်ပြခဲ့သော်လည်း ငင်းပြုပြင်ရေးပေါ်လစီများသည် အရင်းရှင် စနစ်၏ ပင်မအခြေခံ အပြစ်အနာကြီးများ ပျောက်ကင်းအောင် ကုစားနိုင် လိမ့်မည် ဟူ၍ကား သူ မယုံကြည်ခဲ့ပေ။ ယင်းတို့သည် အရင်းရှင်စနစ် အောက်တွင် နေထိုင်ရသည့် ဆိုးဝါးသော ဘဝအခြေအနေများ လျော့ပါး သက်သာအောင် နှစ်သိမ့်မှုပေးမည့် ဆေးမြီးတိုမျှလောက်သာ ဖြစ်သည်ဟု သူ ရှုမြင်သည်။ မည်သည့်ပြုပြင်ရေးပေါ်လစီများ ချမှတ်ဆောင်ရွက်သည် ဖြစ်စေ အရင်းရှင်စနစ်ကား ၎င်းကိုယ်တိုင်ဖန်တီးခဲ့သည့် ပြဿနာများ၏ ဖိစီးမှုကြောင့် ကာလတစ်ခုအရောက်တွင် မုချပျက်သုဉ်းရမည်သာဖြစ်သည် ဟူ၍ သူ စွဲမြဲယုံကြည်ခဲ့သည်။

မာ့က်(စ)၏ စီးပွားရေးဆိုင်ရာ ရေးသားချက်များတွင် ယင်း ပြဿနာများကိုပင် အဓိက ဖော်ထုတ် ရှင်းလင်း ဝေဖန်ပြခဲ့သည်။

❖

မာ့က်(စ) အလိုအရ၊ အရင်းရှင်စနစ်၏ သေချာက်အကျဆုံး လက္ခဏာတစ်ရပ်မှာ လုပ်သားတို့အား ခေါင်းပုံဖြတ်ခြင်း (exploitation) ဖြစ်သည် ဟုဆိုသည်။ ခေါင်းပုံဖြတ်ခြင်းဟူသော အချက်ကို သိမြင်ရန် အတွက်မူ၊ ကုန်ပစ္စည်းတို့၏ တန်ဖိုးနှင့်စပ်လျဉ်းသည့် မာ့က်(စ)၏ အမြင်ကို နားလည်သဘောပေါက်ဖို့ လိုသည်။ ဤနေရာ၌ မာ့က်(စ)က ရီကာဒို၏ အယူအဆကို မှီကာ လုပ်အားတန်ဖိုးသီအိုရီ (labour theory of value) တစ်ရပ်ကို လက်ခံယူခဲ့သည်။ မာ့က်(စ)က ကုန်ပစ္စည်းတစ်ခု၏ တန်ဖိုး သည် ယင်းအားထုတ်လုပ်ရန်အတွက် သုံးစွဲရသည့် စုစုပေါင်းလုပ်အား ပမာဏပေါ်တွင် မူတည်သည် ဟုမြင်သည်။ လုပ်အားဟူသည်တွင် ၎င်းပစ္စည်း ပြုလုပ်ရာ၌ ချက်ချင်းလက်ငင်းသုံးစွဲရသည့် တိုက်ရိုက်လုပ်အား (direct labour) အပြင်၊ ၎င်းပစ္စည်းထုတ်လုပ်ရာတွင် အသုံးပြုသည့်



[…]ယန္တရားစသည်တို့ပြုလုပ်စဉ်က စိုက်ထုတ်ခဲ့ရသည့် သွယ်ဝိုက်လုပ်အား (indirect labour) များလည်း ပါဝင်သည် ဟုခံယူသည်။

ထို့နောက် မာ့က်(စ)က အားလုံးသော ကုန်ပစ္စည်းတို့၏ တန်ဖိုးကို [ပိုင်]းခွဲခြားသည်။ ယင်းသုံးပိုင်းမှာ၊ မူသေအရင်း (constant capital)၊ [ပြော]င်းလဲနိုင်သော အရင်း (variable capital) နှင့် အပိုတန်ဖိုး [(ပို]လျှံထွက်တန်ဖိုး) (surplus value) ဟူ၍ ဖြစ်သည်။ မူသေအရင်း [ဟူ]သည် ကုန်ပစ္စည်းတစ်ခု ထုတ်လုပ်ရာ၌သုံးစွဲရသည့် စက်ရုံ၊ စက်ယန္တရား [စက်]ကိရိယာတန်ဆာပလာတို့ဘက်က ပွန်းတီးလျော့ပါးရသည့် တန်ဖိုးကို [ဆို]ခြင်းဖြစ်ရာ၊ စာရင်းကိုင်ပညာတွင်သုံးသည့် တန်ဖိုးလျော့ခြင်း (depre[ci]ation) နှင့် သဘောချင်း ဆင်တူသည်။ ပြောင်းလဲနိုင်သောအရင်း [ဟူ]သည်ကမူ ၎င်းကုန်ပစ္စည်း ထုတ်လုပ်ရာ၌ ပါဝင်သည့် လုပ်သားများ [အတွ]က် ပေးရသည့် လုပ်ခများ ဖြစ်သည်။ ထိုမှဆက်၍၊ မာ့က်(စ)က [အပို]တန်ဖိုး ဟူသည်ကို အဓိပ္ပာယ်ဖွင့်သည်။ အပိုတန်ဖိုးဟူသည် ကုန် [ပစ္စ]ည်း၏ တန်ဖိုးက လုပ်အားခနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး လျော့ခြင်းတို့ [ပေါ]င်းလဒ်ထက်ပိုသော(ငွေ)ပမာဏဖြစ်သည်ဟု သူဆိုရာ၊ သာမန်အားဖြင့် [အ]မြတ်အစွန်း' ဟုပြောလေ့ရှိကြသည့် အရာနှင့် တူညီသည် ဟုဆိုရမည် [ဖြစ်]သည်။

ထိုအပိုတန်ဖိုးနှင့် ပတ်သက်၍ မာ့က်(စ)က ယခုကဲ့သို့ ထပ်မံ [ရှင်း]လင်းသည်။

အရင်းရှင်စနစ်၏ အခြေခံသဘောမှာ၊ ကုန်ပစ္စည်း တစ်စုံတစ်ရာ [ထုတ်]လုပ်ပေးနိုင်မည့် လုပ်အားနှင့် စက်ကိရိယာတို့ကို ဝယ်ယူရန်အတွက် [ငွေပ]မာဏတစ်ခု (M) ကို အသုံးပြုရသည်။ ထို့နောက် ထွက်ရှိလာသည့် [ကုန်]ပစ္စည်းကို ပို၍များပြားသော ငွေပမာဏတစ်ခု (M') ဖြင့် ရောင်းချ [သ]ည်။ ထို M' နှင့် M အကြား ခြားနားခြင်းသည် အပိုတန်ဖိုး ဖြစ်သည်ဟု [သုံး]သပ်သည်။ ထို့နောက် ထိုအပိုတန်ဖိုးကို ငွေရင်းပိုင်ဆိုင်သူက [ယူ]သွားခြင်းသည် ခေါင်းပုံဖြတ်ခြင်းပင်ဖြစ်သည်ဟု သူက ကောက်ချက် [ချ]သည်။

ထို့နောက်၊ ယင်းသို့ ခေါင်းပုံဖြတ်ခံကြရသည့် အကြောင်းသ
လုပ်သားများ၌ အရင်းအနှီးမရှိခြင်း၊ သက်ရှင်ရပ်တည်ရေးအတွက် ပေး
ဟူ၍ လုပ်အား သို့မဟုတ် ဝန်ဆောင်မှု မှအပ အခြား ဘာမျှမရှိခြင်းကြော
ဖြစ်သည်ဟု သူကဆိုသည်။ မာ့က်(စ)က၊ လုပ်သားတို့၏ နေ့
အားထုတ်လုပ်ကိုင်မှုဖြင့်သာ တစ်စုံတစ်ရာ တန်ဖိုးရှိသော အရာဝတ္ထု
ဖြစ်ပေါ်ရကြောင်း၊ လုပ်သားများသည် ကုန်ပစ္စည်းများကိုလည်း ထုတ်
သည်၊ ကုန်ပစ္စည်းထုတ်လုပ်ရာ၌ အထောက်အကူပြုသည့် စက်ယန္တ
များကိုလည်း ဖန်တီးပြုလုပ်သည်၊ ယင်းစက်ယန္တရားများဖြင့် နောင်အ
အဆက် ကုန်ပစ္စည်းများ ထုတ်လုပ်နိုင်ကြသည်၊ သို့သော် ၎င်းထုတ်လု
များအတွက် ရသင့်ရထိုက်သည့် တန်ဖိုးကိုကား ပြည့်ပြည့်ဝဝ မရရှိ
ကြောင်း၊ သူတို့ လုပ်ကိုင်ဖန်တီး၍ ဖြစ်ပေါ်လာသည့် တန်ဖိုး တစ်
တစ်ပိုင်းကို အလုပ်ရှင်က အပိုထွက်အဖြစ် ရယူသွားကြောင်း၊ တစ်န
ပြောရသော်၊ အလုပ်သမားသည် မိမိတို့ တစ်နေ့တွက်လုပ်ခနှင့် လုပ်နိ
ပစ္စည်းတို့ တန်ဖိုးလျော့ခြင်း ပမာဏနှစ်ခု ပေါင်းလဒ်နှင့် ညီမျှသော ထု
လုပ်မှုကို တစ်နေ့တာအလုပ်ချိန်၏ အစပိုင်း လုပ်ကိုင်ကြပြီး၊ နောက်
တစ်နေ့လုံးတွင်မူ အလုပ်ရှင် ချမ်းသာကြွယ်ဝအောင် လုပ်ကိုင်ပေးကြရ
ဖြစ်ကြောင်း သုံးသပ်ပြောဆိုခဲ့သည်။

အရင်းရှင်တို့အနေနှင့် အပိုတန်ဖိုး များများရရှိအောင်၊ တစ်န
အားဖြင့် အလုပ်သမားတို့အား ပို၍ခေါင်းပုံဖြတ်နိုင်အောင် လုပ်နိုင်သေ
နည်းလမ်း (၃) ရပ် ရှိကြောင်းလည်း မာ့က်(စ)က ဖော်ပြခဲ့သည်။

ပထမနည်းက၊ တစ်နေ့တာအလုပ်ချိန်ကို တိုးမြှင့်ခြင်း ဖြစ်သ
တစ်နေ့တွက်လုပ်ခတွင် အပြောင်းအလဲမရှိဘဲ၊ အလုပ်ချိန်သာတိုးသည့်အ
အပိုထွက်တန်ဖိုး တိုး၍ ရရှိလာသည်။

ဒုတိယက၊ အလုပ်လုပ်နှုန်းကို မြှင့်တင်ခြင်း ဖြစ်သည်။ ဥပ
တစ်နေ့တာအတွင်း ပစ္စည်း ၁၀၀ ထွက်နေရာက ၁၁၀ ထွက်လာအော
အရှိန်တင် လုပ်ခိုင်းခြင်းမျိုး ဖြစ်သည်။ ယင်းသို့ အရှိန်တင်နိုင်သည့် န
တစ်နည်းက စက်ရုံအလုပ်ရုံတွင်း လုပ်သားတို့ အဆင့်ဆင့် ဆောင်



သည့် စုပေါင်းတပ်ဆင်မှုလိုင်း (assembly line) ကို ပို၍မြန်မြန်ရွေ့လျား
ည်ပတ်စေသောနည်း ဖြစ်သည်။ အရှိန်တင်သည့် နောက်တစ်နည်းက
သားတို့ စိုက်ကတ်မှု အချိန်ဖြုန်းမှုမရှိရအောင် ကြပ်မတ်ပေးခြင်း ဖြစ်သည်။
င်းနည်းလမ်းများကို အသုံးပြုခြင်းဖြင့် တစ်နေ့တာအတွင်း အလုပ်သမား
ထံမှ ထွက်ရှိမှု ပိုမိုလာမည်ဖြစ်ပြီး၊ အရင်းရှင်ဘက်က စိုက်ထုတ်ရသည့်
သအရင်းနှင့် ပြောင်းလဲနိုင်သော အရင်းတို့မှာ နဂိုအတိုင်းပင် ရှိမည်
ရာ ချုပ်လိုက်သော် အပိုတန်ဖိုး တိုး၍ရရှိလာမည် ဖြစ်သည်။ ဆိုခဲ့သည့်
ည်းလမ်းနှစ်ရပ်မှာ အရင်း မတိုးမြှင့်စေဘဲ ထုတ်လုပ်မှု ပိုစေသော
ည်းလမ်းများ ဖြစ်သည်။ အရင်းရှင်၌ အပိုတန်ဖိုး ပိုစေသည့် တတိယ
ည်းလမ်းတစ်သွယ်က လုပ်ခကုန်ကျစရိတ် နည်းသွားအောင် (ဝါ)
ပြောင်းလဲနိုင်သောအရင်း လျော့နည်းသွားအောင် လုပ်သောနည်း ဖြစ်သည်။
အတွက်အသုံးပြုသည့် တိုက်ရိုက်နည်းလမ်းတစ်ခုက ပေးနေကျ လုပ်ခ
ထားကို လျှော့ချသောနည်း ဖြစ်သည်။ နောက်တစ်နည်းမှာ၊ ယောက်ျား
ပ်သားများ နေရာတွင် ၎င်းတို့ထက် ဈေးနှုန်းသက်သာသော မိန်းမ
ပ်သား၊ ကလေးလုပ်သားများ အစားထိုးခိုင်းစေခြင်း ဖြစ်သည်။ နှစ်ဆယ်
စု နောက်ပိုင်းတွင် အချို့ကုမ္ပဏီကြီးများက မိမိတို့စက်ရုံအလုပ်ရုံများကို
ပ်ခနှုန်းထားနည်းပါးသည့် ဖွံ့ဖြိုးဆဲနိုင်ငံများသို့ ပြောင်းရွှေ့လုပ်ကိုင်ကြ
းမှာလည်း လုပ်ခကုန်ကျစရိတ် သက်သာစေသည့် နည်းလမ်းတစ်ရပ်ပင်
စ်ပါသည်။ သည်နည်းလမ်းများကို အသုံးပြုခြင်းဖြင့် လုပ်ခစရိတ်
လျော့ပါးသွားသည့်အခါ အပိုတန်ဖိုးတွင် တိုးတက်လာသည်၊ တစ်နည်း
သော် လုပ်သားတို့အား များများ ပို၍ ခေါင်းပုံဖြတ်နိုင်လာသည် ဟူ၍
ာ့က်(စ) က ရှုမြင်သုံးသပ်ခဲ့သည်။

သို့သော်၊ အရင်းရှင်က အလုပ်သမားတို့အား ခေါင်းပုံဖြတ်ရာ၌
ကန့်အသတ်များတော့ ရှိသေးကြောင်း သူ အသိအမှတ်ပြုသည်။

တစ်ချက်က၊ လုပ်သားတို့အနေနှင့် ခန္ဓာကိုယ်က ခွင့်ပြုသည့်
များဆုံး အချိန်နာရီ အတိုင်းအတာအထိသာ အလုပ်လုပ်နိုင်ခြင်း (ဝါ)
င်းထက်ပိုလုပ်ရန် မတတ်နိုင်တော့ခြင်း ဖြစ်သည်ဟု သူဆိုသည်။ ထို့ပြင်

စုပေါင်းတပ်ဆင်မှုလိုင်းသည်လည်း နည်းပညာစွမ်းရည်နှင့် လုပ်သား ဆောင်ရွက်နိုင်မှုစွမ်းရည် ရှိသလောက်ထက်ပို၍ လျင်မြန်စွာ ရွေ့လျား မပြုနိုင်ကြောင်း၊ ၎င်းပြင် လုပ်သားတို့ကို လုပ်ခလျှော့ပေးသည် ဆို လည်း ၎င်းတို့ အသက်ရှင်သန်ရပ်တည်ရန် လိုအပ်သည့် အနိမ့်ဆုံး အ ထက်တော့ လျှော့၍ မရနိုင်ကြောင်းများ သူ ဖော်ပြခဲ့သည်။

ယင်းသို့ အကန့်အသတ်များ ရှိနေသည့်ကြားကပင် တစ်ဖ လုပ်ငန်းရှင်များအား အလုပ်သမားတို့အပေါ် အမြင့်မားဆုံး ခေါင်းပုံဖြတ် တွန်းအားပေးနေသည့် အချက်တစ်ရပ် ရှိနေသေးသည် ဟုဆိုသ ယင်းကား လုပ်ငန်းနယ်ပယ်တွင်း ပြိုင်ဆိုင်မှု (competition) ဖြစ်သ ပြိုင်ဆိုင်လုပ်ကိုင်နေရသည့် လောက၌ လုပ်ငန်းတိုင်း မြတ်စွန်းရှင်သန် မဖြစ်နိုင်။ ပြိုင်ဘက်တို့နှင့် တန်းတူရည်တူ လုပ်ကိုင်နိုင်စွမ်း မရှိသ လုပ်ငန်းသည် မကြာမီပင် ရပ်ဆိုင်းသွားရမည် ဖြစ်သည်။ ထို့ကြေ လုပ်ငန်းသမားတိုင်းသည် ကုန်ကျစရိတ် အသက်သာဆုံးဖြစ်ရန်၊ အ အစွန်း အများဆုံး ကျန်ရန်၊ လုပ်ငန်း ရှင်သန်တည်တံ့နေရန် တို့အတ အလုပ်သမားများအား ပို၍ပို၍ ခေါင်းပုံဖြတ်လာရသည်။ လုပ်သားတို့ ဖြစ်နိုင်သမျှ အမြင့်ဆုံးအတိုင်းအတာထိ ခေါင်းပုံဖြတ်နိုင်သော လုပ်ငန်း တည်တံ့ရှင်သန်ပြီး၊ ယင်းသို့ မတတ်နိုင်သော (ဝါ) ကုန်ကျစရိတ် မလျှော့နိုင်သော လုပ်ငန်းများမှာ ရပ်ဆိုင်းသွားကြရလိမ့်မည်ဟု သူ သုံး သည်။ ဤအမြင်အရမူ၊ အပြိုင်အဆိုင် လုပ်ကိုင်နေကြသော အရင်း စီးပွားရေးစနစ် လက်အောက်၌ အလုပ်သမားတို့အနေနှင့် အမြင့်မား အတိုင်းအတာထိ ခေါင်းပုံဖြတ်ခံကာ၊ ဝတ်မသေရုံ အနေအထား ရပ်တည်နေထိုင်ကြရမှာ သေချာနေသောသဘော ရှိပေသည်။

❖

အရင်းရှင်စနစ်၏ ဒုတိယပြဿနာကြီးတစ်ရပ်က၊ အရာ ခြားနားကင်းကွာသွားသော လုပ်သားများ (alienated workers) ဖ

ဖြစ်ပေါ်စေခြင်း ဖြစ်သည်ဟု မာ့က်(စ)က ကောက်ချက်ချသည်။

ခြားနားကင်းကွာခြင်း (alienation) အကြောင်းရင်း သို့မဟုတ် ...င်း၏ သွင်ပြင်လက္ခဏာ (၄) ရပ် ရှိသည့်အနက် တစ်ခုက၊ အလုပ်သမား ...င့် အလုပ်လုပ်ကိုင်မှုပုံသဏ္ဍာန်အကြား ခြားနားသွားခြင်း ဖြစ်သည် ...ဆိုသည်။ မာ့က်(စ)က လူသားသည် ပင်ကိုမူလအားဖြင့် တီထွင်ဖန်တီး ...တ်သော သဘာဝရှိသူဖြစ်ရာ မိမိပတ်ဝန်းကျင်ကိုလည်း မိမိစိတ်ကြိုက် ...သွင်းဖန်တီးလိုသောဆန္ဒ ရှိတတ်ကြသည် ဟုမြင်သည်။ ယင်းသို့သော ...ဘာဝရှိသည့် လူသားသည် စီးပွားရေးပညာရှင်ကြီး အက်ဒမ်စမစ် ...်သက်သဘောကျသည့် အလုပ်ပိုင်းခြားလုပ်ကိုင်မှု (division of ...bour) စနစ်ကျင့်သုံးသော စက်မှုလုပ်ငန်းခွင်၌ တီထွင်ဖန်တီးခွင့် မရှိ ...ဖြစ်နေသည်။ ကုန်ပစ္စည်းထုတ်လုပ်သည့် လုပ်ငန်းစဉ်အား အသေးစိတ် ...ဆင့်ငယ်ကလေးများအဖြစ် ခွဲခြမ်းပေးထားသည့် လုပ်ငန်းယန္တရား ...တွင်း လုပ်သားတစ်ဦးစီသည် အလွန် ရှင်းလင်းလွယ်ကူသော ကဏ္ဍ ...ဆင့်ကလေးတစ်ခုစီကိုသာ ထပ်တလဲလဲ မနေမနား လုပ်ကိုင် နေရသည် ...ဖြစ်ရာ ၎င်းတို့၌ အတွေ့အကြုံနှင့် အတတ်ပညာများ တိုးပွားလာစရာ ...ကြောင်းလည်း မရှိပေ။ ဝင်ငွေရရှိရေးဟူသော အကြောင်းတစ်ခုတည်း ...တွက် ငြီးငွေ့ဖွယ်ကောင်းလှသည့် သည်အလုပ်ကို လုပ်ကိုင်နေရသော ...တစ်ယောက်သည် အလုပ်ခွင်၌ ကြာရှည်သော် မူလရှိခဲ့သည့် ခံစားမှု ...မ်းရည်နှင့် တီထွင်ဖန်တီးမှုစွမ်းရည်များ အားလုံးပင် လျော့ပါးပျောက်ကွယ် ...သွားမည် ဖြစ်သည်။ ထို့ကြောင့်၊ နဂိုမူလက အလုပ်နှင့်ဘဝ တစ်သားတည်း ...ခဲ့သည့် လူသားသည် အရင်းရှင်စက်မှုလုပ်ငန်းခွင်၌ အလုပ်နှင့်ဘဝ ...ခြားနားကင်းပြတ်ကာ၊ အလုပ်ချိန်ပြီးတော့မှ ဘဝစရသည် ဟူသော ...ဖြစ်မျိုး ဆိုက်ရောက်ခဲ့သည်ဟု မာ့က်(စ)က ကောက်ချက်ချသည်။

ခြားနားကင်းကွာမှု ဖြစ်ရသည့် ဒုတိယ အကြောင်းတစ်ခုက၊ အရင်းရှင်စနစ်အောက်၌ အလုပ်သမားသည် သူ့ ထုတ်လုပ်လိုက်သည့် ...ကုန်ပစ္စည်းနှင့်ပတ်သက်၍ အရေးမပါအရာမဝင်ခြင်း ဖြစ်သည် ဟုဆိုသည်။ ...စက်မှုပညာသည်တစ်ဦးသည် မိမိ ဖန်တီးပြုလုပ်လိုက်သော ပစ္စည်းကို

မိမိလက်ရာဟူ၍ ဂုဏ်ယူနိုင်သော်လည်း၊ စုပေါင်းတပ်ဆင်မှုလိုင်းတွ ပါဝင်ရသော အလုပ်သမားမှာမူ ထိုအနေအထားမျိုး မရှိပေ။ သူ လုပ်ကို ရသည့် ကဏ္ဍလေးက အလွန်သေးမွှားလှသည်ဖြစ်ရာ နောက်ဆုံးထွက်လ သည့် ကုန်ပစ္စည်းနှင့်စပ်လျဉ်း၍ သူ့၌ ဂုဏ်ယူမိစရာအကြောင်း နည်းပါ လှသည်။ တစ်ဖန်၊ အရင်းရှင်စီးပွားရေးစနစ်သည် ကုန်ပစ္စည်း အရ အသွေး ပြည့်ဝဖို့ထက် ပေါပေါလောလော ထုတ်လုပ်ရောင်းချနိုင်ဖို့သ ဦးတည်တွန်းပို့လျက်ရှိသည်။ အရင်းရှင်သည် သူ့ပစ္စည်းကို ကုန်ကျစရိ အနည်းပါးဆုံးနည်းဖြင့် ထုတ်လုပ်နိုင်ရန် မပြတ်အားထုတ်နေရသည် အကြောင်းက၊ သက်သာအောင် မလုပ်နိုင်လျှင် သူပြုတ်သွားနိုင်သောကြော ဖြစ်သည်။ ဤတွင်၊ သက်သာအောင်လုပ်သည့် နည်းလမ်းတစ်ရပ် ပြီးစလွယ်နည်း သို့မဟုတ် တတ်နိုင်သမျှ 'ခို' သောနည်း ဖြစ်သည် ထိုအခါ အရည်အသွေးဘက်က ကျလာသည်။ အရည်အသွေး မမီသ အညံ့စားကုန်ပစ္စည်းကို ထုတ်လုပ်ပေးနေရသည့် အလုပ်သမားသည် အလုပ်အတွက် အဘယ်မှာ ဂုဏ်ယူနိုင်ပါမည်နည်း။ ဤသို့ဖြင့်၊ ထုတ်လုပ်မှုဖြစ်စဉ်တွင် ဘာမှအရာမရောက်သူတစ်ဦး ဖြစ်နေရသော အလုပ်သမားသည် သူ ထုတ်သော်ကုန်ပစ္စည်းအပေါ် သံယောဇဉ် ကင်းပြ လာရခြင်း ဖြစ်သည်။

ခြားနားကင်းကွာမှု နောက်တစ်ခုက၊ အရင်းရှင်စနစ်အောက် အလုပ်သမားတို့ဖန်တီးမှုကြောင့် ထွက်ပေါ်လာသည့် အပိုတန်ဖိုးသ အလုပ်ရှင်လက်ထဲချည်း ရောက်သွားခြင်း ဖြစ်သည်။ အလုပ်သမားသ တစ်နေကုန် ပင်ပန်းကြီးစွာ လုပ်ရသည်။ သို့သော် လုပ်ခက နေနိုင် အဆင့်ထက် ပိုမရ။ သူ၏ ဘဝအခြေအနေက နည်းနည်းမျှပင် တိုး မလာ။ အလုပ်ရှင်သာ တစ်နေ့တခြား ကြီးပွားချမ်းသာလာသည်။ တစ်နည်း ဆိုသော်၊ အလုပ်သမား များများ အလုပ်လုပ်လေ သူနှင့်အလုပ်ရှင်ကြ ဘဝအခြေအနေများ ကွာခြားသထက် ကွာခြားလာလေ ဖြစ်နေသည် သည်လိုဖြစ်ရသည့် အကြောင်းက ကုန်ထုတ်အရင်းအနှီးများ (means of production) ကို အရင်းရှင်က လက်ဝါးကြီးအုပ် ပိုင်ဆိုင်ထားခြင်းကြော ဖြစ်သည်ဟု မာ့က်(စ)က ရှုမြင်သည်။ အရင်းရှင်စနစ်တွင် အလုပ်သမား သည် စားဝတ်နေရေး (ဝါ) အသက်ရှင်သန်ရေးအတွက် ငွေကြေးရရှိရန် အလုပ်လုပ်ရသည်။ အရင်းရှင်မှာ ငွေကြေးပိုင်ဆိုင်သူဖြစ်ရာ အလုပ် မလုပ်ဘဲ (ဝါ) ကုန်ထုတ်လုပ်ငန်း မလုပ်ကိုင်ဘဲ နေထိုင်စားသောက်နိုင် သည်။ ထို့ကြောင့် အလုပ်သမားသည် အရင်းရှင်နှင့် ဆက်ဆံသည့် နေရာ၌ တစ်ပန်းရှုံးသော အနေအထားမှ ဆက်ဆံရသည်။ ထို့ကြောင့်လည်း၊ နေနိုင်ရုံလုပ်ခ (subsistence wage) လောက်ကိုပင် လက်ခံ၍ အလုပ်လုပ် ရသည့် အခြေအနေသို့ ဆိုက်ရောက်ရခြင်း ဖြစ်သည်ဟု မာ့က်(စ)က သုံးသပ်သည်။

စတုတ္ထက၊ အရင်းရှင်စနစ်အောက်တွင် အလုပ်သမား၏ လုပ်အား စွမ်းရည်သည် အလုပ်ရှင်ပိုင်ပစ္စည်းဘဝ ဆိုက်ရောက်နေခြင်း ဖြစ်သည်ဟု မာ့က်(စ)ကဆိုသည်။ မိမိ၏ အဓိကစွမ်းအားကို မိမိ မပိုင်ပြီဆိုသည့်အခါ အလုပ်သမားသည် မိမိကိုယ်တိုင်နှင့်ပင် ခြားနားကင်းကွာလာသည်။ သူ့၌ ကိုယ်ပိုင်လွတ်လပ်ခွင့် ဟူသည် မရှိတော့။ တစ်ချိန်တည်းတွင်၊ မိမိကိုယ်ကို လေးစားတန်ဖိုးထားမှုလည်း လျော့ပါးပျောက်ကွယ်သွားသည်။ တစ်နည်း ဆိုရသော်၊ အလုပ်အကိုင်ဟူသည်ပင် အလုပ်သမားအဖို့ ကျွန်ခံရခြင်း တစ်မျိုး ဖြစ်လာသည်၊ ဟု သူရှုမြင်သည်။

❖

အလုပ်သမားတို့ အနေနှင့် မပြတ်ခေါင်းပုံဖြတ်ခံနေရခြင်း၊ အလုပ် ဘဝနှင့် လူပုဂ္ဂိုလ်ဘဝ ခြားနားကင်းကွာလာခြင်း တို့ကို အကြောင်းပြုကာ၊ ကုန်ထုတ်အရင်းအနှီးများကို ပိုင်ဆိုင်သူ အရင်းရှင်နှင့် ပိုင်ဆိုင်မှုမရှိသူ အလုပ်သမားတို့အကြား လူတန်းစားပဋိပက္ခ (class struggle) (လူတန်းစားတိုက်ပွဲ) တစ်ရပ်ပေါ်ပေါက်လာသည်။ အလုပ်သမားတို့အပေါ် ခေါင်းပုံဖြတ်ခြင်းတည်းဟူသော ဖိအား များများ သက်ရောက်လေ ပဋိပက္ခ သည် ပို၍ပြင်းထန်လေဖြစ်ပြီး၊ တစ်ဖက်၌ အရင်းရှင်စနစ်အတွင်း မပြတ်

ပြိုင်ဆိုင်နေရခြင်း အကြောင်းကလည်း လုပ်သားတို့အပေါ် ဖိအား သက်ရောက်မှု များသထက်များအောင် တွန်းပို့ပေးလျက်ရှိရာ နောက်ဆုံး ထိုကြီးမားပြင်းထန်သော ပဋိပက္ခကြောင့်ပင် အရင်းရှင်စနစ် ပြိုကျပျက်စီး ရလိမ့်မည်၊ ဟု မာ့က်(စ)မြင်ခဲ့သည်။

မာ့က်(စ)က လူတန်းစားတိုက်ပွဲ ဟူသည်ကို သမိုင်းနောက်ခံ တင်၍ သုံးသပ်လေ့ရှိသည်။ သူက အရင်းရှင်စနစ်သည် လယ်ယာစီးပွား တွင် အမိက အခြေခံသည့် မြေရှင်ပဒေသရာဇ် လူ့အဖွဲ့အစည်းထဲ ပေါ်ထွက်လာခဲ့ခြင်းဖြစ်ပြီး၊ ယင်းမြေရှင် ပဒေသရာဇ်၏ အာဏာနောင်ကြိုး များကို ဖြတ်တောက် ဖျက်ဆီးပစ်ခဲ့သည်။ ထို့ကြောင့်၊ ၎င်းအားလည်း အလားတူ အစားထိုးမည့် အခြားလူမှု–စီးပွားစနစ်တစ်ခု ပေါ်ပေါက် လာမည်ဆိုလျှင် အံ့သြစရာမရှိ ဟုယူဆသည်။ သူက၊ အရင်းရှင်စနစ်ကို အစားထိုးမည့် ဆိုရှယ်လစ်စနစ်တွင် ကုန်ထုတ်အရင်းအနှီးများကို အလုပ် သမားတို့ ပိုင်ဆိုင်၍၊ လုပ်ငန်းခွင်အခြေအနေ၊ ထုတ်ကုန်ပစ္စည်း၏ အရည် အသွေး၊ ယင်း၏ ဈေးနှုန်းနှင့် လုပ်သားတို့အတွက် လုပ်ခ စသည်တို့ကို အလုပ်သမားများကပင် ဆုံးဖြတ်သတ်မှတ်ကြလိမ့်မည် ဟုရှုမြင်သည်။

မာ့က်(စ)က၊ အရင်းရှင်စနစ်အား မိမိကိုယ်ကို ဖျက်ဆီးသည့် အဆင့်သို့ရောက်အောင် တွန်းပို့မည့် အင်အားစုတို့သည် ၎င်းစနစ်ဖွဲ့တည် စဉ်ကပင် ကိန်းအောင်းပါဝင်ခဲ့ပြီး ဖြစ်သည် ဟူ၍လည်း ဆိုခဲ့သည်။

အဆိုပါ ဖျက်ဆီးရေးအင်အားများ ဟူသည်ကား၊

ပထမ၊ အရင်းရှင်စနစ်သည် ဓနဥစ္စာရရှိရေးကိုသာ အာရုံပြုသော စနစ် ဖြစ်သည်။ ဓနဥစ္စာနည်းနည်းရသော် ယင်းကို အသုံးပြု၍ ဓနဥစ္စာ များများရအောင် ရှာဖွေပြန်သည်။ များပြားသော ဓနဥစ္စာကို လိုချင်ရသည့် အကြောင်းကား ယင်းနှင့်တွဲဖက်၍ ပါလာသည့် သြဇာအာဏာ အရှိန်အဝါ တို့ကို မက်မော၍ ဖြစ်သည်။ တစ်ဖန်၊ အရင်းရှင်တိုင်းသည် ပြိုင်ဘက် အရင်းရှင်တို့ထံမှ ဖိအားကို မပြတ်ခံနေရသည်။ မိမိ ရပ်တန့်ချင်တိုင်း ရပ်တန့်၍ မရ။ ရပ်တန့်နေက ပြိုင်ဘက်တို့ တွန်းထုတ်သဖြင့် လုပ်ငန်းပြုတ် သွားလိမ့်မည်။ ထိုအခါ ရှိရင်းစွဲ သြဇာအာဏာ အရှိန်အဝါတို့ လက်လွတ်



ဆုံးရှုံးမည်။ ထို့ပြင် ငွေကြေးလက်မဲ့ ဖြစ်လာပါက ရပ်တည်မှုအတွက် သူတစ်ပါးထံတွင် အလုပ်သမားအဖြစ်ပင် ဝင်ရောက်လုပ်ကိုင်လာရမည်။ ထိုအခါ ခေါင်းပုံဖြတ်ခံရမည်၊ ခြားနားကင်းကွာခြင်းများကို ခံစားရမည်၊—

ဒုတိယ။ အရင်းရှင်စနစ်၌ လုပ်ငန်းသမားတို့သည် မိမိ ကဏ္ဍာ နယ်ပယ်အတွင်း ကြီးစိုးလွှမ်းမိုးထားလိုသောစိတ် (ဝါ) လက်ဝါးကြီးအုပ် ပိုင်ဆိုင်လိုသော စိတ်၏ တွန်းပို့မောင်းနှင်မှုဖြင့် မပြတ်လှုပ်ရှားနေကြခြင်း ဖြစ်၏။ လက်ဝါးကြီးအုပ် လုပ်ခွင့်ရသူတို့သည် အမြတ်အစွန်း ကြီးမားစွာ ရရှိကြ၏။ သူနိုင်ကိုယ်နိုင် ယှဉ်ပြိုင်နေရသည့် အနေအထားတွင်မူ လုပ်ငန်းရှင်တို့ အနေနှင့် အမြတ်ထဲမှဖဲ့ကာ၊ တစ်ခါတစ်ရံ အရှုံးခံကာပင် ရပ်တည်လုပ်ကိုင်ကြရသော သဘောရှိသည်။ ထို့ကြောင့်၊ လုပ်ငန်းသမား တိုင်းသည် ပြိုင်ဘက်တို့ထက် အင်အားကြီးသောလုပ်ငန်းကြီး ဖြစ်ချင်သည်၊ တစ်ဦးတည်း စိတ်တိုင်းကျ လုပ်ကိုင်နိုင်သည့် လက်ဝါးကြီးအုပ် လုပ်ငန်းရှင် များ ဖြစ်ချင်ကြသည်။ ယင်းသို့၊ အရင်းရှင်ချင်း ယှဉ်ပြိုင်ကြသည့် ပွဲတွင် အင်အားနည်းသူ လုပ်ငန်းသေးသူတို့ ရှုံးနိမ့်ကြပြီး၊ လုပ်ငန်းပျက်စီးခြင်း သော်လည်းကောင်း၊ အနိုင်ရသော လုပ်ငန်းအတွင်း သွတ်သွင်းခြင်း သော်လည်းကောင်း ခံကြရသည်။

လုပ်ငန်းများအနေနှင့် သူတစ်ပါးနှင့် ယှဉ်ပြိုင်လုပ်ကိုင်နိုင်ရန် အတွက် ကုန်ထုတ်လုပ်မှုစွမ်းရည်များ အမြဲတိုးတက်နေဖို့ လို၏။ ထိုသို့ စွမ်းရည်တိုးတက်ရန်အတွက် စက်ယန္တရားသစ် နည်းနာသစ်များ သုံးစွဲနိုင်ဖို့ လိုပေရာ၊ ယင်းတို့မှာ နောက်ထပ် ငွေကြေးအရင်းအနှီး လိုအပ်သော အရာများ ဖြစ်၏။ တစ်ဖန်၊ စက်ယန္တရားနှင့် နည်းနာအတွက် ငွေများများ ရင်းမည်ဆိုလျှင်၊ ယင်းနှင့်လျော်ညီသော ထုတ်ကုန်ပမာဏရှိသည့် လုပ်ငန်းကြီးဖြစ်ဖို့ လို၏။ ဤသို့လျှင်၊ အရင်းရှင်လောက၌ အပြိုင်အဆိုင် ရပ်တည်နိုင်ရန်အတွက် ကြီးသထက်ကြီးသော လုပ်ငန်းကြီး၊ ထို့နောက်တွင် လက်ဝါးကြီးအုပ် အရင်းရှင်ကြီးဖြစ်ဖို့ လိုပေရာ၊ လုပ်ငန်းသေးများမှာ ပြုတ် ဝါးမျိုဖျက်ဆီးခြင်း ခံကြရမည် ဖြစ်သည်။ ထိုအခါ မူလက အသေးစားလုပ်ငန်းရှင် ဖြစ်ခဲ့သူများလည်း လုပ်ငန်းကြီးများ၏ အလုပ်

သမားဘဝသို့ ပြောင်းလဲရောက်ရှိကြမည်ဖြစ်ရာ လက်ဝါးကြီးအုပ် အရင်းရှင်စနစ်ကို မလိုလားမနှစ်မြို့သူဦးရေမှာ တစ်နေ့တခြား တိုးပွားလာမည်ဖြစ်သည်။

အရင်းရှင်စနစ် နိဂုံးချုပ်အောင် တွန်းပို့နေသည့် တတိယအချက်တစ်ရပ်က အမြတ်နှုန်းထားများ လျော့နည်းသွားစေမည့် အနေအထားဖြစ်၏။ ပြိုင်ဆိုင်ရသော ဝန်းကျင်တွင် ရပ်တည်နိုင်ရန်အတွက် လုပ်ငန်းရှင်သည် ပို၍ သွက်လက်ထက်မြက်သည့် စက်ယန္တရားများကို မလွဲမရှောင်သာဝယ်ယူသုံးစွဲလာရသည်။ ထိုအခါ၊ သူ၏ ထုတ်လုပ်မှုဖြစ်စဉ်သည် လုပ်အားထက် ငွေရင်းပေါ်တွင် ပို၍အားပြုရသောသဘော ရှိလာသည်။ မာ့က်(စ)၏အမြင်အရ၊ အရင်းရှင်အတွက် အမြတ်သည် လုပ်သားများပေါ်မှ သူခေါင်းပုံဖြတ်ရယူသည့် အပိုထွက်တန်ဖိုးပေါ်တွင် မူတည်ပေရာ စက်ယန္တရားတွင် များများရင်းပြီး လုပ်သားတွင် နည်းနည်းသာ ရင်းနှီးမြှုပ်နှံလာရသည့်အခါ၌ ခေါင်းပုံဖြတ်နိုင်သော အချိုးအစား လျော့နည်းသွားမည်၊ (ဝါ) အရင်းပေါ်၌ရရှိမည့် အမြတ်နှုန်းထားက မူလထက် လျော့နည်းသွားမည်ဖြစ်သည်။

တစ်ဖက်တွင်မူ၊ လုပ်သားများနေရာ၌ စက်ယန္တရားတို့ အစားထိုးလာသည့်အခါ အလုပ်လက်မဲ့ဦးရေ တိုးတက်များပြားလာမည် ဖြစ်သည်။ ထိုအခါ ယင်းအလုပ်လက်မဲ့တပ်ကြီး၏ ဆွဲချမှုကြောင့် လုပ်ခနှုန်းများကျဆင်းလာမည်ဖြစ်ရာ ယင်းက အမြတ်နှုန်းထား ကျဆင်းမှုကို တစ်ဖက်တစ်လမ်း ပြန်၍ထိန်းလာမည် ဖြစ်သည်။ သို့သော်၊ အလုပ်လက်မဲ့ထူပြောပြီး၊ လုပ်ခနှုန်းများလည်း အလွန်အမင်း ကျဆင်းနေလျှင် လူ့အဖွဲ့အစည်းအတွင်း မငြိမ်မသက်မှုများ ဖြစ်ပေါ်၍၊ ယင်းတို့က အရင်းရှင်စနစ်ပျက်စီးရေးဆီသို့ ဦးတည်စေလိမ့်မည် ဖြစ်သည်။

အရင်းရှင်စနစ်ပေါ်သို့ ကျရောက်လျက်ရှိသည့် အဆိုပါ ဖိအားများသည် တဖြည်းဖြည်း စုစည်းများပြားကာ နောက်ဆုံး၌ ထိုစနစ်ကို ဖျက်ဆီးချေမှုန်းပစ်ကြလိမ့်မည်ဟု မာ့က်(စ)က ရှုမြင်ခဲ့သည်။



အရင်းကျမ်း (Capital) အတွဲ (၁) တွင် မာ့က်(စ)က၊

"...အလုပ်သမားတို့၏ ဆင်းရဲဒုက္ခများနှင့်၊ ၎င်းတို့အပေါ် ဖိနှိပ်မှုအုပ်ချုပ်မှု၊ နိမ့်ပါးကျဆင်းစေမှု၊ ခေါင်းပုံဖြတ်မှု အစုစုတို့သည် ထုထည်ကြီးမားလာပြီး၊ ယင်းနှင့် တစ်ပြိုင်တည်းပင် အလုပ်သမားလူတန်းစား၏ တော်လှန်ပုန်ကန်မှုသည်လည်း ကြီးထွားလာလိမ့်မည်။ အလုပ်သမားလူတန်းစားကား အရေအတွက် မပြတ်တိုးပွားလျက် ရှိသကဲ့သို့၊ အရင်းရှင်ကုန်ထုတ်လုပ်မှု ယန္တရားအားဖြင့်ပင် ကျင့်သားရခဲ့၊ ညီညွတ်ခဲ့၊ စုဖွဲ့ဖြစ်ခဲ့ကြသူများလည်း ဖြစ်သည်။ ...ကုန်ထုတ်အရင်းအနှီးများကို လူတစ်စုက ချုပ်ကိုင်စုစည်းထားခြင်းနှင့် အလုပ်သမားတို့ စုဝေးဖွဲ့စည်းမိခြင်းတို့သည် အဆင့်တစ်ခုသို့ ရောက်သောအခါ၌ အရင်းရှင်စနစ် အခွံအကာထဲတွင် ဆက်လက်တည်ရှိ မနေနိုင်တော့။ ၎င်းအခွံအကာသည် ပေါက်ကွဲလွင့်စင်သွားရမည်။ အရင်းရှင်ပစ္စည်းဥစ္စာတို့အတွက် မရဏခေါင်းလောင်းထိုးသံထွက်ပေါ်ကာ၊ သိမ်းပိုက်ထားသူတို့ ပြန်လည်သိမ်းပိုက်ခြင်း ခံကြရမည်ဖြစ်သည်။" ဟူ၍ ရေးသားခဲ့သည်။

မာ့က်(စ)အနေနှင့် အရင်းရှင်စီးပွားရေးစနစ် အကြောင်းကို အသေးစိတ် သုံးသပ်ဝေဖန်ပြခဲ့သော်လည်း အရင်းရှင်စနစ် နောက်ပိုင်းတွင်တည်ရှိမည့် စီးပွားရေးပုံသဏ္ဌာန်နှင့် လူတို့၏ စီးပွားရေးဘဝများ အကြောင်းကိုမူ မည်မည်ရရ ရေးသားခြင်း မရှိခဲ့ပါ။ ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုအလုပ်များ လုပ်ကိုင်မည့် စက်ရုံများ အလုပ်ဌာနများကို အရင်းရှင်များမပိုင်ဘဲ အလုပ်သမားများသာ ပိုင်ဆိုင်ကြလိမ့်မည် ဟူသောအချက်ကိုမူသူ ရှင်းလင်းစွာ ပြောဆိုခဲ့သည်။ ဆိုရှယ်လစ်စီးပွားရေးစနစ်ဟူသည်နှင့်ပတ်သက်၍ နောက်လူတို့ ရှင်းလင်းဖွင့်ဆိုကြသည့် အခါ၌လည်း အဆိုပါအချက်ကိုပင်ယူ၍ ပြောဆိုလေ့ရှိခဲ့ကြပါသည်။ ၎င်းပြင် ဆိုရှယ်လစ်စနစ်အောက်တွင် အရင်းရှင်ခေတ်မှာထက် ဝင်ငွေရရှိမှု၊ မနဥစ္စာခွဲဝေမှုတို့ပိုမိုမျှတမှုရှိလိမ့်မည်ဟု မာ့က်(စ) မျှော်မှန်းယုံကြည်ခဲ့ကြောင်းလည်းထင်ရှားပါသည်။ သည်အချက်များအပြင်မူ၊ အရင်းရှင်စနစ်လွန်ကာလနှင့်ပတ်သက်၍ မာ့က်(စ) ဘာမျှ တိတိကျကျ ပြောဆိုခဲ့ခြင်းမရှိ ဟုဆိုရပါမည်။

သို့သော်၊ အနာဂတ်နှင့်ပတ်သက်၍ ရှင်းလင်းပီပြင်စွာ ပုံဖော်ပြောဆိုခဲ့ခြင်း မရှိသည့်ကြားကပင် ၁၉ ရာစုနှစ် အလုပ်သမားတို့ ညီညာစုရုံးလျက် အရင်းရှင် ဖိနှိပ်မှုကို တော်လှန်ပုန်ကန်ကြရန် သူ တိုက်တွန်းလှုံ့ဆော်နိုင်ခဲ့ ပေသည်။

❖

မာ့က်(စ)ကား အက်ဒမ်စမစ်၊ ဂျွန်မေးနတ်ကိန်း(စ) တို့နှင့်အတူ စီးပွားရေးသမိုင်း၏ အကြီးကျယ်ဆုံးပုဂ္ဂိုလ်ကြီး (၃) ဦး စာရင်းတွင် ထည့်သွင်း သိမှတ်ခြင်း ခံရသူတစ်ဦး ဖြစ်သည်။ မာ့က်(စ)နှင့် ကျန်ပုဂ္ဂိုလ် နှစ်ဦးကြား အယူအဆချင်း သိသိသာသာ ကွဲပြားခြားနားကြသည်။ စမစ်က အရင်းရှင်စီးပွားရေးစနစ်၏ လွတ်လပ်သော ဈေးကွက်မှ ထွက်ပေါ်လာမည့် ကောင်းကျိုး ရလဒ်များကို အဓိကရှုမြင်ပြီး၊ မာ့က်(စ)ကမူ အရင်းရှင်စနစ်၏ အမှောင်ဘက်အခြမ်းများကို မြင်ကာ ယင်းတို့ကို အကြောင်းပြု၍ အရင်းရှင် စနစ် ကိုယ်တိုင်သည်ပင် ပျက်သုဉ်းရလိမ့်မည် ဟုကောက်ချက်ချသည်။ အလားတူပင်၊ ကိန်း(စ)က အစိုးရတို့၏ ကျိုးကြောင်းသင့်မြတ်သော စီးပွားရေးပေါ်လစီများက အရင်းရှင်စနစ်ကို ကယ်တင်နိုင်လိမ့်မည်ဟု ရှုမြင်သည့် အချိန်တွင်၊ မာ့က်(စ)က ယင်းသို့မမြင်၊ အရင်းရှင်တို့သည် အစိုးရပိုင်းပုဂ္ဂိုလ်များအား ငွေနှင့်ပေါက်၍ ဝယ်ယူသွားကြလိမ့်မည် ဟူ၍သာ ယုံကြည်ခဲ့သည်။ မာ့က်(စ)က နိုင်ငံရေးအာဏာပိုင်တို့ အနေနှင့် အလုပ်သမားတို့၏ ဘဝအခြေအနေများ တိုးတက်ကောင်းမွန်စေရန် အတွက် အလုပ်လက်မဲ့အာမခံစနစ်၊ လူမှုဖူလုံရေးစနစ်များ ချမှတ်ခြင်း၊ အများဆုံးအလုပ်ချိန် အနိမ့်ဆုံးလုပ်ခ စသည်များ သတ်မှတ်ခြင်း၊ စသည့် ပြုပြင်ရေးပေါ်လစီများ ကျင့်သုံးဆောင်ရွက်ကြမည် မဟုတ်ရာ၊ အလုပ် သမားတို့ တော်လှန်ပုန်ကန်ကြသည့် အဆင့်ထိ မရောက်အောင် တားဆီး ကာကွယ်နိုင်ကြစရာ အကြောင်းမရှိ ဟုရှုမြင်ခဲ့သည်။

သို့သော်၊ မာ့က်(စ) မျှော်လင့်မထားခဲ့သည့် ပြုပြင်ပြောင်းလဲရေး



ပေါ်လစီ အများအပြားကိုပင် နှစ်ဆယ်ရာစုအတွင်း နိုင်ငံအစိုးရတို့ လက်တွေ့ ကျင့်သုံး ဆောင်ရွက်ခဲ့ကြသည်။ အလုပ်သမားသမဂ္ဂများ ဖွဲ့စည်းရေးတွင် အစိုးရတို့ အားပေးကူညီခဲ့ကြပြီး၊ အလုပ်ရှင်–အလုပ်သမား ပဋိပက္ခများကိုလည်း ကြီးမားပြင်းထန်ခြင်း မရှိရအောင် ညှိနှိုင်းထိန်းသိမ်း ပေးနိုင်ခဲ့သည်။

နိဂုံးချုပ်ဆိုရသော်၊ မာ့က်(စ)အနေနှင့် အရင်းရှင်စနစ်၏ လိုက်သင့် ပြုပြင်ပြောင်းလဲနိုင်မှု စွမ်းရည်ကို လျှော့တွက်ခဲ့သည် ဟူ၍ လည်းကောင်း၊ အရင်းရှင်–အလုပ်သမားပဋိပက္ခတွင် ဒီမိုကရေစီအစိုးရတို့ မျှမျှတတစွာ ပါဝင်ကာ အရင်းရှင်စနစ်၏ ဆိုးဝါးပြင်းထန်သော လက္ခဏာ များ လျော့ပါးစေမည့် ပေါ်လစီများ ချမှတ်ပေးနိုင်ကြလိမ့်မည် ဟူသည် ကို သိမြင်နိုင်စွမ်း မရှိခဲ့ ဟူ၍လည်းကောင်း၊ ကောက်ချက်ချရမည် ဖြစ်ပါသည်။

မာ့က်(စ)၏ အနာဂတ်ဟောကိန်းတွင် ယင်းသို့ အားနည်းချက် များ ရှိခဲ့တာ မှန်သော်လည်း၊ အရင်းရှင်စနစ်၏ လှုပ်ရှားလည်ပတ်ပုံ နှင့် ယင်း၏အစိတ်အပိုင်းများအကြား ဖြစ်ပေါ်သည့် တင်းမာမှုများ အကြောင်းနှင့် ပတ်သက်လျှင်မူ သူ့လောက် နက်နက်ရှိုင်းရှိုင်း သိကျွမ်း နားလည်သူ မရှိခဲ့ဟု သုတေသီတို့ မှတ်ချက်ပြုခဲ့ကြပါသည်။

# လီယွန်ဗောလ်ရပ်(စ)
## (၁၈၃၄ - ၁၉၁၀)



ပြင်သစ်စီးပွားရေးပညာရှင် လီယွန်ဗောလ်ရပ်(စ) (Léon Walras) က အထွေထွေမျှခြေစိစစ်မှုနည်းနာများကို တီထွင်ဖော်ထုတ်ခဲ့ခြင်း အတွက် အမိက ထင်ရှားသူ ဖြစ်သည်။ သူက စီးပွားရေးတစ်ရပ်အတွင်းရှိ ဈေးကွက်အားလုံးတို့ မည်သို့ ဆက်စပ်တည်ရှိကြသနည်း ဟူသည့် သီအိုရီပိုင်းကဲသော ပြဿနာတစ်ရပ်ကို ဖော်ထုတ်သည်။ ထို့နောက်၊ ယင်းပြဿနာကို အဆင့်မြင့်သင်္ချာနည်းစနစ်များဖြင့် ချဉ်းကပ် အဖြေရှာပေးသည်။ သူထုတ်ပေးသည့် အဖြေက၊ စီးပွားရေးတစ်ရပ် အတွင်းရှိ ဈေးကွက်အားလုံးတို့သည် မျှခြေအနေအထားသို့ တစ်ပြိုင်နက် ဆိုက်ရောက်နိုင်ကြသည်ဟူ၍ ဖြစ်သည်။

❖

ဗောလ်ရပ်(စ)ကို ၁၈၃၄ ခုနှစ်တွင် ပြင်သစ်ပြည် ပါရီမြို့ အနောက်ဘက် ကီလိုမီတာ ၉၀ ခန့်အကွာရှိ အက်ဗရူးမြို့၌ မွေးဖွားသည်။ သူ့ဖခင်မှာ ကျောင်းဆရာလည်းဖြစ် စီးပွားရေးပညာရှင်တစ်ဦးလည်း

ဖြစ်သည်။ ဖခင်က လူမှုရေးသိပ္ပံပညာရပ်များနယ်ပယ်၌ သင်္ချာ
တိုးတက် သုံးစွဲလာကြလိမ့်မည် ဖြစ်သည့်အကြောင်း သူ့အား ပြောလေ့
ခဲ့သည်။ ဗောလ်ရပ်(စ)မှာ ဖခင်ကို ချစ်ခင်လေးစားသူဖြစ်သည့် အားလေ
စွာ သူ့အား ဖခင်မျှော်မှန်းထားသည့်အတိုင်း ပညာဘက်တွင် ထူးချ
ထင်ရှားသူတစ်ဦးဖြစ်အောင် ကြိုးစားရန် စိတ်အားထက်သန်ခဲ့သည်
သို့နှင့်၊ အထက်တန်းကျောင်းပြီးသည့်နောက်တွင် ထိုစဉ်က ထင်ရှားသ
ပေါ်လီတက်ကနစ်ကျောင်းသို့ တက်ရောက်ရန် လျှောက်လွှာတင်သည်
သို့သော် ဝင်ခွင့်စာမေးပွဲဖြေသည့်အခါ နှစ်ကြိမ်တိတိ ကျသည်။ အဓိက
အကြောင်းက ပေါ်လီတက်ကနစ်အတွက် လိုအပ်သည့် သင်္ချာအခြေ
မပြည့်မီသောကြောင့် ဟုဆိုသည်။

ပေါ်လီတက်ကနစ် တက်ခွင့်မရသည့်အခါ အင်ဂျင်နီယာကျောင်း
သို့ သူရောက်သွားသည်။ လူမှုရေးသိပ္ပံသင်ချင်သူက အင်ဂျင်နီယာဘာသ
ယူရသည့်အခါ စိတ်မဝင်စား။ ကျောင်းစာမဖတ်ဘဲ စာပေ၊ ဒဿန
အနုပညာ၊ သမိုင်းနှင့် လူမှုရေးသိပ္ပံဘာသာရပ်များကိုသာ မိမိဘာသ
ဖတ်ရှုလေ့လာနေတော့သည်။ ရလဒ်က ကျောင်းထွက်လိုက်ရခြင်း
ဖြစ်သည်။

အဲသည့်နောက် သူ ဝတ္ထုတွေ စမ်းရေးသည်။ သို့သော် သည်ကိစ္စ
မှာလည်း မအောင်မြင်ဘဲရှိနေသည်။

ထိုကာလ တစ်ခုသောညနေ၌ ဖခင်နှင့်အတူ လမ်းလျှောက်
ထွက်စဉ် ဖခင်က လူမှုရေးသိပ္ပံဘာသာရပ်များအား သဘာဝသိပ္ပံ
ဘာသာရပ်များနှင့် နီးစပ်တူညီလာအောင် (ပို၍သိပ္ပံနည်းကျလာအောင်)
ဆောင်ရွက်ရေးသည် ၁၉ ရာစုနှောင်းပိုင်း ပညာရှင်တို့အတွက် ကျန်ရှိ
နေသည့် အဓိက တာဝန်ကြီးတစ်ရပ်ဖြစ်ကြောင်း ပြောဆိုသည်။ သည်တွင်
စိတ်အားထက်သန်လာသည့် ဗောလ်ရပ်(စ)က ယခုအချိန်မှစတင်၍ ဝတ္ထု
ရေးသားခြင်း အလုပ်ကို စွန့်လွှတ်ကာ သိပ္ပံနည်းကျဘောဂဗေဒပညာ
တစ်ရပ် ဖော်ဆောင်နိုင်ရေးအတွက် တစ်သက်ပတ်လုံး အားထုတ်လုပ်ကိုင်
သွားမည်ဟူ၍ ကတိပေးလိုက်သည်။



ထို့နောက်တွင် စီးပွားရေးပညာကို သူ စူးစိုက်လေ့လာသည်။
ခင်၏ ရေးသားချက်များနှင့် စီးပွားရေးပညာရှင်ကြီး ကိုးနိုး (Antoine
gustin Cournot) ၏ ကျမ်းများကို အထူးစိတ်ဝင်တစား ဖတ်ရှုကာ၊
ွားရေးပညာကို အခြားသိပ္ပံပညာရပ်များကဲ့သို့ တိကျသေချာသော
ာရပ်တစ်ခုဖြစ်အောင် လုပ်မည်ဆိုလျှင် သင်္ချာကို အသုံးပြုရလိမ့်မည်
 သူရှုမြင်လာခဲ့သည်။ တစ်နည်းဆိုရသော် သိပ္ပံနည်းကျဘောဂဗေဒ
ည် သင်္ချာဘောဂဗေဒ ဖြစ်ရလိမ့်မည် ဟုမြင်လိုက်ခြင်း ဖြစ်သည်။

သို့သော်၊ သည်အချက်ကို အများလက်ခံလာအောင် အားထုတ်
ည်က ထင်သလောက် မလွယ်ကူလှပေ။ သူ့တွေ့မြင်ချက်များကို
င်းပါးစာတမ်းများ ရေးကာ စီးပွားရေးပညာဂျာနယ်များသို့ ပို့သည်။
သော် ပုံနှိပ်ခြင်း မခံရ။ ပယ်စာတွေသာ တစ်ထပ်ကြီး ပြန်ရသည်။
်သူမျှ လက်မခံကြသော်လည်း သူအားမလျှော့ဘဲ သင်္ချာပညာကို
်လက်လေ့လာသည်။ စီးပွားရေးပညာကို သင်္ချာနည်းနာများဖြင့်
်သို့ မွမ်းမံဖြည့်ဆည်းပေးနိုင်ကြောင်း သူ ဆက်လက် ရှာဖွေဖော်ထုတ်
ရေးသားမြဲရေးသားသည်။ ၁၈၆၀ စုနှစ်များအတွင်း သင်္ချာဘောဂဗေဒ
ွက် ယင်းကဲ့သို့ မပြတ်လုံးပမ်းရင်း တစ်ဖက်ကလည်း စားဝတ်နေရေး
ွက် သတင်းစာဆောင်းပါးများ သူ ရေးသည်။ နောက်တွင်၊ မီးရထား
ဏီတစ်ခု၌လည်း အုပ်ချုပ်ရေးမှူးအဖြစ် လုပ်ကိုင်သည်။

တဖြည်းဖြည်း သူ့စာများက အကျိုးသက်ရောက်မှု ရှိလာသည်။
၇၀ ပြည့်နှစ်တွင် သူ့အား ဆွစ်ဇာလန်ပြည် လော်ဇင်းအကယ်ဒမီ၏
ပညာမဟာဌာနက နိုင်ငံရေးဘောဂဗေဒ ဆရာတစ်ဦးအဖြစ် ခန့်အပ်
ည်။ သို့သော် လော်ဇင်းမှာ စာသင်ရတာ သူအားမရ။ မများလှသည့်
ပည့်များထဲမှာရော၊ ဥပဒေပညာမဟာဌာနမှ လုပ်ဖော်ကိုင်ဖက်များ
ပါ ဘောဂဗေဒ စိတ်ဝင်စားသူ ရှာမရခဲ့။ သို့သော် တစ်ကိုယ်တော်
်ဝင်စားမှုဖြင့် သုတေသနပြုမြဲပြုကာ ဆောင်းပါး – စာတမ်းများ
်ရေးသည်။ ထိုကာလအတွင်း မိခင် ကွယ်လွန်သဖြင့် အမွေရှိရာ၊
်ပိုင်း၌ သူ့စာများကို စာနယ်ဇင်းများအား အခမဲ့ အသုံးပြုစေခဲ့သည်။

ဗောလ်ရပ်(စ)၏ အားထုတ်မှုများက အကျိုးရလဒ် ထင်ရှ သထက် ထင်ရှားလာသည်။ သူ့စာတမ်းများကို ပညာရှင်လောက သတိပြုလာ စိတ်ဝင်စားလာကြသည်။ စီးပွားရေးပညာကို ပို၍ သိပ္ပံနည်း ကျအောင် စွမ်းဆောင်မှုများအတွက် သူ့အား နိုင်ငံတကာအဖွဲ့အစည်းများ ဆုတံဆိပ်များ ချီးမြှင့်လာကြသည်။ နောက်ပိုင်း၌ အမေရိကန်စီးပွား ပညာရှင်အသင်းကြီးကပါ သူ့အား ဂုဏ်ထူးဆောင်အသင်းသားအ အသိအမှတ်ပြုခဲ့သည်။

❖

စီးပွားရေးပညာ၌ ဗောလ်ရပ်(စ)၏ ဖြည့်ဆည်းချက် အများအ ရှိခဲ့သည်။

သူသည်၊ ဝီလျံ ဂျက်ဗန်း(စ) (William Stanley Jevo ကားလ် မင်းဂါးရ် (Carl Menger) နှင့် အခြားပုဂ္ဂိုလ်အချို့နည်း အစွန်းထွက်ကျေနပ်မှု (marginal utility) သဘောကို မိမိတို့ဘာသ တသီးတခြားစီ ရှာဖွေတွေ့ရှိကြသူများထဲတွင် တစ်ဦးအပါအဝင် ဖြစ်သ ထို့ပြင်၊ စီးပွားရေးဖြစ်စဉ်များနှင့် စပ်လျဉ်းသည့် ရှင်းလင်းချက်မှန်သမျှ လူတစ်ဦးချင်းတို့၏ ရွေးချယ်မှုပေါ်တွင် အခြေခံရလိမ့်မည်ဟု ယုံကြ သည့် methodological individualism အယူအဆကို အစော အနိုင်မာဆုံး တင်ပြခဲ့သူလည်း ဖြစ်သည်။ သို့သော် ဗောလ်ရပ်(စ) အများဆုံး သိရှိကြသည်က အထွေထွေ မျှခြေ အနေအထားပြ စီးပွားရေ (general equilibrium economic model) တစ်ရပ် တည်ဆောက် ခဲ့ခြင်းအတွက် ဖြစ်သည်။ ယင်းပုံစံ၌ သူက စီးပွားရေးစနစ် ဟူသည် တစ်ခုနှင့်တစ်ခု ချိတ်တွယ်ဆက်စပ်လျက်ရှိသည့် သင်္ချာညီမျှခြင်းတ အဖြစ် ပြထားပြီး၊ သည်ညီမျှခြင်းများမှနေ၍ ဈေးနှုန်းများ၊ ကုန်ပစ္စ အရေအတွက်များကို တွက်ချက်အဖြေရှာရန် နည်းလမ်းများ သူ ရှာ ခဲ့သည်။



စီးပွားရေးတစ်ရပ်အတွင်း ကဏ္ဍအသီးသီးတို့ တစ်ခုနှင့်တစ်ခု ဆက်စပ်ပတ်သက်မှုရှိပုံ အကြောင်းကား စီးပွားရေးပညာ ခေတ်ဦးကာလ ဘက်ကပင် ပညာရှင်တို့ သတိပြုမိခဲ့သည့် အချက်တစ်ခု ဖြစ်သည်။ ရ်ချတ်ကင်တေးလွန် (Richard Cantillon)၊ ဖရွန်ဆွာကင်နေး (Francois Quesnay) စသည့်ပုဂ္ဂိုလ်များ လက်ထက်ကပင် သည် သဘောကို ပြောဆိုခဲ့ကြသည်။ ဗောလ်ရပ်(စ)က ထိုရှုမြင်ချက်ပေါ်တွင် ောက်ထပ်အရေးကြီးသော အချက်နှစ်ရပ် ဖြည့်စွက်ပေးခဲ့သည်။ တစ်ချက် ား ဈေးကွက်အားလုံးတို့ ဆက်စပ်ပတ်သက်နေပုံကို သင်္ချာညီမျှခြင်းများ အားဖြင့် ပြသခြင်း (mathematical representation) ဖြစ်ပြီး၊ နောက် တစ်ချက်မှာ၊ မည်သည့်စီးပွားရေးမဆို ယင်းရှိဈေးကွက်အားလုံး မျှခြေ အနေအထားသို့ ရောက်အောင် ဦးတည်ရွေ့လျားစမြဲဖြစ်သည် ဟူသော င်ပြပြောဆိုချက် ဖြစ်သည်။

ဗောလ်ရပ်(စ)က ဈေးကွက်တစ်ခုပေါ်သို့ ပြင်ပအင်အားများ သက်ရောက်မှုကြောင့် ၎င်းဈေးကွက်အတွင်း ပြောင်းလဲမှုများ ဖြစ်ပေါ်သည့် ခါမျိုးတွင် ယင်း၏ဂယက်ကြောင့် အခြားဈေးကွက်များ၌ပါ အပြောင်း လဲမှုများ သက်ရောက်ဖြစ်ပေါ်သည် ဟုရှုမြင်သည်။

ဥပမာ၊ ၁၉၇၀ ခုနှစ်အတွင်း အိုပက်အဖွဲ့က ရေနံဈေးနှုန်းများ မြှင့်တင်လိုက်သည့်အခါ စားသုံးသူတို့ ဓာတ်ဆီလောင်စာဆီများကို ဈေးကြီးပေး၍ ဝယ်ကြရသည်။ စားသုံးသူတို့ လက်ဝယ်ရှိ ငွေကြေး အများ အပြား လောင်စာဆီအတွက် ပေးလိုက်ရသည့်အခါ အခြားကုန်ပစ္စည်းများ အတွက် သုံးစွဲရန် ငွေကြေး နည်းပါးသွားသည်။ ထို့ကြောင့် အဆိုပါ ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချသူများမှာ ထုတ်လုပ်မှုကို လျှော့ချလာ သည်။ ထိုအခါ ကုန်ထုတ်လုပ်ငန်း၌ သုံးစွဲထားသည့် လုပ်သားဦးရေကို လျှော့ပေါ့လာရသည်။ အလုပ်လက်မဲ့ဦးရေ တိုးပွားလာသည့်အခါ စားသုံးသူတို့ဘက်က ဝယ်ယူသုံးစွဲနိုင်အား ကျဆင်းလာသည်။ ထိုအခါ ကုန်ပစ္စည်း ထုတ်လုပ်မှုများ ကိုလည်းကောင်း၊ ထိုမှဆက်၍ လုပ်သားဦးရေ ကိုလည်းကောင်း ထပ်မံလျှော့ပေါ့လာရပြန်သည်။

ထို့ပြင် လောင်စာစွမ်းအင်ဈေးနှုန်း မြင့်တက်သွားသည့်အ
ကုန်ထုတ်လုပ်မှုစရိတ်များလည်း မြင့်တက်လာသည်။ လောင်စာစွမ်း
များများမသုံးဘဲ ထုတ်လုပ်နိုင်သည့် ကုန်ပစ္စည်းများပင် ရောင်း
ဖောက်ကားသည့် နေရာများသို့ ပို့ဆောင်ရာ၌ သယ်ယူစရိတ်များ
ကထက် ပိုလာသည်။ အလားတူ၊ ကုန်ပစ္စည်းထုတ်လုပ်ရာ၌ အသုံး
ရသည့် အစိတ်အပိုင်းများ၊ ကုန်ကြမ်းပစ္စည်းများကို သယ်ယူသည့်အ
လည်း ယခင်ကထက် စရိတ်တက်လာသည်။ ခြုံပြောရသော်၊ ထိုအကြော
များက ကုန်ပစ္စည်းဈေးနှုန်းကို တိုးမြင့်စေလျက်ရှိသည်။ သို့သော
တစ်ဖက်တွင် လုပ်သားဦးရေ လျော့ချမှုများနှင့်အတူ လုပ်ခနှုန်းများလည်
ကျဆင်းလာမည်ဖြစ်ရာ၊ ယင်းကမူ ထုတ်လုပ်မှုစရိတ်ကို တစ်ဖက်တစ်လ
သက်သာအောင် ဖန်တီးပေးနေသည်။ ထို့ကြောင့် ပြန်ချုပ်လျှင်၊ လောင်
စွမ်းအင်ဈေးနှုန်းများ တက်သည့်အခါ၌ စွမ်းအင်များများ လုပ်အ
နည်းနည်း အသုံးပြုရသည့် ထုတ်ကုန်ပစ္စည်းများ ဈေးနှုန်းတက်
စွမ်းအင်နည်းနည်း လုပ်အားများများ သုံးရသည့် ထုတ်ကုန်ပစ္စည်းမျ
ဈေးနှုန်းကျမည်ဟု ကောက်ချက်ချနိုင်သည်။ သို့သော်၊ ချိတ်ဆက်ဖြစ်စဉ်
သည်တွင်မရပ်ချေ။ ကုန်ပစ္စည်းဈေးနှုန်း အတက်အကျများ ဖြစ်သည့်အ
စားသုံးသူတို့က ဈေးနှုန်းတက်သည့် ပစ္စည်းကို လျှော့ဝယ်၍၊ ဈေးအပြော
အလဲမရှိသော ပစ္စည်းနှင့် ဈေးကျသော ပစ္စည်းများကို ပိုမိုဝယ်ယူ
ကြမည်။ ထိုအခါ ဝယ်ယူမှုအပြောင်းအလဲနှင့် လျော်ညီစွာ ကုန်ထုတ်လုပ်
အတိုးအလျှော့များ ဖြစ်ပေါ်မည်။ ထိုအခါ ထုတ်လုပ်ရာ၌ အသုံးပြုရသ
အသွင်း (input) ပိုင်း၊ ဥပမာ၊ လုပ်သားဦးရေ၊ လောင်စာစွမ်းအင်သုံးစွဲ
စသည်တို့တွင် အတိုးအလျှော့များ ပြုလုပ်လာရမည်။ ထိုအခါ၊ အဆို
အသွင်းပိုင်းကဏ္ဍ၏ ဈေးနှုန်းများလည်း အပြောင်းအလဲ ဖြစ်မည်။ ထိုအ
ထုတ်လုပ်ကုန်ကျစရိတ်တွင် အပြောင်းအလဲ ဖြစ်မည်။ ထိုအခါ ကုန်ပစ္စည်
တစ်ခုချင်းတို့၏ ဈေးနှုန်းတွင် အပြောင်းအလဲ ဖြစ်ပြန်မည်။ ထိုအခါ
စသဖြင့်။



သည်နေရာ၌ ဗောလ်ရပ်(စ) တင်ပြသည့် အထွေထွေ မျှခြေ အနေ
ထား အယူအဆနှင့် ဆက်စပ်လျက် မေးခွန်းထုတ်စရာတစ်ခု ရှိလာသည်။
င်းက၊ အထက်၌ဆိုခဲ့သည့် ချိတ်ဆက်အပြောင်းအလဲတို့သည် တဖြည်း
ည်း အရှိန်သေကာ အခြေအနေတစ်ခု၌ တည်ငြိမ်သွားမည်လား၊
ဈေးကွက်တိုင်းမှာပင် ထုတ်ကုန်ပစ္စည်းတန်ဖိုး အသွင်းပစ္စည်းတန်ဖိုးတို့ကို
အပြောင်းအလဲဖြစ်စေသည့် သက်ရောက်မှုအားလုံး ငြိမ်သက်သွားသည့်
နေအထားမျိုး ရောက်ရှိနိုင်မည်လား၊ ဟူသောအချက် ဖြစ်သည်။ ဗောလ်
ပ်(စ)က မုချရောက်ရမည်ဟု ပြတ်ပြတ်သားသား ဆိုသည်။ ထို့နောက်
အဆိုကို အထောက်အကူပြုနိုင်ရန်အတွက်၊ စီးပွားရေးတစ်ရပ်အတွင်းရှိ
တ်ကုန်ပစ္စည်းဈေးကွက် အသီးသီး၊ အသွင်းပစ္စည်းဈေးကွက် အသီးသီး
ကို ကိုယ်စားပြုနိုင်မည့် သင်္ချာညီမျှခြင်းအတွဲများ သူ ထုတ်ဖော်
င်ပြသည်။

❖

ဗောလ်ရပ်(စ)၏ အဆိုပါ စီးပွားရေးပုံစံ (economic model)
င် ညီမျှခြင်းအတွဲ (၄) စုံ ပါဝင်သည်။

ပထမအတွဲသည် ကုန်ပစ္စည်းတစ်ခုချင်းနှင့် ပတ်သက်၍ စားသုံး
တို့ တောင်းဆိုသည့် အရေအတွက် (ဝယ်လိုအားပမာဏ) အသီးသီးကို
ပြသည်။ ဝယ်လိုအားဟူသည် စားသုံးသူတစ်ဦးချင်း၏ နှစ်သက်
ချယ်မှုပေါ်တွင်လည်းကောင်း၊ စားသုံးသူဝယ်ယူနိုင်သည့် ဈေးနှုန်း
နေအထား ရှိမရှိပေါ်တွင်လည်းကောင်း မူတည်သည်။ ထို့ကြောင့်
အား ဗောလ်ရပ်(စ)က၊ စားသုံးသူတို့ လိုချင်သည့် အဆိုပါပစ္စည်း
ရေအတွက်၊ စားသုံးသူတို့၏ ဝင်ငွေနှင့်၊ ပစ္စည်းဈေးနှုန်းတို့ ပါဝင်သော
မျှခြင်းတစ်ခုဖြင့် ပြသသည်။

ဒုတိယညီမျှခြင်းအတွဲကမူ၊ စားသုံးသူတို့ ဝယ်ယူကြသည့်
ကုန်ပစ္စည်းအသီးသီးတို့၏ ဈေးနှုန်းများကို ဘယ်အရာက ပြဋ္ဌာန်း

ပေးကြောင်း ဖော်ပြသည်။ ဗောလ်ရပ်(စ)က ဈေးကွက်အားလုံးပင် ယှဉ်ပြိုင်ရသော နေရာချည်းဖြစ်ရာ၊ လုပ်ငန်းသမားများ အနေနှင့် လက်ဝါးကြီးအုပ် လုပ်ကိုင်ခွင့်ရထားသည့်ပမာ အလွန်မြင့်မားသော ဈေးနှုန်းများ သတ်မှတ်နိုင်ခြင်း မရှိ ဟုရှုမြင်သည်။ ထို့ကြောင့်၊ သူက ကုန်ပစ္စည်းအသီးသီး၏ ဈေးနှုန်းသည် ယင်း၏ ထုတ်လုပ်ကုန်ကျစရိတ် (အသွင်းပစ္စည်းအသီးသီး တို့၏ ဈေးနှုန်းနှင့် သုံးစွဲရသည့်ပမာဏများ မြှောက်လဒ်) ပေါ်တွင်မူတည် သည် ဟုသတ်မှတ်သည်။

အထက်က ညီမျှခြင်းတွဲနှစ်ခုသည် ထုတ်ကုန်ဈေးကွက်နှင့် ပတ်သက်သည်။

နောက်ထပ်ညီမျှခြင်းတွဲနှစ်ခုမှာမူ အသွင်းပစ္စည်း (input) ဈေးကွက်၊ တစ်နည်းအားဖြင့် (ကုန်ထုတ်) အင်အားစုဈေးကွက် (factor market) များအတွက် ဖြစ်သည်။

ယင်းအနက် ညီမျှခြင်းတွဲတစ်ခုသည်၊ ကုန်ပစ္စည်းထုတ်လုပ်ရာ သုံးစွဲထည့်ဝင်ရသည့် မြေ၊ လုပ်အား၊ အရင်း တည်းဟူသော အင်အားစု (အသွင်းပစ္စည်း) သုံးခုတို့၏ ပမာဏကို ပြသည်။ ၎င်းပစ္စည်းအသီးသီး အနေနှင့် ပမာဏ မည်ရွေ့မည်မျှစီ ထည့်ဝင်ကြမည် ဟူသောအချက်ကို ယင်းပစ္စည်းပိုင်ရှင်များဖြစ်သည့် မြေရှင်၊ လုပ်သားနှင့် အရင်းရှင် တို့က ဆုံးဖြတ်ကြသည်။ ယင်းအဆုံးအဖြတ်သည်၊ အဆိုပါကုန်ထုတ်လုပ် ဖြစ်စဉ်တွင် ပါဝင်ရန်အတွက် မိမိဘက်က အခက်အခဲ သို့မဟုတ် အားထုတ်ရမည့် အတိုင်းအဆနှင့်၊ ယင်းမှရရှိမည့် အကျိုးခံစားခွင့်ပမာဏ တို့ပေါ်တွင် မူတည်မည် ဖြစ်သည်။

နောက်ဆုံးညီမျှခြင်းတစ်တွဲကမူ ကုန်ထုတ်လုပ်ငန်းသမားများ ဝယ်ယူလိုမည့် အသွင်းပစ္စည်းတို့၏ ပမာဏကို ပြသသည်။ ၎င်းပမာဏ သည် ကုန်ပစ္စည်းများနှင့် ပတ်သက်သည့် စုစုပေါင်းဝယ်လိုအား ပေါ်၌ လည်းကောင်း၊ ထုတ်လုပ်ရာတွင် အသုံးပြုသည့် နည်းပညာနှင့် အသွင်း ပစ္စည်းတို့၏ တန်ဖိုးပေါ်၌လည်းကောင်း မူတည်သည်။ လုပ်ငန်းသမားများ အနေနှင့် ၎င်းအချက်များကို အသုံးပြုကာ ထုတ်လုပ်ကုန်ကျစရိတ် အသက်သာဆုံး နည်းလမ်းကို တွက်ချက်နိုင်မည် ဖြစ်သည်။ ဥပမာ၊ စားသုံးသူ တို့က အဝတ်အထည်ဘက်တွင် ငွေကြေး ပိုမိုသုံးစွဲလာကြမည် ဆိုပါစို့။ အဝတ်အထည် ထုတ်လုပ်သူတို့အနေနှင့် အလုပ်သမားများ တိုးတက် ငှားရမ်းလာရပြီး၊ စက်ပစ္စည်းများလည်း ပိုမိုဝယ်ယူလာရမည် ဖြစ်သည်။ သို့သော်၊ အကယ်၍၊ လုပ်ခနှုန်းထားများ မြင့်မားလာလျှင်ဖြစ်စေ၊ လုပ်အား လျော့ပါးသက်သာစေသည့် နည်းပညာသစ် စက်ပစ္စည်းသစ်များ ပေါ်ပေါက် လာလျှင်ဖြစ်စေ၊ လုပ်ငန်းသမားတို့အနေဖြင့် လုပ်သားငှားရမ်းမှု လျှော့ချ ခြင်း၊ စက်ပစ္စည်းသစ် တိုးတက်ဝယ်ယူသုံးစွဲခြင်းများ ပြုလုပ်လာကြမည် ဖြစ်၏။

❖

အထက်၌ ညီမျှခြင်း (၄) မျိုးအကြောင်း ပြောခဲ့သည်။

၎င်းတို့အကြောင်း ပြန်ချုပ်၍ပြောသော်၊ ညီမျှခြင်းတစ်ခုသည် ကုန်ပစ္စည်းများအတွက် ဝယ်လိုအားပမာဏကို ပြသည်။ ဒုတိယက၊ ကုန်ပစ္စည်းဈေးနှုန်းနှင့် ထုတ်လုပ်ကုန်ကျစရိတ်တို့ ဆက်သွယ်ပုံကို ပြသည်။ တတိယသည် အသွင်းပစ္စည်း ရောင်းလိုအားပမာဏကို ပြပြီး၊ နောက်ဆုံး တစ်ခုမှာ အသွင်းပစ္စည်း ဝယ်လိုအားပမာဏကို ပြသည်။

အဆိုပါညီမျှခြင်း (၄) မျိုးကို အသုံးပြုကာ အဖြေရှာရမည့် မသိကိန်း (၄) ခု ရှိသည်။ ၎င်းတို့မှာ၊ (၁) ကုန်ပစ္စည်းအသီးသီး၏ ဈေးနှုန်း၊ (၂) ကုန်ပစ္စည်းတစ်ခုစီ၏ အရောင်းအဝယ်ဖြစ်သော ပမာဏ၊ (၃) အသွင်း ပစ္စည်းအသီးသီး၏ ဈေးနှုန်း နှင့် (၄) အသွင်းပစ္စည်းအသီးသီး၏ အရောင်း အဝယ်ဖြစ်သောပမာဏ တို့ဖြစ်သည်။

ဗောလ်ရပ်(စ)က သူ၏ ဘောဂဗေဒသင်္ချာ၌ အဆိုပါ မသိကိန်း (၄) ခု နှင့် ညီမျှခြင်း (၄) မျိုးတို့ အပြင်၊ နောက်ထပ် ညီမျှခြင်းတစ်ခု ဖြည့်စွက်လာသည်။ ၎င်းညီမျှခြင်း၌ သူက၊ အသွင်းအင်အားစုတို့လက်ခံ ရရှိသည့် ငွေပမာဏအားလုံးပင် တစ်စုံတစ်ရာ ဝယ်ယူသည့်နေရာ၌

ပြန်လည် အသုံးပြုကြရမြဲ ဖြစ်သည် ဟူသောအချက်ကို အခိုင်အ
ဖော်ထုတ်ပြောဆိုသည်။ ဤတွင်၊ အားလုံးကို ပြန်လည်သုံးစွဲသည် ဆိုရာ
တချို့က မိမိ ရရှိသမျှ ဝင်ငွေကို တိုက်ရိုက် ကိုယ်တိုင် သုံးစွဲခြင်း ဖြစ်
တချို့ကမူ တစ်စိတ်တစ်ဒေသကိုသာ တိုက်ရိုက်သုံးစွဲပြီး၊ ကျန်ငွေ
သူတစ်ပါးအား ချေးငှားသောနည်းဖြင့် (သွယ်ဝိုက်) သုံးစွဲခြင်း ဖြစ်သ
ဟုဆိုလိုခြင်း ဖြစ်သည်။

သို့သော်၊ ထို နောက်တိုးညီမျှခြင်းသည် ဖောလ်ရပ်(စ)အတွ
ဖြေရှင်းရခက်သော ပြဿနာများ ဖန်တီးပေးလာသည်။ အကြောင်း
မသိကိန်း အရေအတွက်နှင့် ယင်းတို့ပါဝင်သည့် ညီမျှခြင်း အရေအတွက်
တူညီမှသာ ၎င်းတို့ကို ဖြေရှင်းပေးနိုင်သောသဘော ရှိသောကြောင့် ဖြ
သည်။ ယခုသူ့မှာ မသိကိန်းအရေအတွက်ထက် ညီမျှခြင်းအရေအတွက်
တစ်ခုပိုနေသည်။ ထို့ကြောင့် ၎င်းပြဿနာကို ရှောင်လွှဲရန်အတွ
နည်းလမ်း ရှာရသည်။ သူက အလျဉ်းသင့်ရာ ကုန်ပစ္စည်း အမျိုးအမ
တစ်ခုကို စံပစ္စည်း (သင်္ကေတအားဖြင့် G 1) ဟူ၍ယူလိုက်သည်။ ထို့နော
အခြားကုန်ပစ္စည်း အသီးသီးတို့၏ ဈေးနှုန်းကို အရှိပကတိအတို
တိုက်ရိုက်မယူဘဲ ၎င်းစံပစ္စည်း၏တန်ဖိုးနှင့် နှိုင်းယှဉ်၍ ယင်း၏ တစ်ဝ
သို့မဟုတ် ယင်း၏ တစ်ဆခွဲ စသဖြင့် တွက်ချက်သတ်မှတ်ပေးရန် စီ
သည်။ ဤသို့ပြုလုပ်ခြင်းဖြင့် သူ၏ အထွေထွေ မျှခြေ အနေအထာ
စီးပွားရေးပုံစံတွင် မသိကိန်း အရေအတွက်နှင့် ညီမျှခြင်းအရေအတွက်
တူညီလာသည်။ သူ့နည်းစနစ်ဖြင့် ကုန်ပစ္စည်းအားလုံးတို့၏ တန်ဖိုး
စံပစ္စည်း (G 1) နှင့် နှိုင်းယှဉ် အဖြေရှာပေးနိုင်လာသည်။ ကုန်ပစ္စည်
တစ်ခုချင်း၏ ပကတိတန်ဖိုးနှင့် ပတ်သက်၍ ဘာကြောင့် အဲသည့်လော
ရှိရသည်ကိုမူ ရှင်းလင်းခြင်း မပြုနိုင်။ ဥပမာ၊ နွားနို့တစ်ဂါလံ၏ ဈေးနှု
သည် ၂ ဒေါ်လာဖြစ်သည် ဆိုပါစို့။ ဘာကြောင့် ၁ ဒေါ်လာ မဖြစ်သလဲ
သို့မဟုတ် ဘာကြောင့် ၄ ဒေါ်လာ မဖြစ်သလဲဆိုတာ သူမရှင်းနိုင်။ သို့သော်
နွားနို့တစ်ဂါလံဈေးနှုန်းသည် ဘာကြောင့် ကြက်ဥတစ်ဒါဇင်ဈေးနှုန်း
နှစ်ဆ ရှိနေရသည်၊ သို့မဟုတ် ဘာကြောင့် နေ့စဉ်သတင်းစာဈေးနှုန်း



ားဆ ရှိနေရသည် ဟူသည်ကိုမူ သူ့ညီမျှခြင်းများအားဖြင့် ရှင်းပြနိုင်
သည်။

❖

စီးပွားရေးစနစ်အား ယင်းသို့ညီမျှခြင်းများအဖြစ် ရှုမြင်ခြင်းသည်
ပ်ဆုပ်ကိုင်ကိုင် မရှိ၊ စိတ္တဇဆန်လွန်းသည်ဟု ဆိုချင်စရာ ဖြစ်ပါသည်။
ပြင်၊ အကယ်၍ စီးပွားရေးတစ်ရပ်အတွင်း၌ ယင်းသို့ အထွေထွေ မျှခြေ
နေအထားတစ်ခု တည်ရှိနေကြောင်း သင်္ချာညီမျှခြင်းများအားဖြင့်
တ်သေပြနိုင်ခဲ့သည်ပဲ ဆိုပါစို့၊ ယင်းက လက်တွေ့စီးပွားရေးနှင့် မည်သို့
တ်သက်သနည်း၊ လက်တွေ့လောကတွင် မည်သို့အသုံးချနိုင်မည်နည်း၊
ဖြင့် မေးခွန်းထုတ်စရာ ရှိပါသေးသည်။ အကြောင်းက၊ လက်တွေ့
ွားရေးလောက၌ အရာအားလုံးပင် အစဉ်မပြတ် ပြောင်းလဲနေပြီး၊
န်ပစ္စည်းအသီးသီး၏ ဈေးနှုန်းများနှင့် လုပ်သားအသီးသီး၏ လုပ်ခများ
သည်တို့ကို အဆိုပါညီမျှခြင်းပေါင်း မြောက်မြားစွာ အသုံးပြု၍ မပြတ်
က်ထုတ်ပေးနေမည့် စီးပွားရေးဂုရုမျိုးလည်း မရှိသောကြောင့် ဖြစ်သည်။

ဖောလ်ရပ်(စ)ကမူ ထိုငြင်းချက်များကို လက်မခံ။ မိမိ၏ သင်္ချာ
ညီမျှခြင်းများမှ တွက်ထုတ်ပေးသော အဖြေသည် လက်တွေ့ စီးပွားရေး
ာကအတွင်း ဈေးကွက်အသီးသီးတို့ ၎င်းတို့ဘာသာ ရွေ့လျားရောက်ရှိ
ားသော အနေအထားနှင့် အတူတူပင် ဖြစ်သည် ဟုယုံကြည်သည်။
စ်နည်းဆိုသော်၊ သူ၏ သင်္ချာညီမျှခြင်းများဖြင့် ဖွဲ့တည်ထားသည့်
ာ်ကူးထဲက စီးပွားရေးပုံစံသည် ပကတိစီးပွားရေးလောကကို တူညီစွာ
င်ဟပ်ဖော်ပြနိုင်စွမ်း ရှိသည်ဟု သူခံယူခြင်း ဖြစ်သည်။

သူက စီးပွားရေးတစ်ရပ်အတွင်း မည်သည့်ဂုရုမျှ ဝင်ရောက်
တီးခြင်း မရှိဘဲ အထွေထွေမျှခြေအနေအထားသို့ မည်သို့ ရောက်ရှိနိုင်
ည်နည်းဟူသော အမေးပုစ္ဆာကို ယခုကဲ့သို့ ဆက်လက်အဖြေထုတ်ပြသည်။

ဦးစွာပထမ သူက၊ အရောင်းအဝယ်ပြုလုပ်သူတိုင်းသည် တန်
အမြင့်ဆုံး ရရှိချင်ကြသည်၊ ယင်းသို့ တန်ဖိုးအမြင့်ဆုံး ရလိုမှုနှင့် ဈေးကွ
တွင်း ပြိုင်ဆိုင်မှုတို့က စီးပွားရေးတစ်ရပ်လုံးကို သူ၏ ညီမျှခြင်းများ
ပြထားသည့်အတိုင်း မျှခြေဈေးနှုန်းများသို့ ရောက်အောင် တွန်းပို့
နေသည် ဟုဆိုသည်။

ထို့နောက် သူက၊ လေလံပွဲကြီးတစ်ခုဖြင့် ဥပမာပြု ပြောဆိုသည်
သူ့စိတ်ကူးထဲက လေလံပွဲကြီးသို့ ကုန်ပစ္စည်းထုတ်လုပ်သူများက မိမိ
ပစ္စည်းများ ရောင်းချရန် ယူလာပြီး၊ စားသုံးသူတို့က ဝယ်ယူရန် ရောက်
လာကြသည် ဆိုပါစို့။ လေလံသဘာဝအတိုင်း ထုတ်လုပ်သူတို့က
ကုန်ပစ္စည်းဈေးနှုန်းများကို သတ်မှတ်ပေးပြီး၊ ၎င်းကို လေလံဆရာ
ကြေညာပေးလိမ့်မည်။ ထိုအခါ တချို့ဈေးနှုန်းများ၌ တချို့ကုန်ပစ္စည်း
ကို ဝယ်ယူလိုသူ အလွန်များနေပြီး၊ တချို့ကုန်ပစ္စည်းများကိုမူ ဝယ်ယူလို
အလွန်နည်းနေကြောင်း တွေ့ရမည် ဖြစ်သည်။ ထိုအခါ လေလံဆရာသ
ဝယ်လိုအားများသော ပစ္စည်းနှင့် ဝယ်လိုအားနည်းသော ပစ္စည်း အသီးသ
တို့ကို မှတ်သားကာ ပထမပစ္စည်းမျိုးကို ဈေးနှုန်းတင်ပြီး ဒုတိယပစ္စည်
မျိုးကို ဈေးနှုန်းလျှော့သတ်မှတ်လျက် ထပ်မံကြေညာလိမ့်မည်။ ထိုအ
ရောင်းသူရော ဝယ်သူပါ မည်မျှရောင်းမည် မည်မျှဝယ်မည် ဟူသော
ဆုံးဖြတ်ချက်များကို ပြန်ပြင်ကြလိမ့်မည်။ ထိုအခါ အချို့ကုန်ပစ္စည်းမျ
သည် ဝယ်လိုသူနှင့်စာသော် အရေအတွက်နည်းနေပြီး၊ အချို့ပစ္စည်း
ပိုလျှံနေတာ တွေ့ရပြန်မည် ဖြစ်သည်။ ထိုအခါ လေလံဆရာ
ဝယ်လိုအားနှင့်လျော်ညီစွာ ဈေးနှုန်း အတိုးအလျှော့တွေ ထပ်လုပ်
ထပ်ကြေညာရလိမ့်မည်။ ဤသို့ အကြိမ်ကြိမ်အထပ်ထပ် စမ်းသပ်ပြုပြင်ခြ
(စမ်းတဝါးဝါးသွားခြင်း) အားဖြင့် လေလံဆရာသည် မျှခြေဈေးနှုန်းမျ
ဆီသို့ ရောက်ရှိပြီး ၎င်းအနေအထားကျမှသာ ဈေးကွက်အားလုံး အပြည့်အ
ရောင်းဝယ်ဖြစ်ကြမည်၊ ဟူ၍ သူကဆိုသည်။

ဗောလ်ရပ်(စ)က အပြင်လောကရှိ ဈေးကွက်ပေါက်ဈေးများသ
လည်း သူ့စိတ်ကူးထဲမှ လေလံဆရာကဲ့သို့ပင် ပကတိ အနေအထား



...လျော်ညီစွာ ပြောင်းလဲရွေ့လျားတတ်သောသဘာဝ ရှိသည်ဟု မှတ်ယူသည်။
...ရောင်းသူ (ရောင်းကုန်ပစ္စည်း) နည်းပြီး ဝယ်သူများနေလျှင် ဈေးတက်၍
...ရောင်းသူများပြီး ဝယ်သူနည်းနေလျှင်မူ ဈေးကျသွားတာ ထုံးစံဖြစ်သည်။
...ကြောင့် ပကတိစီးပွားရေးလောက၌လည်း ဈေးကွက်တို့သည် မျှခြေ
...ဈေးနှုန်းဆီသို့ တဖြည်းဖြည်း ရွေ့လျားသွားရမည်သာ ဖြစ်သည်ဟု သူ
...ဆိုခဲ့သည်။

❖

ဗောလ်ရပ်(စ)၏ လေလံဆရာနှင့် စမ်းသပ်ပြုပြင်ဖြစ်စဉ် သဘော
...ကို ထောက်ပြဝေဖန်မှုများ ရှိခဲ့သည်။ ၎င်းဖြစ်စဉ်သည် ပကတိအနေအထား
...နှင့် ထပ်တူကျသည်ဟု အများမယူဆကြ။ လက်တွေ့လောက၌ အရောင်း
အဝယ်တို့သည် အထွေထွေမျှခြေ ဈေးနှုန်းရောက်မှဖြစ်ကြသည်မဟုတ်။
...ပြင် မျှခြေဆိုသည်မှာလည်း နောက်ထပ်အရောင်းအဝယ်များ ဆက်ဖြစ်
...နေသရွေ့ ပြောင်းလဲမှု တစ်စုံတစ်ရာ ရှိနေမည်သာဖြစ်သည် ဟုမြင်ကြ
...သည်။

စမ်းသပ်ပြုပြင်ဖြစ်စဉ်နှင့် ပတ်သက်၍ နောက်တစ်ချက် ပြောစရာ
...ရှိသည်က၊ လက်တွေ့လောက၌ ဈေးနှုန်းအပြောင်းအလဲကို အခြေအနေ
...ရပ်ရပ် သိရှိသော လေလံဆရာက ဆုံးဖြတ်ခြင်း မပြုဘဲ၊ ရောင်းသူတို့
...သာ ပြုလုပ်နေကြခြင်း ဖြစ်သည်။ ထို့ပြင်၊ ရောင်းသူဆိုသည်မှာလည်း
...သားများသာဖြစ်ရာ အချိန်မရွေး မှားနိုင်ကြသည်။ ဈေးချသင့်သည့်
အချိန်မှာ ဈေးတင်ပြီး၊ တင်သင့်သည့်အချိန်ကျမှ ဈေးချရောင်းတာမျိုးတွေ
...လုပ်မိနိုင်ကြသည်။

နောက်ထပ်ထောက်ပြကြသည်က၊ ဗောလ်ရပ်(စ)၏ ညီမျှခြင်း
...များကို ရှင်းသည့်အခါ၌ ဈေးနှုန်းများ (အဖြေများ) သည် တစ်ခါတစ်ရံ ...
...နှင့်သာမက အနုတ်လက္ခဏာနှင့်ပါ ထွက်လာနိုင်သည် ဟူသော အချက်
...ဖြစ်သည်။ ယင်းအဖြေများအရမူ မိမိ ထုတ်လုပ်ထားသော ကုန်ပစ္စည်းကို

အလကားချပေးသည့်သဘော၊ ဝယ်သူထံမှ ငွေမယူရုံမက ကိုယ်က
ပြန်ပေးဦးမည့် သဘောမျိုးဖြစ်ရာ လက်တွေ့သဘာဝနှင့် ဖီလာဆန့်ကျ
နေသည်။

သို့သော်၊ ထိုအားနည်းချက်များအတွက်ကြောင့် ဖောလ်ရပ်(စ)၏
ကြီးမားသော စွမ်းဆောင်မှုများ လျော့ပါးမှေးမှိန်သွားခြင်း မရှိပါ။

ဖောလ်ရပ်(စ)အနေနှင့် စီးပွားရေးပညာရှင်များအား မတူသေ
ဈေးကွက်များအကြား ဆက်စပ်ပတ်သက်မှုရှိပုံ အကြောင်းကို အာရုံစိုက်
လာအောင် တွန်းအားပေးနိုင်ခဲ့သည်။ ထို့ပြင် အထွေထွေ မျှခြေ အ
အထား၏ သဘောသဘာဝများကို စနစ်တကျ ပုံဖော်ချမှတ်ပေးနိုင်ခဲ့ခြင်
စီးပွားရေးတစ်ရပ်ကို သင်္ချာညီမျှခြင်းများအားဖြင့် စူးစမ်းလေ့လာ
ပြုနိုင်ကြောင်းပြသခဲ့ခြင်းတို့က နောက်ပိုင်းစီးပွားရေးပညာဆိုင်ရာ ဖြစ်ပေ
တိုးတက်မှုများအတွက် များစွာ အထောက်အကူပြုခဲ့သည်။ ထိုဆောင်ရွ
ချက်များကြောင့် သူ့အား စီးပွားရေးပညာသမိုင်းတစ်လျှောက် အရေးပါသေ
ထိပ်သီးပုဂ္ဂိုလ်များ စာရင်းတွင် ထည့်သွင်း ဖော်ပြလေ့ရှိခဲ့ကြပါသည်။

# ဝီလျံ စတင်လေ ဂျက်ဗန်း(စ)

(၁၈၃၅ - ၈၂)



ဝီလျံ စတင်လေ ဂျက်ဗန်း(စ) (William Stanley Jevons)က
နှုန်းထွက်ကျေနပ်မှု (marginal utility) ဟူသောအချက်ပေါ်တွင်
ခြေခံသည့် နှိုင်းရဈေးနှုန်းများ (relative prices) သို့မဟုတ် ဖလှယ်
န်ဖိုးများ (exchange values) ဆိုင်ရာ သီအိုရီတစ်ရပ်ကို ဖော်ထုတ်
င်ပြခဲ့ခြင်းအတွက် လူသိများသည်။ ၁၉ ရာစုစောစောပိုင်း ကျမ်းရိုး
ဘာဂဗေဒပညာရှင်တို့က ကုန်ပစ္စည်းတို့၏ နှိုင်းရဈေးနှုန်းများကို
တ်လုပ်မှုစရိတ် (cost of production) ကသာ ပြဋ္ဌာန်းသည်ဟူ၍
မြင်ခဲ့ကြသည်။ ဂျက်ဗန်း(စ)၏အမြင်ကမူ ၎င်းတို့နှင့် လုံးဝ ခြားနား
သည်။ ၎င်းက၊ နှိုင်းရဈေးနှုန်းများဟူသည် ကုန်ပစ္စည်းအသီးသီးတို့ကို
ယ်ယူရာ၌ စားသုံးသူတို့ မည်မျှ နှစ်သက်ကျေနပ်ကြသနည်း ဟူသော
ချက် (ဝါ) ဝယ်သူတို့၏ ဆန္ဒစွဲ အကဲဖြတ်ချက်များပေါ်တွင် မူတည်၍
ပေါ်သည် ဟုရှုမြင်သည်။

ထို့ပြင်၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာသီအိုရီ (growth the-
y)၊ စီးပွားရေးသံသရာဆိုင်ရာသီအိုရီ (business cycle theory) တို့
စပ်လျဉ်း၍လည်း ဂျက်ဗန်း(စ)၏ ပါဝင်ဖြည့်ဆည်းမှုများ ရှိခဲ့ပါသည်။

ဂျက်ဗန်း(စ)ကို ၁၈၃၅ ခုနှစ်တွင် အင်္ဂလန်ပြည် လစ်ဗာပူးလ်မြ
လူလတ်တန်းစား အထက်လွှာမိဘများက မွေးဖွားသည်။ ဖခင်မှ
သံကုန်သည်တစ်ဦးဖြစ်ပြီး၊ မိခင်ကမူ ဘဏ်လုပ်ငန်းရှင်များ၊ ရှေ့နေရှေ့
များ ပါဝင်သည့် ချမ်းသာသောမျိုးရိုးမှ ဆင်းသက်သည်။

မိဘချမ်းသာသဖြင့် ငယ်စဉ်က ကောင်းစွာ ပညာသင်ကြား
ရသည်။ အစပိုင်းတွင် အိမ်မှာ ဆရာနှင့် သင်ရသည်။ ထို့နောက်တွ
သူကြွယ်သားသမီးများ တက်သည့် ပုဂ္ဂလိကကျောင်းများမှာ နေရသည်
ထို့နောက်၊ လန်ဒန်ရှိ ယူနီဗာစီတီကောလိပ်သို့ တက်ရောက်ကာ သတ္တ
နှင့် သင်္ချာဘာသာရပ်များကို သင်ယူသည်။

ဗြိတိန်နိုင်ငံ၌ မီးရထားလမ်းဖောက်လုပ်ငန်းများ အရှိန်
သွားသည့်အခါ သံလုပ်ငန်းထဲတွင် မြှုပ်နှံထားသည့် ဂျက်ဗန်း(စ)
မိသားစုလည်း စီးပွားပျက်သလို ဖြစ်သွားခဲ့သည်။ သို့နှင့် ၁၈၅၄ ခုနှစ်မှာ
ကျောင်းမှထွက်ကာ ရွှေ ငွေ စမ်းသပ်စစ်ဆေးသည့် ပညာ သင်ကြား
ဩစတြေးလျတိုက် ဆစ်ဒနီမြို့ရှိ ဒင်္ဂါးစက်ရုံ၌ အလုပ် သွားရောက်လုပ်
သည်။ ထိုကာလအတွင်း နယူးဆောက် သဝေးလ်(စ)ပြည်နယ် မီးရထား
လမ်းဖောက်လုပ်ရေးအတွက် ငွေပင်ငွေရင်းစိုက် ထုတ်သည့် ကိစ္စ
ပြဿနာတစ်ခုဖြစ်ပွားရာ ၎င်းအားအကြောင်းပြု၍ စီးပွားရေးပညာ
ဂျက်ဗန်း(စ) စိတ်ဝင်စားသွားပြီး၊ ထင်ရှားသော ကျမ်းရိုးဘောဂဗေ
ပညာရှင်ကြီးများ၏ ရေးသားချက်များကို စတင် ဖတ်ရှုလေ့လာသည်
ထိုစဉ်က သူ အထူးပြုလေ့လာခဲ့သည်များမှာ အက်ဒမ်စမစ်၊ မဲလ်သပ်(
နှင့် ဂျွန်စတူးဝပ်မေးလ် တို့၏ ကျမ်းများ ဖြစ်သည်။ ထို့နောက်တွင်၊ လူ့အ
အစည်းအတွက် ကောင်းကျိုးပြုလိုသော ဆန္ဒ၊ အထူးသဖြင့် တိုင်းပြည်နိုင်
တို့ ဖွံ့ဖြိုးကြွယ်ဝအောင် ကူညီဆောင်ရွက်ပေးလိုသောဆန္ဒ ပြင်းပြလာ
ယင်းအတွက် မိမိကိုယ်ကို ဦးစွာဖြည့်ဆည်းသည့် အနေဖြင့် ပညာ ဆ
လက်သင်ကြားရန် ဆုံးဖြတ်ခဲ့သည်။ သို့နှင့်၊ ၁၈၅၉ ခုနှစ်တွင် အင်္ဂလန်
ပြန်သွားပြီး၊ နောက်နှစ်မှာပင် ယူနီဗာစီတီကောလိပ်သို့ တက်ရောက်
သင်္ချာ၊ နိုင်ငံရေးဘောဂဗေဒ၊ ဒဿနိက နှင့် သမိုင်း ဘာသာရပ်များ
သင်ယူသည်။



နိုင်ငံရေးဘောဂဗေဒဘာသာကို သူ စိတ်ဝင်စား၍ ယူခဲ့သော်လည်း
ည်ဘာသာရပ်နှင့် ပတ်သက်၍ တက္ကသိုလ်မှ သင်ကြားနေပုံများကို သူ
သောမကျ။ ကျောင်းကပို့ချတန်းတွေ သွားတက်တာနှင့်စာလျှင် မိမိ
ဘာသာလေ့လာ ဖတ်ရှုတာကမှ ပိုအကျိုးရှိသေးသည်ဟု သူမြင်သည်။
သော် ကျောင်းကိုကား ဆက်တက်ဖြစ်ခဲ့ပြီး၊ နိုင်ငံရေးဘောဂဗေဒနှင့်
လျဉ်း၍ ယူနီဗာစီတီကောလိပ်မှ ချီးမြှင့်သည့် မဟာဘွဲ့အထိ သူ ရရှိ
သည်။

ထို့နောက်တွင်၊ မန်ချက်စတာရှိ အိုဝင်း(စ)ကောလိပ်တွင် ဆရာ
ဖြစ် ဝင်ရောက်ကာ ၁၃ နှစ်ကြာမျှ သင်ကြားရေးအလုပ်များကို
ကိုင်ရင်း တစ်ဖက်က စာအုပ်စာတမ်းများ ရေးသားပြုစုခဲ့သည်။ ၁၈၇၆
စ်တွင်မူ လန်ဒန်ရှိ ယူနီဗာစီတီကောလိပ်က သူ့အား နိုင်ငံရေး ဘောဂ
ပါမောက္ခအဖြစ် ခန့်အပ်လေသည်။ သည်ရာထူး၌ စာများများ မသင်ရ၊
ချုပ်ရေးပိုင်းဆိုင်ရာ အလုပ်များလည်း သိပ်မလုပ်ရသဖြင့် စာရေးရန်
ချိန်ရလာသည်။ သို့သော် စာအုပ်စာတမ်းများ တကယ် လေ့လာပြုစု
သားတော့မည် ဆိုသည့်အခါ၌မူ မများလှပါဘူးဆိုသည့် ကျောင်းအလုပ်
ကြောင့် မလွတ်မလပ်ဖြစ်နေပြန်သဖြင့် ၁၈၈၀ ခုနှစ်၌ ပါမောက္ခရာထူးမှ
ထွက်လိုက်သည်။

သို့သော် သူ စိတ်အားထက်သန်သော အလုပ်ကို ကြာရှည်လုပ်ခွင့်
ခဲ့။ စောစောပိုင်းကာလကပင် အလုပ်ဒဏ် ပိလွန်းသဖြင့် သူ့ကျန်းမာရေး
ကျခဲ့သည်။ ယူနီဗာစီတီမှထွက်ပြီး နှစ်နှစ်ခန့်အကြာ တစ်ခုသောနေ့၌
ကူးနေစဉ် သတိလစ်ကာ ရေနစ်သေဆုံးသွားခဲ့သည်။

❖

၁၈၆၅ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေဖြစ်သည့် ဂျက်ဗန်း(စ)၏
ပထမဆုံးစာအုပ်မှာ ကျောက်မီးသွေးပြဿနာ (The Coal Question)
သည်။ သည်စာအုပ်၌ ကျောက်မီးသွေးကိစ္စကို သူ အလေးတကြား

သတိပေးနှိုးဆော်ထားပြီး၊ သုံးသပ်တင်ပြပုံကလည်း လူဦးရေကို ... မဲလ်သပ်(စ) (Thomas Robert Malthus) တင်ပြပုံမျိုး ဖြစ်သည်။

သူက အင်္ဂလန်တွင် လောင်စာရှားပါးမှုပြဿနာကြောင့် အကြီး ... အကျယ် အခက်အခဲ ကြုံတွေ့ရလိမ့်မည်ဟု ဟောကိန်းထုတ်လိုက်သည်။

ဦးစွာပထမ အင်္ဂလန်တွင် ရှိနေသည့် ကျောက်မီးသွေးသိုက် ... ပမာဏကို သူ ခန့်မှန်းတွက်ချက်ပြသည်။ ထို့နောက် အင်္ဂလန်က သုံးစွဲ ... သည့် ကျောက်မီးသွေးပမာဏနှင့် ယင်းပမာဏတိုးတက်နေမှု နှုန်းထား ... တွက်ချက်ပြသည်။ ထို့နောက်၌ ယင်းနှစ်ခုဆက်စပ်ကာ၊ လက်ကျန် ... ကျောက်မီးသွေးသိုက်က တစ်နေ့တခြား လျော့ပါးလာနေစဉ် ကျောက် ... မီးသွေး သုံးစွဲမှုနှုန်းထားက တစ်နေ့တခြား မြင့်မားလာနေကြောင်း၊ ... ယင်းကြောင့် တစ်နေ့တွင် ကျောက်မီးသွေးဈေးနှုန်းများ အဆမတန်တိုး ... လာလိမ့်မည် ဖြစ်ကြောင်း၊ ထို့နောက်တွင် ကျောက်မီးသွေး မလုံလောက် ... ကို အကြောင်းပြု၍ အင်္ဂလန်၏ ဖွံ့ဖြိုးတိုးတက်နေသော စီးပွားရေး ယန္တရား ... ကြီး ရပ်ဆိုင်းသွားလိမ့်မည်ဖြစ်ကြောင်း သူ ကောက်ချက်ဆွဲပြခဲ့သည်။

ကျောက်မီးသွေးပြဿနာ တင်ပြရာ၌ ဂျက်ဗန်း(စ)က အပျ ... ဘက်ကို အားသန်သွားခဲ့သည်။ ကျောက်မီးသွေးနေရာတွင် အစားဝင်မည့် ... အခြား လောင်စာပစ္စည်းတစ်ခုခု ပေါ်ပေါက်နိုင်ကောင်းသည်ဟု ... မမျှော်လင့်ခဲ့။ ထို့ပြင်၊ ကျောက်မီးသွေးလောင်စာကိုပင် လေလွင့်ပြုန်းတီး ... အနည်းဆုံးဖြစ်အောင် ထိန်းသိမ်းသုံးစွဲမည်ဆိုက စီးပွားရေး ဖွံ့ဖြိုး ... ရပ်ဆိုင်းသွားမည့် အချိန်နေ့ရက်ကို ကာလတစ်ခုအထိ နောက်သို့ ရွှေ့ ... နိုင်မည်ဖြစ်ကြောင်းလည်း သူ သုံးသပ်တင်ပြခြင်း မရှိခဲ့။ ပို၍ အံ့သြ ... ကောင်းသည်က၊ ကျောက်မီးသွေးအပေါ်၌ အခွန်အတုတ် ကောက်ခံခြင်း ... ပြည်ပသို့တင်ပို့ရောင်းချမှု မပြုနိုင်အောင် တားမြစ်ခြင်း စသည့် အလွယ ... တကူ စဉ်းစားမိနိုင်ပြီး၊ ထိရောက်မှုလည်း ရှိမည့် ထိန်းချုပ်ရေးပေါ်လစီများ ... သူ မတင်ပြခဲ့ခြင်း ဖြစ်သည်။ သူက ယင်းသို့ သက်သာစရာ နည်းလမ်း ... စဉ်းစားကြံဆမပေးဘဲ၊ နောင်တစ်နေ့ လောင်စာပြတ်လပ်သည့် ကာလ ... စီးပွားရေးကျပ်တည်းသည့် ဒဏ်ကို ခါးစည်းခံကြရမည့် နောက်မျိုးဆက် ...

... အား အပိုဝန်မပိစေရန်အတွက် လောလောဆယ် တိုင်းပြည်က တင်ရှိ ... သည့် ကြွေးမြီများကို အခြေအနေကောင်းတုန်းတွင် မြန်မြန်ဆပ်ခဲ့ရန်သာ ... တိုက်တွန်းပြောဆိုခဲ့သည်။

"ကျောက်မီးသွေးပြဿနာ" က ဂျက်ဗန်း(စ)အား နေ့ချင်းညချင်း ... ထင်ရှားသွားစေခဲ့သည်။ မကြာမီ ကျောက်မီးသွေး ပြတ်လပ်တော့မည် ... သော သတင်းတွေ ဗြိတိသျှသတင်းစာများက အလုအယက် ဖော်ပြလာ ... ကြသည်။ ဗြိတိသျှတွေးခေါ်ရှင် စီးပွားရေးပညာရှင် ဂျွန်စတူးဝပ်မေးလ် (John Stuart Mill) က ဂျက်ဗန်း(စ)အား ချီးကျူးသောစကားများ ... ပါလီမန်၌ ပြောကြားသည်။ အစိုးရကလည်း သည်ပြဿနာကို စုံစမ်း ... လာရန်အတွက် ကျောက်မီးသွေး ကော်မရှင်တစ်ရပ် ဖွဲ့စည်းတာဝန် ... ပေးသည်။

သို့သော်၊ တကယ်လက်တွေ့၌ ကျောက်မီးသွေးပြဿနာသည် ဂျက်ဗန်း(စ)တင်ပြသလို အလန့်တကြား ဖြစ်လော့က်သည့် အနေအထား ... မရှိခဲ့ပေ။ ထို့ပြင်၊ နောက်ပိုင်း ပြောင်းလဲလာသော အနေအထားများအရ ... ခန့်မှန်းချက် အချို့မှာလည်း လွဲချော်သွားခဲ့ရသည်။ ဥပမာ၊ သူက ၁၈၆၁ ... ခုနှစ် အင်္ဂလန်၏ ကျောက်မီးသွေးသုံးစွဲမှု ပမာဏကို မူတည်ကာ၊ ထိုစဉ်က ... ရှိနေသည့် နှစ်စဉ် တိုးတက်သုံးစွဲနှုန်း (၃.၅ ရာခိုင်နှုန်း) နှင့်တွက်ချက်ပြီး၊ နောက်နှစ် ၁၀၀ အကြာ ၁၉၆၁ ခုနှစ်ရောက်လျှင် ဗြိတိန်၌ ကျောက်မီးသွေး ... တန်ချိန် သန်းပေါင်း ၂၆၀၀ မျှ လိုအပ်လိမ့်မည်ဟု ခန့်မှန်းပြောဆိုခဲ့သည်။ ... သို့သော်၊ ၁၉၆၂ ခုနှစ်၌ တကယ် သုံးစွဲဖြစ်သော ကျောက်မီးသွေးပမာဏမှာ တန်ချိန် ၁၉၂ သန်းသာဖြစ်ရာ၊ သူ့ခန့်မှန်းချက်၏ ၁၀ ပုံ ၁ ပုံ မျှပင်မရှိခဲ့ပေ။

ဂျက်ဗန်း(စ)၏ ခန့်မှန်းချက်များ ထိုမျှလွဲချော်သွားရသည့် အဓိက ... အကြောင်းမှာ၊ ကျောက်မီးသွေးနေရာတွင် အစားဝင်မည့် ရေနံ၊ သဘာဝ ... ဓာတ်ငွေ့၊ ရေအားလျှပ်စစ် စသည့်အရာများ ပေါ်ထွန်းလာလိမ့်မည်ဟု ... ကြိုတင်မသိမြင်နိုင်ခဲ့ခြင်း ဖြစ်သည်။ ထို့ပြင်၊ အနာဂတ်နှင့်ပတ်သက်၍ စိုးရိမ် ... ကြောင့်ကြမှုလွန်ကဲတတ်သည့် ဂျက်ဗန်း(စ)၏ စိတ်သဘာဝနှင့်လည်း ... တစ်စိတ်တစ်ပိုင်း သက်ဆိုင်လိမ့်မည်ဟု ယူဆရသည်။ ကျောက်မီးသွေး

ပြတ်လပ်ခြင်းနှင့်အတူ သူ သုံးစွဲနေသည့် စာရေးစက္ကူများလည်း ပြတ်သူ နိုင်သည်ဟု တွေးတောပူပန်ကာ စက္ကူအမြောက်အမြားပင် ဂျက်ဗန်း( ဝယ်ယူသိုလှောင်ထားခဲ့ရာ သူကွယ်လွန်ပြီး နှစ်ပေါင်း ၅၀ ကျော်ပြ သည့်တိုင် သူ့သားမြေးများမှာ သူ့စက္ကူတွေ သုံး၍ မကုန်နိုင်သေး ဆိုသည်။

❖

စီးပွားရေးပညာ၌ ဂျက်ဗန်း(စ)၏နာမည် ထင်ရှား တွင်ကျန် ရခြင်း အကြောင်းရင်းကမူ လောင်စာပြတ်တောက်မှုပြဿနာကို တွေး ပူပန်ခဲ့ခြင်းအတွက် မဟုတ်၊ ကျေနပ်မှု (အလိုဆန္ဒပြည့်ဝမှု) (utili ပမာဏ ပိုင်းခြားစိစစ်သောနည်းကို စီးပွားရေးပညာနယ်ပယ်သို့ ထည့်သွ ယူဆောင်လာခဲ့ခြင်းအတွက် ဖြစ်သည်။ အခြားစီးပွားရေး ပညာရှင်နှ ဖြစ်သူ ဂျေဘီကလတ်(ခ) (J. B. Clark) နှင့် ကားလ်မင်ဂါး၏ (C Menger) တို့လည်း ပုဂ္ဂလဓိဋ္ဌာန်ကျေနပ်မှု (subjective utili ဟူသောသဘော ကိုလည်းကောင်း၊ အစွန်းထွက်ကျေနပ်မှု လျော့နည် သွားခြင်းဆိုင်ရာ အခြေခံမှု (the principle of diminishing ma ginal utility) အကြောင်း ကိုလည်းကောင်း၊ တစ်ဦးချင်း သီးခြာ လေ့လာတွေ့ရှိခဲ့ကြပါသည်။ ၎င်းအချက်နှစ်ရပ်လုံးပင် စီးပွားရေးပ အတွက် အရေးကြီးသော တွေ့ရှိချက်များ ဖြစ်သည်။ အကြောင်း ၎င်းတို့ကြောင့်သာ စီးပွားရေးစိစစ်မှုများ ပြုလုပ်ရာ၌ စားသုံးသူ လည်းကောင်း၊ စားသုံးသူ၏ အပြုအမူ (သဘောသဘာဝ) ဟူသည် လည်းကောင်း စတင် ထည့်သွင်းစဉ်းစားလာနိုင်ခဲ့ခြင်းကြောင့် ဖြစ်ပါသည်

သည်ကဏ္ဍ၌ ဂျက်ဗန်း(စ)က မင်းဂါး၏တို့ထက် ပိုသာသည် ကျေနပ်မှုစိစစ်ချက် (utility analysis) ၏ အကျိုးဆက်သက်ရောက် များနှင့် ၎င်းအား လက်တွေ့အသုံးချနိုင်သည့် အလားအလာများ ဆက်လက် ဖော်ထုတ် တင်ပြနိုင်ခဲ့ခြင်း ဖြစ်သည်။

အစွန်းထွက်ကျေနပ်မှု လျော့နည်းသွားခြင်းဆိုင်ရာ အခြေခံမှုကို ခြစ်ဖော်ထုတ်ချ၍ အလုပ်လုပ်ကိုင်စဉ် ကာလလောက် ကတည်းက ဂျက်ဗန်း(စ) တွေ့ရှိခဲ့ခြင်း ဖြစ်မည်ဟု ခန့်မှန်းရသည်။ ၎င်းစိတ်ကူးကို ၁၈၆၀ ခုနှစ်က သူ၏ညီအစ်ကိုတစ်ယောက်ထံ ရေးသောစာတွင် သူ ထည့်သွင်းဖော်ပြခဲ့သည်။ ၎င်းစာ၌ "ဒီအထဲက အရေးကြီးဆုံး မှန်ကန်ချက် (axiom) တစ်ရပ်ကတော့၊ လူတစ်ယောက် သုံးစွဲရမဲ့ ကုန်ပစ္စည်းတစ်ခု၊ ပမာအားဖြင့် စားစရာတစ်ခုခုပဲ ဆိုပါတော့၊ အဲဒါရဲ့ အရေအတွက် များလာလေ၊ နောက်ဆုံးတစ်ခုက ပေးနိုင်တဲ့ အကျိုးကျေးဇူး၊ သို့မဟုတ် နောက်တစ်ခု ထပ်စားသုံးရတဲ့အတွက် ဖြစ်ပေါ်တဲ့ ကျေနပ်မှုပမာဏဟာ လျော့နည်းသွားလေပဲ ဆိုတဲ့အချက်ဖြစ်တယ်၊" စသဖြင့်ပါရှိကြောင်း၊ စီးပွားရေးတွေးခေါ်ရှင်ကြီး ဂျွန်မေးနတ်ကိန်း(စ)က ၎င်းရေးသားသည့် ဂျက်ဗန်း(စ) အတ္ထုပ္ပတ္တိစာတမ်း၌ ကိုးကားဖော်ပြခဲ့သည်။

ထိုစာတွင် ယေဘုယျဖော်ပြခဲ့ပြီး၊ နောက်နှစ်ပေါင်းအတော်ကြာ ၁၈၇၁ ခုနှစ်ကျမှသာ၊ စုစုပေါင်းကျေနပ်မှု (total utility)၊ ကျေနပ်မှု နှုန်းအများ (degree of utility) နှင့် အစွန်းထွက်ကျေနပ်မှု (marginal utility) တို့ အကြောင်းကို နိုင်ငံရေးဘောဂဗေဒသီအိုရီ (The Theory of Political Economy) ကျမ်းတွင် ပို၍တိတိကျကျ ကွဲကွဲ ပြားပြား ရေးသားတင်ပြခဲ့သည်။ ဂျက်ဗန်း(စ)၏ ၎င်းတင်ပြချက်မှနေ၍၊ စားသုံးသူအပြုအမူဆိုင်ရာ ခေတ်သစ်သီအိုရီတစ်ရပ် ပေါ်ထွန်းလာခဲ့သည်။

ဂျက်ဗန်း(စ)က၊ ယေဘုယျအားဖြင့်မှု လူတို့အနေနှင့် ကုန်ပစ္စည်း တစ်ခုကို ပို၍ပို၍ စားသုံးလာကြသည်နှင့်အမျှ၊ ၎င်းကိုစားသုံးခြင်းမှ ရှိသည့် စုစုပေါင်းကျေနပ်မှုပမာဏမှာ တိုးပွားလာမြဲဖြစ်ကြောင်း၊ သို့သော် တစ်ဖက်တွင်မူ၊ ၎င်းကုန်ပစ္စည်းကို စားသုံးကျင့် ရလာသည်နှင့်အမျှ တစ်ခုချင်းအတွက် ခံစားရသည့် ကျေနပ်မှုပမာဏမှာ တဖြည်းဖြည်း ယုတ်ဆင်းလာလေ့ရှိကြောင်း ရှင်းပြသည်။ ဥပမာ၊ နွေညနေ အပြင်မှာ ပူနေ ချိန်တွင် အေးအေးလူလူရှိသည့် ဆိုင်ထဲရောက်ပြီး ပထမဆုံး သောက်လိုက် သည့် ဘီယာတစ်ခွက်သည် (ကြိုက်တတ်သူအတွက်) အလွန် အရသာ

ရှိသည်။ ဘယ်လောက်ကျေနပ်သလဲ မေးလျှင် အများကြီး ကျေနပ်သည်။ ဒုတိယဘီယာတစ်ခွက်သည် ကောင်းတော့ ကောင်းသည်၊ သို့သော် ပထမခွက်လောက် အားပါးတရ မရှိ။ တတိယခွက်တွင် ကျေနပ်မှု ပိုလျော့သွားပြီ။ ငါးခွက်ခြောက်ခွက်လောက် ရောက်သွားလျှင်တော့ တော်ပြီ၊ တော်ပြီ မသောက်ချင်တော့ဘူး ဖြစ်လာမည်။ ခွက်ရေ တိုးလာသည်နှင့်အမျှ တစ်ခွက်ချင်းအပေါ်၌ ခံစားရသည့် ကျေနပ်မှုပမာဏ (ဝါ) အစွန်းထွက် ကျေနပ်မှုပမာဏ လျော့ကျလာသည့်သဘော ဖြစ်သည်။

ထိုသဘောအရ ရှုမြင်ကာ ပုဂ္ဂလဓိဋ္ဌာန် ကျေနပ်မှု သီအိုရီသမားများက၊ စားသုံးသူတို့သည် မိမိတို့အား ကျေနပ်မှုအများဆုံးပေးနိုင်သည့် ကုန်ပစ္စည်းများကို ဝယ်ယူစားသုံးကြသည် ဟုကောက်ချက်ချပါသည်။ ဂျက်ဗန်း(စ)ကမူ ထိုထက်တစ်ဆင့်တက်ကာ၊ စားသုံးသူတစ်ဦးအနေနှင့် ငွေကြေးသုံးစွဲမှုတွင် အပြောင်းအလဲပြုသော်လည်း သူ ခံစားရရှိသည့် စုစုပေါင်းကျေနပ်မှုပမာဏ တိုးတက်လာခြင်းမရှိပါက ၎င်းစားသုံးသူသည် 'မျှခြေ' (equilibrium) အနေအထား၌ ရောက်ရှိနေပြီ ဟုဆိုရမည် ဖြစ်ကြောင်း၊ တစ်ဖန်၊ စားသုံးသူတစ်ဦး အနေနှင့် သည်ပစ္စည်းများ ဝယ်ယူနေရာမှ ထိုပစ္စည်းများကို လွယ်လင့်တကူ ပြောင်းလဲဝယ်ယူနိုင်သော အနေအထား ရှိမည်၊ မိမိအား ကျေနပ်မှု မဆိုစလောက်သာ ပေးနိုင်သော ပစ္စည်းများ သို့မဟုတ် အချည်းနှီးအလဟဿဟု ယူဆသော ပစ္စည်းများကို မဝယ်ဘဲ ကျေနပ်မှုအများဆုံး ပေးနိုင်သည့် ပစ္စည်းများကို ဝယ်ယူနိုင်ခွင့် ရှိမည်ဆိုက ၎င်းစားသုံးသူသည် မူလထက် ပို၍ ကြွယ်ဝပြည့်စုံလာပြီဟု ဆိုနိုင်မည်ဖြစ်ကြောင်း ဆက်လက်သုံးသပ်ပြသည်။

သည်သဘောထားအမြင်က အစိုးရတို့အား လူသုံးကုန်ပစ္စည်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများနှင့် စပ်လျဉ်း၍ ချုပ်ချယ်ကန့်သတ်မှုများ အလွန်အကျွံ မပြုလုပ်ရန် ဟန့်တားပေးသောသဘော ရှိသည်။ ဥပမာ ဆေးလိပ်နှင့်အရက် ဆိုပါစို့။ ၎င်းတို့ကို လွတ်လပ်စွာ ရောင်းဝယ်ဖောက်ကားခွင့်ရမည်ဆိုက စားသုံးသူတို့အနေနှင့် မိမိကျေနပ်မှု အပြည့်အဝဆုံး ခံစားရသည့် ပမာဏမျှကို အပိုအလိုမရှိ ဝယ်ယူသုံးစွဲကြမည် ဖြစ်သည်။



အစိုးရက လိုင်စင်များ အခွန်အတုတ်များအားဖြင့် ဈေးကြီးအောင်၊ ဝယ်ရ ခက်လွယ်ကူအောင် ကန့်သတ်ထားသည့်အခါ တစ်တိုင်းပြည်လုံးရှိ စားသုံးသူတို့၌ ကျေနပ်မှုများ ကျဆင်းသွားသည်။ ထိုကဏ္ဍတစ်ခုနှင့် စပ်လျဉ်းသည့် စည်းစိမ်ချမ်းသာများလည်း လျော့ပါးသွားသည်။ ဆေးလိပ်နှင့်အရက် နည်းတူ၊ အခြားကုန်ပစ္စည်းများ ဝန်ဆောင်မှုများတွင် ကန့်သတ်မှုပြုလျှင် လည်း အလားတူ ကျေနပ်မှု၊ ကြွယ်ဝပြည့်စုံမှုတို့ လျော့နည်းသွားမည် ဖြစ်သည်။

❖

ကျေနပ်မှုသဘောကို မူတည်၍ ဂျက်ဗန်း(စ) ရှုမြင်သုံးသပ်သည့် အခြားကဏ္ဍတစ်ခုက၊ လုပ်သား (labour) ကိစ္စ ဖြစ်သည်။ လုပ်ခနှုန်းထားများ သတ်မှတ်ဖြစ်ပေါ်ပုံ၊ လုပ်သားဈေးကွက် လှုပ်ရှားလည်ပတ်ပုံ အကြောင်းတို့ကို 'ကျေနပ်မှု' ရှုထောင့်မှ သူ ရှင်းလင်းတင်ပြသည်။ ဂျက်ဗန်း(စ)က၊ လုပ်အား စိုက်ထုတ်လုပ်ကိုင်ရခြင်း ဟူသည် ကျေနပ်ဖွယ်သက်စရာ မဟုတ်၊ ထို့ကြောင့် အလုပ်ဟူသည် ကျေနပ်မှု ရှုထောင့်မှ ကြည့်လျှင် အနုတ်လက္ခဏာပြသော အရာသာ ဖြစ်သည်။ လုပ်သားသည် အလုပ်လုပ်မှုသက်သက်မှ ကျေနပ်မှု မခံစားရ၊ ကျေနပ်မှု ယုတ်လျော့ခြင်းသာ ရှိသည်။ သို့သော်၊ တစ်ဖက်တွင်မူ သူ စိုက်ထုတ်သည့် လုပ်အားအတွက် လုပ်ခကိုရရှိပြီး၊ ယင်းလုပ်ခငွေဖြင့် ကုန်ပစ္စည်းများ ဝယ်ယူသုံးစွဲသောအခါ၌ ကျေနပ်မှုခံစားရသည်ဖြစ်ရာ၊ သွယ်ဝိုက်သောနည်းဖြင့်မူ အလုပ်မှ အပေါင်းလက္ခဏာ ဆောင်သော ကျေနပ်မှုလည်း ရရှိသည် ဟုဆိုနိုင်သည်။ ထို့ကြောင့်၊ လူအသီးသီးတို့သည်၊ အလုပ်လုပ်သဖြင့် ကျေနပ်မှု ယုတ်လျော့ခြင်း (စိတ်ပင်ပန်းခြင်း) နှင့် လုပ်အားခဖြင့် ဝယ်ယူရရှိသော ပစ္စည်းများကြောင့် ကျေနပ်မှုခံစားရခြင်း (စိတ်ချမ်းသာခြင်း) နှစ်ခုတို့ကို ချိန်ဆကာ၊ အလုပ်အတွက် ပေးရခြင်းထက် အလုပ်မှ ရခြင်းက များသည်ဆိုလျှင် အလုပ်လုပ်မည်၊ ပေးတာနှင့်ရတာ မကာမိ၊ ပင်ပန်း

တာသာ အဖတ်တင်သည် ဟုယူဆလျှင် ဘာမှမလုပ်ဘဲ အားအားယား
နေမည်ဟု ဆုံးဖြတ်ရွေးချယ်ကြမည်ဖြစ်ကြောင်း သုံးသပ်ပြသည်။

လုပ်အားဈေးကွက်ကို ကျေနပ်မှုအခြေခံမှ စိစစ်သုံးသပ်မှုမျ
ပြုလုပ်သည့်အခါ၊ ယခင်ရှိနှင့်သည့် စီးပွားရေးအယူအဆများနှင့် ကွဲလွဲသေ
အမြင်သစ်များ ထွက်ပေါ်လာသည်။ ပထမအချက်မှာ၊ စီးပွားရေးပညာရှ
ဖရွန်ဆွာကင်နေး (François Quesnay) စတင်ခွဲခြားပြောဆိုခဲ့သည်
အကျိုးရလဒ်ထွက်သော လုပ်အားနှင့် အကျိုးရလဒ်မထွက်သော လုပ်အ
(productive and unproductive labour) ဟူသောအယူအဆ
များယွင်းသည်ဟု မြင်လာရခြင်း ဖြစ်သည်။ အကြောင်းက၊ လုပ်သားသည
သူ ရရှိသောလုပ်ခဖြင့် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ ဝယ်ယူစားသုံး
ကျေနပ်မှုခံစားရသည်ဆိုက သူ့လုပ်အားသည် အကျိုးရလဒ်ထွက်သေ
လုပ်အား ဟူ၍သာ ဆိုစရာရှိသောကြောင့် ဖြစ်သည်။

ဒုတိယ။ လုပ်သားကိုစွစဉ်းစားရာ၌ ကျေနပ်မှုသီအိုရီကို အသုံး
လာသည့်အခါ ယခင်လက်ခံထားခဲ့ကြသည့် လုပ်ခဆိုင်ရာ အစဉ်အလ
အယူအဆကို လက်မခံနိုင် ဖြစ်လာသည်။ လုပ်သားတို့သည် နေနိုင်ရုံလုပ်
(subsistance wages) မျှကို မငြင်းမဆန် လက်ခံကြရသူများ မဟု
လုပ်ခအနည်းအများကို ကြည့်ကာ လုပ်သင့်မလုပ်သင့် ဆုံးဖြတ်ကြသည
ဈေးကွက်တွင်း လုပ်သားရောင်းလိုအား (labour supply) သည် လု
ပေါက်ဈေး (going price) ပေါ်၌မူတည်သည်၊ လုပ်ခနည်းလွန်းလျှ
အလုပ်မလုပ်ဘဲ သည်အတိုင်းသာ ထိုင်နေမည်ဆိုသောသူတွေ များသ
ဈေးကွက်တွင် လုပ်သားရှားပါးသွားမည်၊ စသဖြင့် မြင်လာရခြ
ဖြစ်သည်။

တတိယ။ ဒေးဗစ်ရီကာဒို၊ ကားလ်မာ့က်(စ) စသည့် ပုဂ္ဂိုလ်များန
မတူဘဲ၊ ဂျက်ဗန်း(စ)က၊ လုပ်အား (labour) နှင့် အရင်း (capi
အကြား ဆန့်ကျင်မှုမရှိဟု ရှုမြင်သည်။ လုပ်သားတို့သည် အလုပ်
ယင်းကရရှိမည့် အကျိုးကျေးဇူးတို့ကို ချင့်တွက်ကာ အလုပ်တစ်ခု
လုပ်ချင်လည်း လုပ်မည်၊ မလုပ်ချင်လည်း နေမည်။ အရင်းရှင်သည်လည



ငင်းနီးမြှုပ်နှံမှု ပြုမပြု၊ အလုပ်သမားများ တိုးတက်ငှားရမ်း မငှားရမ်း
သည်နှင့်စပ်လျဉ်း၍ သူ့နည်းနှင့်သူ ချင့်တွက်ကာသာ ဆုံးဖြတ်သည်
ဖြစ်သည်။ ၎င်းတို့နှစ်ဦးလုံးပင် တွက်ကိန်းကိုယ်စီဖြင့် မိမိဘာသာ ဆုံးဖြတ်
လုပ်ကိုင်နေကြခြင်းသာ ဖြစ်၍၊ တစ်ဦးကိုတစ်ဦး ဆန့်ကျင်နေကြခြင်း
မဟုတ်ဟု သူယူဆသည်။

❖

ဂျက်ဗန်း(စ)၏ စီးပွားရေးအမြင်များအကြောင်း ပြောလျှင်
စီးပွားရေးသံသရာ (business cycle) ဆိုင်ရာ သူ၏သီအိုရီကို မဖော်ပြဘဲ
ပြီးပြည့်စုံနိုင်မည် မဟုတ်ပေ။ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအကြောင်း အကျယ်
အပြန့် သုတေသနပြုစဉ်က ဂျက်ဗန်း(စ) သတိပြုမိခဲ့သည့် အရာတစ်ခု
ရှိသည်။ ယင်းက နေကွက်လှုပ်ရှားမှု (sunspot activity) နှင့် စီးပွားရေး
လှုပ်ရှားမှု (economic activity) တို့ နီးနီးကပ်ကပ် ဆက်စပ်မှုရှိပုံ
အကြောင်း ဖြစ်၏။ ၁၇၂၁ ခုနှစ်နှင့် ၁၈၇၈ ခုနှစ်အကြား စီးပွားရေး
သံသရာများသည် ပျမ်းမျှအားဖြင့် ၁၀.၄၆ နှစ်မျှ ကြာရှည်တတ်သကဲ့သို့၊
နေကွက်လှုပ်ရှားမှုများသည်လည်း ၁၀.၄၅ နှစ်လျှင် တစ်ကြိမ်စီ မှန်မှန်
ဖြစ်ပေါ်ကြောင်း သူတွေ့ရှိကာ၊ ယင်းကိစ္စသည် တိုက်ဆိုင်မှု သက်သက်
မဖြစ်နိုင်ကြောင်း ကောက်ချက်ချခဲ့သည်။ ထို့နောက် တိုက်ဆိုင်တာ
သက်သက်မဟုတ်ဘဲ တစ်နည်းနည်း ဆက်စပ်မှုရှိသည် ဟုဆိုလျှင်
ဘယ်ပုံဘယ်နည်း ဆက်စပ်မှုမျိုး ဖြစ်နိုင်သလဲ သူ မှန်းဆပြသည်။ ဥပမာ၊
အကယ်၍ နေကွက်လှုပ်ရှားမှုကြောင့် ရာသီဥတု ပြောင်းလဲနေတာမျိုး
မဖြစ်နိုင်ဘူးလား။ ရာသီဥတုက ကောက်ပဲသီးနှံ အထွက်နှုန်းအပေါ်
သက်ရောက်မှု မရှိနိုင်ဘူးလား။ သီးနှံအထွက် ကောင်းလျှင် ဈေးကျမည်၊
အထွက်နည်းလျှင် ဈေးတက်မည်။ တစ်ဖန်၊ ၎င်းသက်ရောက်မှုသည်
မိမိတိုင်းပြည်၌ တိုက်ရိုက်ဖြစ်ပေါ်မှသာ မဟုတ်။ တိုင်းတစ်ပါး၌ ပြောင်းလဲမှု
ဖြစ်လျှင်လည်း မိမိတို့ထံ တစ်ဆင့်ခံအားဖြင့် သက်ရောက်နိုင်သည်။ ဥပမာ၊

နေကွက်လှုပ်ရှားမှုကြောင့် အိန္ဒိယတွင် ဆန်စပါး အထွက်ကောင်းသ
ဆိုပါစို့။ စပါးမှ ငွေများများရလျှင် ဗြိတိသျှထုတ်ကုန်တွေ အိန္ဒိယသား
တိုးတက်ဝယ်ယူကြမည်။ ထိုအခါ ဗြိတိသျှစီးပွားရေး တိုးတက်မည်
အလားတူ၊ အိန္ဒိယတွင် စပါးအထွက် လျော့ပါကလည်း၊ ဗြိတိသျှထုတ်
ပစ္စည်းများ ဝယ်ယူမှုလျော့ကာ ဗြိတိသျှစီးပွားရေးကို သွယ်ဝိုက်သေ
နည်းဖြင့် ထိခိုက်စေလိမ့်မည် စသဖြင့် သူ စဉ်းစားပြခဲ့သည်။

သို့သော်၊ ဂျက်ဗန်း(စ)နှင့် ခေတ်ပြိုင်ပုဂ္ဂိုလ်များထဲတွင် လည်
ကောင်း၊ နောက်ပိုင်းပေါ်ပေါက်သည့် စီးပွားရေးတွေးခေါ်ရှင်များထဲတွ
လည်းကောင်း ဂျက်ဗန်း(စ)၏ စီးပွားရေးသံသရာဆိုင်ရာ နေကွက်သီအို
ကို အလေးအနက်ထားသူ နည်းပါးခဲ့သည်။ နောက်ပိုင်းရရှိသည့် အချ
အလက်များကလည်း ဂျက်ဗန်း(စ) အသုံးပြုခဲ့သော ကိန်းဂဏန်းများန
ကွဲလွဲနေခဲ့သည်။ နှောင်းခေတ် နက္ခတ္တဗေဒပညာရှင်တို့၏ တွက်ချက်မှုအ
နေကွက်လှုပ်ရှားမှုဖြစ်စဉ် တစ်ကြိမ်သည် ၁၁.၁ နှစ်မျှကြာရှည်ပြီး၊ စီးပွားရေ
သံသရာ တစ်ပတ် (အတက်အကျဖြစ်စဉ် တစ်ကြိမ်) က သည်ဘက်ခေ
စီးပွားရေးပညာရှင်တို့ တွက်ချက်မှုအရ ၇ – ၈ နှစ်မျှသာ ကြာရှည်သည်
ဆိုသည်။ ထို့ပြင်၊ ၂၀ ရာစုနှောင်းပိုင်း စီးပွားရေးပညာရှင် အများစု အနေ
စီးပွားဖွံ့ဖြိုးတိုးတက်မှုနှင့် စီးပွားရေးကျဆင်းမှုတို့ တစ်လှည့်စီ ဖြစ်ပေါ်
ခြင်း အကြောင်းရင်းကို ပြင်ပတွင် မရှာဖွေဘဲ၊ စီးပွားရေး လောကထဲမှာ
ဝေဖန်စစ်ဆေး အဖြေရှာလာကြသောသဘော ရှိသည်။ မည်သို့ဖြစ်စေ
စီးပွားရေး အတက်အကျသံသရာ နှင့်စပ်လျဉ်း၍ ကနဦးသီအိုရီတစ်ခု
ဖော်ထုတ်ခဲ့သူတစ်ဦး အဖြစ်ကား ဂျက်ဗန်း(စ)အား အသိအမှတ်ပြုကြရပေ
ဖြစ်သည်။

❖

ဂျက်ဗန်း(စ)အား လောင်စာရင်းမြစ်များ ကုန်ခန်းသွားမည်
အဦးအစ စိုးရိမ်ပူပန်ခဲ့သူတစ်ဦးအဖြစ် လည်းကောင်း၊ စီးပွားရေးသံသ



သနာကို ကနဦး စူးစမ်းလေ့လာခဲ့သူတစ်ဦးအဖြစ် လည်းကောင်း၊
တောသီတို့ သိရှိကြပါသည်။ သို့သော်၊ စီးပွားရေးပညာနယ်ပယ်သို့ သူ
ည့်ဆည်းပေးခဲ့သည့် တန်ဖိုးအရှိဆုံး အချက်ကား၊ အစွန်းထွက်ကျေနပ်မှု
ရိုရှိနှင့်၊ ယင်းအား စားသုံးသူရှုထောင့်၊ လုပ်သားရှုထောင့်တို့မှ ရှင်းလင်း
သပ်ပြခြင်းပင် ဖြစ်သည်။

သူ့အယူအဆများကို နှောင်းလူတို့ ဆက်လက်ကိုင်စွဲသည်ဖြစ်စေ
ကိုင်စွဲသည်ဖြစ်စေ ဂျက်ဗန်း(စ)ကား စီးပွားရေးပညာနယ်ပယ်အတွင်း
စိတ်ဝင်တစား စူးစမ်းလေ့လာခဲ့သည့် ကဏ္ဍတိုင်းမှာပင် နောက်လူတို့
တွက် လမ်းစဖော်ပေးသူတစ်ဦး ဖြစ်ခဲ့သည်။ ထို့ကြောင့်လည်း၊ စီးပွားရေး
ညာသမိုင်း ဆရာတို့က ၁၉ ရာစုအတွင်း အရေးအပါဆုံး စီးပွားရေး
ေးခေါ်ရှင်များ အမည်စာရင်းကို စဉ်းစားသည့်အခါတိုင်း သူ့အား ထိပ်ဆုံး
လေးဦးထဲတွင် ထည့်သွင်းလေ့ရှိကြခြင်း ဖြစ်ပေသည်။

# ကားလ်မင်းဂါးရ်
## (၁၈၄၀ – ၁၉၂၁)



ကားလ်မင်းဂါးရ် (Carl Menger) အား ဩစတြီးယန်း ပွားရေးပညာဂိုဏ်း (Austrian School of Economics) ကို င်တည်ထောင်သူအဖြစ် အသိအမှတ်ပြုကြသည်။ အကြောင်းက၊ ဩစတြီးယန်း စီးပွားရေးပညာ၏ အဓိကမဏ္ဍိုင်ကြီး နှစ်ရပ်ကို သူပင် ထောင်ပေးခဲ့သောကြောင့် ဖြစ်သည်။ ယင်းအနက် ပထမတစ်ခုသည် သုံးသူ၏ ကျေနပ်မှုတွင် အခြေပြုသည့် တန်ဖိုးဆိုင်ရာသီအိုရီတစ်ရပ်နှင့် တ်သက်သည်။ ဒုတိယမှာ၊ စီးပွားရေးဆိုင်ရာ အသိပညာဟူသည် မှန်ကန် ကြောင်း သိထားပြီးဖြစ်သည့် မှတ်ယူချက် (assumption) များမှ ဆင့်ပွား ထွက်ပေါ်လာနိုင်သော အချက်တို့ကို ထုတ်ယူဆင်ခြင်ခြင်းဖြင့်သာ ရရှိ နိုင်သည် ဟူသောတင်ပြချက် ဖြစ်သည်။

❖

မင်းဂါးရ်ကို ဂလစ်ရှား (Galicia) နယ် နျူ – ဆန်ဒက် (Neu-andec) မြို့တွင် ၁၈၄၀ ခုနှစ်က မွေးသည်။ ဂလစ်ရှားနယ်သည် ထိုစဉ်က

ဩစတြီးယား ပိုင်နက်ထဲတွင် ရှိပြီး၊ ယခုအခါ၌မူ ပိုလန်ပြည်၏ နယ်
ဒေသတစ်ခု ဖြစ်နေသည်။

မင်းဂါးရ်၏ဖခင်သည် ရှေ့နေတစ်ဦးဖြစ်ရာ၊ သူလည်း
ခြေရာနင်းကာ၊ ဥပဒေပညာ၊ နိုင်ငံရေးသိပ္ပံပညာရပ်များကို ဗီယင်
တက္ကသိုလ်၊ ပရတ်(ဂ)တက္ကသိုလ် တို့တွင် လေ့လာဆည်းပူးသည်။
ခုနှစ်တွင် ကရာကောင်းတက္ကသိုလ်မှ ဥပဒေပါရဂူဘွဲ့ ရရှိသည်။

ကျောင်းဆင်းပြီးနောက်တွင် စာနယ်ဇင်းများ၌ ငွေကြေးဆိုင်ရာ
အကြောင်း ဆောင်းပါးများ ရေးသားသည်။ ထို့နောက်တွင် ဩစတြီးယ
ဝန်ကြီးချုပ်၏ ပြန်ကြားရေးဌာနတွင် အမှုထမ်းသည်။ ထိုကာလအတွ
**စီးပွားရေးဆိုင်ရာ အခြေခံမူများ** (Principles of Economics) ကျမ်း
ရေးသားသည်။

၁၈၇၁ ခုနှစ် ထွက်ပေါ်သည့် ၎င်းစာအုပ်ကြောင့် မင်းဂါး
အမည်မှာ ထင်ရှားလာရာ၊ ၁၈၇၃ ခုနှစ်တွင် ဗီယင်နာတက္ကသိုလ် ဥပ
ပညာမဟာဌာနက သူ့အား ကထိကတစ်ဦးအဖြစ် ခန့်အပ်ပြီး၊ နော
သုံးနှစ်ခန့် အကြာတွင် အထူးပါမောက္ခ (Professor Extraordinari
ရာထူးသို့ တိုးမြှင့်ပေးသည်။ သို့သော် ထို့နောက် များမကြာမီမှာပင် ရာထူ
နုတ်ထွက်လိုက်ပြီး၊ အိမ်ရှေ့မင်းသားရူးဒေါ့ဖ်နှင့် ဥရောပတစ်ခွင်
လှည့်လည်ရင်း မင်းသားအား စာသင်ကြားပေးရန် လိုက်ပါသွားခဲ့သည

၁၈၇၉ ခုနှစ်တွင်မူ ဗီယင်နာ၌ သင်ကြားရေးရာထူးတစ်
ပြန်လည်လက်ခံပြီး၊ နောက်ပိုင်းတစ်လျှောက်လုံးပင် စီးပွားရေးပညာ
တစ်ဦးအဖြစ် သင်ကြားရေးအလုပ်နှင့် စာအုပ်စာတမ်း ရေးသားပြုစု
အလုပ်တို့ကို စူးစိုက်လုပ်ကိုင်ခဲ့သည်။ ၁၉၀၀ ခုနှစ်တွင် မင်းဂါးရ်သ
ဩစတြီးယားပါလီမန်၏ အထက်လွှတ်တော်အမတ်တစ်ဦး ဖြစ်လာ
သည်။ သို့သော် သူက စီးပွားရေးပညာပိုင်းတွင်သာ ပို၍ထက်သန်သ
နိုင်ငံရေးကိစ္စရပ်များထဲတွင် တက်ကြွစွာ ပါဝင်လေ့မရှိခဲ့။

အစပိုင်းတွင် ဖော်ပြခဲ့သည့်အတိုင်း စီးပွားရေးပညာအတွ
မင်းဂါးရ် ဖြည့်ဆည်းပေးခဲ့သည့် အချက်နှစ်ရပ် ရှိပါသည်။ တစ်ခုသ



န်ဖိုးသီအိုရီ (value theory) နှင့်ပတ်သက်ပြီး၊ အခြားတစ်ခုက **စီးပွား**
ပညာဆိုင်ရာ နည်းနာဗေဒ (methodology) နှင့်ပတ်သက်သည်။

မင်းဂါးရ်က အစွန်းထွက်ကျေနပ်မှုဆိုင်ရာ တန်ဖိုးသီအိုရီ (mar-
inal utility theory of value) နှင့် အစွန်းထွက်ကျေနပ်မှုများ
လျော့ပါးသွားခြင်းဆိုင်ရာ အခြေခံမူ (principle of diminishing mar-
inal utility) တို့ကို စတင်တွေ့ရှိသည့် ကနဦးပုဂ္ဂိုလ်များထဲတွင်
ပါဝင်သည်။ ထို့ပြင် သူက၊ ဆန္ဒအခြေပြုတန်ဖိုးသီအိုရီတစ်ရပ်ကို
ဦးဆုံး တင်ပြခဲ့သူတစ်ဦးလည်း ဖြစ်သည်။ တစ်ဖန်၊ စီးပွားရေးပညာ၏
သဘောသဘာဝနှင့် စပ်လျဉ်း၍ လည်းကောင်း၊ စီးပွားရေးဆိုင်ရာ ခွဲခြမ်း
စိတ်မှုများ ပြုလုပ်ရာ၌ အသုံးပြုသင့်သည့် နည်းလမ်းများနှင့် ပတ်သက်၍
လည်းကောင်း အကြိတ်အနယ် ငြင်းခုံခဲ့ကြသည့် အထဲတွင်လည်း သူ
ပါဝင်ခဲ့ပါသည်။

❖

၁၉ ရာစုနှောင်းပိုင်းတွင် ကျမ်းရိုးဘောဂဗေဒ အယူအဆများကို
ဥရောပတိုက်၌ အထင်အမြင် လျော့ပါးလာခဲ့ပါသည်။ အထူးသဖြင့်
ဖော်ပျက်လာကြသည်က စိတ္တဇဆန်လွန်း၊ သီအိုရီပိုင်း အလေးပေးလွန်း
သော ဗြိတိသျှ စီးပွားရေးသဘောတရားများ ဖြစ်သည်။

မင်းဂါးရ်က စီးပွားရေးပညာကို လက်တွေ့ဘဝထဲသို့ ပြန်၍
ဆွဲယူရန် အားထုတ်ခဲ့သည်။ သည်အတွက် သူ့ခြေလှမ်းအစက၊ ကုန်ပစ္စည်း
များ၌ တန်ဖိုးဟူ၍ ရှိရခြင်းသည် လူတို့၏ လိုအင်ဆန္ဒများကို ဖြည့်ဆည်း
ပေးနိုင်မှုကြောင့်သာဖြစ်၏ ဟူသောရှုမြင်ချက်ကို ဖော်ထုတ်လိုက်ခြင်း
ဖြစ်သည်။

ထိုအချက်အရ သူက ဗြိတိသျှ ကျမ်းရိုးဘောဂဗေဒသမားများနှင့်
သုံးဝ ဆန့်ကျင်ကွဲလွဲသွားသည်။ ကျမ်းရိုးသမားတို့က ကုန်ပစ္စည်း၏တန်ဖိုး

သည် ထုတ်လုပ်ကုန်ကျစရိတ်၊ ရောင်းလိုအား စသည့် ဓမ္မဓိဋ္ဌာန်ကျ အကြောင်း အချက်များပေါ်တွင် မူတည်သည်ဟု လက်ခံထားကြ မင်းဂါးရ်က တန်ဖိုးဟူသည် လူ့လိုအပ်ချက်များ ပြည့်ဝသွားမှုပေါ်တွ မူတည်သည်၊ လူတို့၏ လိုအပ်ချက်များ လိုအင်ဆန္ဒများက ကုန်ပစ္စည်း များကို တောင်းဆိုသည် (ဝါ) ဝယ်လိုအားကို ဖြစ်ပေါ်စေသည် ယင်းကြောင့်ပင် ရောင်းဝယ်ဖလှယ်မှုများ ဖြစ်ပေါ်ပြီး၊ ဈေးနှုန်းများ သတ်မှတ်ပြဋ္ဌာန်း ဖြစ်ကြသည်။ တစ်ဖန်၊ ရရှိနိုင်သည့် ကုန်ပစ္စည်းထ လူတို့၏ လိုအင်က ပိုကဲသာလွန်နေမြဲဖြစ်ရာ၊ လူတို့အနေဖြင့် ရရှိနိုင်သ ကုန်ပစ္စည်းအမျိုးအမည်များထဲမှ ချိန်ဆ ရွေးချယ် ဝယ်ယူကြရလိမ့်မ စသဖြင့် သုံးသပ်ပြောဆိုသည်။

ယင်းအချက်များကို မင်းဂါးရ်က ဖော်ပြပါဇယားဖြင့် ရှင်းပြသည်

ဇယားတွင်ပါသည့် ထောင်လိုက်ကော်လံ အသီးသီးတို့သည် က ပစ္စည်း အမျိုးအစားတစ်ခုစီ (I, II, III စသည်) တို့ကို ကိုယ်စားပြုသည် ၎င်းတို့အောက်ရှိ ကိန်းဂဏန်းများမှာ တစ်စုံတစ်ရာသော ပုဂ္ဂိုလ်တို့အတွ အထက်က ကုန်ပစ္စည်းအသီးသီးတို့၏ အရေးပါမှု (ဝါ) ယင်းတို့ စားသုံးသည့်အခါ ခံစားရသည့် ကျေနပ်မှုအတိုင်းအဆ အသီးသီးတို့ ဖော်ပြသည်။ ဥပမာ၊ ကုန်ပစ္စည်း I ကို စားသုံးသည့်အခါ ကျေနပ်မှု ရရှိ၍၊ II ကို စားသုံးသည့်အခါ ကျေနပ်မှု 9၊ III ကို စားသုံးသည့်အ ကျေနပ်မှု 8 ... စသဖြင့်။

ကုန်ပစ္စည်းများဟူသည် စားသုံးသူတို့၏ လိုအင်ဆန္ဒများကို ဖြ ဆည်းပေးရမည်၊ ထိုဖြည့်ဆည်းပေးနိုင်မှု အတိုင်းအဆ အနည်းအများ စားသုံးသူတို့ ခွဲခြားသိမှတ်ခြင်းဖြင့် ယင်းပစ္စည်းတို့၏ တန်ဖိုးအသီးသ ဖြစ်ပေါ်သည်၊ ဟူသော ရှုမြင်ချက်ပေါ်တွင်မူတည်၍ မင်းဂါးရ် သည်ဇယားကို ရေးဆွဲခဲ့ခြင်း ဖြစ်သည်။

ဇယား

| I | II | III | IV | V | VI | ... X |
|---|---|---|---|---|---|---|
| 10 | 9 | 8 | 7 | 6 | 5 | 1 |
| 9 | 8 | 7 | 6 | 5 | 4 | 0 |
| 8 | 7 | 6 | 5 | 4 | 3 | 0 |
| 7 | 6 | 5 | 4 | 3 | 2 | 0 |
| 6 | 5 | 4 | 3 | 2 | 1 | 0 |
| 5 | 4 | 3 | 2 | 1 | 0 | 0 |

သည်ဇယား၌ မင်းဂါးရ်က ကုန်ပစ္စည်း အမျိုးအမည်တစ်ခုကို အကြိမ်ကြိမ် စားသုံးလာသည့်အခါ စားသုံးသူအနေနှင့် ပထမအကြိမ် မဟုတ် ပထမတစ်ခု စားသုံးစဉ်အခါကလောက် ကျေနပ်မှု မခံစားရဘဲ ဖြည်းဖြည်း လျော့နည်းသွားပုံကိုလည်း ဖော်ပြသည်။ ဥပမာ – ဒေါင်လိုက်တန်းတစ်ခုစီကို ကြည့်လျှင်၊ နံပါတ် I အမျိုးအစား ကုန်ပစ္စည်း အတွက် ပထမအကြိမ် စားသုံးမှုတွင် ကျေနပ်မှုပမာဏ 10 မျှ ခံစားရ သော်လည်း ဒုတိယ – တတိယ စသည့်အကြိမ်များတွင် 9, 8, 7, 6, 5 စသဖြင့် လျော့နည်းသွားနိုင်ပုံကိုလည်းကောင်း၊ နံပါတ် X အမျိုးအစား ကုန်ပစ္စည်းမှာ ပထမအကြိမ်ကပင် ကျေနပ်မှုပမာဏ 1 မျှသာရှိပြီး၊ နောက်ထပ်စားသုံးရသည့် အခါများတွင် လုံးဝကျေနပ်မှု မခံစားရကြောင်း (ကျေနပ်မှု သုညမျှသာရှိကြောင်း) တွေ့မြင်နိုင်သည်။ အစွန်းထွက် ကျေနပ်မှု လျော့နည်းသွားပုံ (diminishing marginal utility) သဘောကို ပြခြင်းပင်တည်း။

မင်းဂါးရ်၏ဇယားတွင် ကုန်ပစ္စည်းများကို I, II, III,... စသဖြင့် နံပါတ်စဉ်တပ်လျက် ရေးသွင်းခဲ့သော်လည်း၊ အမျိုးအမည်ကို က တိတိကျကျ မဖော်ပြခဲ့။ သို့သော်၊ စားသုံးသူကျေနပ်မှု အများဆုံးအဖြစ် ရင်းတပ်ထားသည့် နံပါတ် I အမျိုးအစား ကုန်ပစ္စည်းများသည် အသက် ရှင်သန်မှု (life) တွက် လိုအပ်သောပစ္စည်းများ ဖြစ်ကြောင်း၊ နံပါတ် II

အမျိုးအစားသည် ကျန်းမာမှု (health) အတွက် လိုအပ်သောပစ္စည်းမျ ဖြစ်၍၊ နံပါတ် III သည် သာယာဝပြောရေး (welfare) အတွက်၊ နံပါ IV သည် အပန်းဖြေမှု ပျော်ရွှင်မှု (diversion) အတွက်၊ ... စသ အသီးသီးဖြစ်ကြောင်း တို့ကိုသာ သူ ပြောဆိုခဲ့သည်။ သူ့အဆိုအရ သည် စားသောက်ကုန် (food)၊ II သည် ဆေးဝါးကုသမှုဖြစ်ပြီး၊ I မှာ ရုပ်ရှင်၊ သဘင်စသည့် ဖျော်ဖြေမှုများ စသဖြင့် ဖြစ်လိမ့်မည် ဟု မှန်းဆနိုင်ပါသည်။

စားသုံးသူကျေနပ်မှုနှင့်ပတ်သက်၍ သူသုံးစွဲထားသည့် 10, 8, 7 စသော ကိန်းဂဏန်းများမှာလည်း၊ ကျေနပ်မှု 10 ဟု သတ်မှ ပေးထားသော ကုန်ပစ္စည်းသည် 1 ဟု သတ်မှတ်ပေးထားသော ကုန်ပစ္စည် ထက် 10 ဆ ကျေနပ်မှုပေးနိုင်သည် သို့မဟုတ် 10 ဆ တန်ဖိုးရှိသည်ဟု တိတိကျကျ ဆိုလိုခြင်း မဟုတ်ဘဲ၊ ကုန်ပစ္စည်းအသီးသီးတို့အပေ စားသုံးသူ ကျေနပ်မှု (တောင်းဆိုမှု) အတိုင်းအဆ ကွာခြားသည့်သဘော တစ်ကြိမ်စားသုံးပြီးသော် နောက်တစ်ကြိမ် စားသုံးသည့်အခါ၌ ကျေနပ် လျော့ပါးသွားပုံသဘောတို့ကို ထင်ဟပ်ဖော်ပြလိုသဖြင့်သာ 10, 9, စသဖြင့် အဆင့်ခွဲခြားဖော်ပြထားခြင်း ဖြစ်ပါသည်။

မည်သည့်ကုန်ပစ္စည်းကို စားသုံးမည် (ဝါ) မိမိပိုက်ဆံကို မည်သ သုံးစွဲမည်ဟူသည်နှင့် ပတ်သက်၍ စားသုံးသူအသီးသီးတို့ ဆုံးဖြ ရွေးချယ်ပုံကိုလည်း မင်းဂါးရ်က ရှင်းလင်းသုံးသပ်ပြပါသည်။ စားသုံးသ တို့၌ ဝင်ငွေအကန့်အသတ်နှင့်သာ ရှိကြသည်ဖြစ်ရာ မိမိတို့အတွ အလိုအပ်ဆုံးအရာ (ဝါ) ကျေနပ်မှု အများဆုံး ပေးနိုင်မည့် အရာကို ပထ ဦးစားပေး ဝယ်ယူကြလိမ့်မည်၊ တစ်နည်းဆိုသော်၊ ဇယား၌ ကျေနပ် 10 ဟု ပြထားသော ကုန်ပစ္စည်းများကို ဦးစွာဝယ်၍၊ ၎င်းနောက်တွ ကျေနပ်မှု 9 ပေးနိုင်သည့် ကုန်ပစ္စည်း၊ ထိုနောက်တွင် 8, 7,... စသဖြ ဆက်လက်ဝယ်ယူလိမ့်မည် ... ဟူ၍ ဖြစ်ပါသည်။

❖



မင်းဂါးရ် ကိုင်စွဲသော ကျေနပ်မှုအခြေပြုတန်ဖိုးသီအိုရီ၏ အရေးကြီးသော ဆင့်ပွားသက်ရောက်မှု တစ်ခုက၊ ပုဂ္ဂလဓိဋ္ဌာန်ကျေနပ်မှု ပေးနိုင်သော အလုပ်တိုင်းပင် ကုန်ထုတ်အလုပ် (productive activity) များဖြစ်သည် ဟူသောအချက် ဖြစ်သည်။

ဗြိတိသျှ ကျမ်းရိုးဘောဂဗေဒသမားများက ကုန်သွယ်လုပ်ငန်းကို ကုန်ထုတ်အလုပ်ဟု မယူဆခဲ့ကြသော်လည်း၊ မင်းဂါးရ်ကမူ၊ လူတို့သည် မိမိပေးရသော ပစ္စည်းထက် မိမိရရှိသော ပစ္စည်းက မိမိအားကျေနပ်မှု ပို၍ပေးနိုင်မည်ဆိုမှသာ ရောင်းဝယ်ဖလှယ်ခြင်း ပြုလေ့ရှိကြသည်ဖြစ်ရာ၊ ထို့ကြောင့်ပင် ကုန်သွယ်မှုအလုပ်သည်လည်း ကျေနပ်မှုပေးသောအလုပ် (ဝါ) တစ်စုံတစ်ရာ ထွက်ရှိသောအလုပ် (ဝါ) ကုန်ထုတ်အလုပ်ပင်ဖြစ်သည်ဟု၍ ရှုမြင်ခဲ့သည်။

မြေအဓိကစီးပွားရေးဝါဒီ ဖရန်ဆွာ ကင်နေး (François Quesnay) တို့၏ အယူအဆနှင့်လည်း မင်းဂါးရ်က ကွဲလွဲသည်။ ကင်နေးတို့က၊ မြေယာသည်သာ အပိုပစ္စည်းထွက်ရှိသော နေရာဖြစ်၍၊ စိုက်ပျိုးရေးအလုပ်သည်သာ အမှန်တကယ်ထွက်ရှိသော (productive) အလုပ်၊ စီးပွားရေးအပိုထွက် (surplus) ရရှိသောအလုပ် ဖြစ်သည်။ ကုန်ချောထုတ်လုပ်ငန်း (manufacturing) သည်ပင်လျှင် အပိုထွက်မရသဖြင့် အမှန်တကယ် ထွက်ရှိသောအလုပ် မဟုတ်ဟု ယူဆခဲ့သည်။ မင်းဂါးရ်ကမူ၊ စိုက်ပျိုးရေးမှ ရရှိသော သီးနှံစပါးရော၊ ကုန်ချောထုတ်လုပ်ငန်းမှ ထွက်ရှိသော ကုန်ပစ္စည်းများပါ စားသုံးသူများအတွက် ကျေနပ်မှု ရရှိစေသည်ဖြစ်ရာ နှစ်ခုလုံးပင် စီးပွားရေးအရ တန်ဖိုးရှိသည့် (productive) အလုပ်များဖြစ်သည် ဟုမြင်သည်။

နောက်တစ်ချက်မှာ၊ ဒေးဗစ်ရီကာဒို (David Ricardo) အစရှိသော ပုဂ္ဂိုလ်များ၏ လုပ်အားတန်ဖိုးသီအိုရီ (labour theory of value) နှင့်လည်း ကွဲလွဲခြင်း ဖြစ်၏။ ရီကာဒိုတို့က၊ ကုန်ပစ္စည်း သို့မဟုတ် ဝန်ဆောင်မှုတစ်ခု၏ တန်ဖိုးသည် ယင်းကုန်ပစ္စည်း / ဝန်ဆောင်မှု ပြုလုပ်ရာ၌ ထည့်ဝင်ရသည့် တိုက်ရိုက်လုပ်အားနှင့် သွယ်ဝိုက်လုပ်အားတန်ဖိုး

စုစုပေါင်းပေါ်၌ မူတည်သည်ဟူ၍ ယူဆခဲ့ကြသည်။ မင်းဂါးရ်က
ကုန်ပစ္စည်းတို့၏ တန်ဖိုးကို အဆုံးအဖြတ်ပြုသော အရာသည် ယင်းအ
ဖန်တီးပြုလုပ်ရာ၌ အသုံးပြုရသည့် လုပ်အားလည်း မဟုတ်၊ ယင်းအထဲတွ
ထည့်ဝင်သုံးစွဲရသည့် အခြားပစ္စည်း အရေအတွက်လည်း မဟုတ်ဘဲ
စားသုံးသူတို့အပေါ် အဆိုပါ ကုန်ပစ္စည်းအသီးသီးမှ ပေးစွမ်းနိုင်သော
ကျေနပ်မှု အတိုင်းအဆ ပမာဏသာဖြစ်သည်ဟု မှတ်ယူသည်။

ကုန်ပစ္စည်းတန်ဖိုးသည် လူတစ်ဦးချင်းတို့၏ အကြိုက် (ကျေနပ်မှု
ပေါ်၌ မူတည်သည် မှတ်ယူလိုက်သောအခါ၊ မင်းဂါးရ်အနေနှင့် စီးပွားရေ
ရာ ခွဲခြမ်းစိတ်ဖြာမှုများ ပြုလုပ်သည့်နေရာ၌ တစ်ဦးချင်းသောလူများဟူသည်
အစပြုလေ့လာရန် လိုအပ်လာသည်။ ၎င်းရပ်တည်ချက်ကို နည်းနာဆိုင်ရာ
တစ်သီးပုဂ္ဂလဝါဒ (methodological individualism) ဟူ၍ ခေါ်ဝေ
ကြပါသည်။

ကုန်ထုတ်အင်အားစုများ (factors of production) ဖြစ်သည့်
မြေ၊ လုပ်အားနှင့် အရင်း တို့၌ တန်ဖိုးရှိရခြင်းမှာလည်း လူတို့၏ လိုအင်
များကို သွယ်ဝိုက်သောနည်းဖြင့် ဖြည့်ဆည်းပေးကြသောကြောင့်
ဖြစ်ကြောင်း၊ လူတို့၏ဆန္ဒကို တိုက်ရိုက်ဖြည့်ဆည်းပေးနိုင်သည့်
ကုန်ပစ္စည်းများ ထုတ်လုပ်ရာ၌ ၎င်းတို့ပါဝင်ကြကြောင်း မင်းဂါးရ်က
ဆိုခဲ့သည်။ ထို့နောက်၊ ကုန်ထုတ်အင်အားစုတစ်ခု၏ ပကတိတန်ဖိုးကို
သိလိုက၊ ၎င်းအင်အားစုတစ်ယူနစ် (ဥပမာ၊ လုပ်အား နှင့်ပတ်သက်လျှင်
လုပ်သားတစ်ယောက်) ကို နုတ်သိမ်းထားလိုက်ပြီး၊ ၎င်းမရှိသဖြင့်
ကုန်ထွက် (output) တွင် မည်မျှလျော့သွားသည်ကို ကြည့်ဖို့လိုသည်။
ထိုလျော့သွားသော ကုန်ထွက်၏တန်ဖိုးသည် ထိုလုပ်သား အလုပ်လုပ်မည်
ဆိုက တိုးလာမည့်တန်ဖိုး ဖြစ်သည်။ ၎င်းသည် အဆိုပါလုပ်သားက
ထုတ်လုပ်ပေးနိုင်သည့် စားသုံးသူကျေနပ်မှုပမာဏကို ကိုယ်စားပြုသည်။
တစ်နည်းဆိုသော်၊ ကုန်ထုတ်အင်အားစုတစ်ခုစီ၏ တန်ဖိုးသည် ယင်းက
ပေးနိုင်သည့် အစွန်းထွက်ထုတ်လုပ်နိုင်မှု (marginal productivity)
အတိုင်းအဆပေါ်တွင် မူတည်သည်၊ ထို့ကြောင့်၊ ကုန်ထုတ်လုပ်ရာ



ပါဝင်သော အင်အားစုအသီးသီးသို့ ပြန်လည်ပေးဆောင်ရမည့် အခကြေး
ကိုလည်း ယင်းအင်အားစုက ဖန်တီးထုတ်လုပ်ပေးနိုင်စရာရှိသည့် တန်ဖိုး
ပေါ်တွင်ပင် မူတည်တွက်ချက်ရလိမ့်မည်၊ စသဖြင့် မင်းဂါးရ်က ရှင်းလင်း
တင်ပြခဲ့သည်။

❖

၁၈၇၅ မှ ၁၈၈၄ ခုနှစ်ထိ ၁၀ နှစ်တာကာလ တစ်လျှောက်လုံးမှ
မင်းဂါးရ်က စီးပွားရေးပညာ လေ့လာပုံနည်းနာနှင့်စပ်လျဉ်း၍ ငြင်းခုံဝေဖန်
သည့် အလုပ်ကို သဲသဲမဲမဲ လုပ်ကိုင်နေခဲ့သည်။ သူနှင့် အဓိကငြင်းခုံဘက်က
ဂျာမန်သမိုင်းစဉ်ဂိုဏ်း (German Historical School) ၏ ခေါင်းဆောင်
တစ်ဦးဖြစ်သူ ဂပ်စတပ်ရှမိုလာ (Gustav Schmoller) ဖြစ်သည်။ သူတို့
နှစ်ဦးကြား ငြင်းခုံမှုများမှာ ပညာရှင်ဆန်ဆန် ထောက်ပြဝေဖန်မှုလောက်
သာ မကတော့ဘဲ၊ အပြန်အလှန် ပုတ်ခတ်စော်ကားသည့် အဆင့်ထိ
ရောက်ရှိခဲ့သည်။ ထို့ပြင်၊ မင်းဂါးရ်မှာ စီးပွားရေးဆိုင်ရာ အခြေခံမှုများကျမ်း
ရှိပ်စဉ်က သမိုင်းစဉ်ဂိုဏ်း၏ အခြားခေါင်းဆောင်တစ်ဦးဖြစ်သူ ရော့စ်ချာ
(Roscher) သို့ ဂုဏ်ပြုရည်ညွှန်းကြောင်း ဖော်ပြခဲ့ဖူးရာ၊ သည်အချက်
ကလည်း ပြောဆိုဝေဖန်စရာတစ်ခု ဖြစ်ခဲ့သည်။

သမိုင်းစဉ်ဂိုဏ်းနှင့် မင်းဂါးရ်တို့ ကွဲလွဲပုံကိုဆိုရသော်၊

သမိုင်းစဉ်ဂိုဏ်း အလိုအရ၊ စီးပွားရေးဥပဒေသများ ဟူသည်
ကြော်ကြာသော နှစ်ကာလများအတွင်း စုစည်းမိခဲ့သည့် သမိုင်းဝင် အချက်
အလက်များထဲမှသာ ရှာဖွေရရှိနိုင်သည် ဟုဆိုသည်။ အချက်အလက်
များကို စနစ်တကျ မစုစည်းရသေးဘဲ စီးပွားရေးသဘောတရားများ
ကောက်နုတ်ထုတ်ယူမည်ဆိုက သေချာမည် မဟုတ်။ စီးပွားရေးတစ်ရပ်ကို
ပြည့်ပြည့်ဝဝ သိနားလည်ရန်အတွက် အသင့်တော် အမှန်ကန်ဆုံး
နည်းလမ်းသည် ၎င်းဖြတ်သန်းခဲ့သော ခေတ်ကာလများတစ်လျှောက်
တည်ရှိခဲ့သည့် စီးပွားရေးရာ အချက်အလက်များကို စုစည်းကာ၊ ထပ်ခါ

ထပ်ခါ ဖြစ်ခဲ့သည့် အနေအထားများ (ဆင်တူဖြစ်လေ့ရှိသည့် အနေအထား
များ) (regularities) ကို ကြည့်ရှုဆင်ခြင်ပြီး၊ ဤသို့ဖြစ်လေ့ရှိသည်
ဟူသော သုံးသပ်ချက် ကောက်ချက် (inference) များ ချမှတ်သော
နည်းသာ ဖြစ်သည်၊ စသဖြင့် ၎င်းတို့က ရှုမြင်သည်။ ထိုသဘောအ
၎င်းတို့က စီးပွားရေးဆိုင်ရာမှုများကို လူတို့၏ သဘောသဘာဝ၊ ဈေးကွက်
တို့၏သဘောသဘာဝ စသည့် ယူဆချက်များပေါ်တွင်မူတည်၍ ရယူသည့်
စိတ်ကူးသက်သက် ထုတ်ယူဆင်ခြင်ပုံ နည်းလမ်း (abstract dedu
tive method) များကို ငြင်းပယ်သည်။

သမိုင်းစဉ်ဂိုဏ်းအနေနှင့်၊ စီးပွားရေး ဆက်ဆံမှုများ၊ စီးပွားရေး
ပေါ်လစီများနှင့် ပတ်သက်လျှင် ကာလဒေသအလျောက် ပြောင်းလဲရသော
သဘော (ဝါ) နှိုင်းရသဘော (relativism) ကို ခံယူသည်။ စီးပွားရေး
တို့သည် မတူညီသော နေရာဒေသ၊ မတူညီသော အချိန်ကာလများအတွင်
ကွဲပြားခြားနားစွာပင် ဖြစ်ပေါ်သည်ဟု သူတို့က ရှုမြင်ကြသည်။

မင်းဂါးရ်ကမူ၊ အချက်အလက် အမြောက်အမြား စုစည်းနေခြင်း
ထက် သဘောတရား တည်ဆောက်မှုကို ဦးစားပေးသည်။ စီးပွားရေး
ဖြစ်စဉ်အတွင်း အချက်အချာအကျဆုံး အရာများ၊ တစ်ခုနှင့်တစ်ခု ဆက်
ချိတ်တွယ် ပြောင်းလဲနေသော အရာများ (ဥပမာ၊ ကုန်ပစ္စည်းတစ်
ဈေးနှုန်း လျော့ကျသွားသည့်အခါ ယင်းပစ္စည်းကို များများဝယ်လာကြခြင်း
မျိုး) တို့ကို ရှာဖွေဖော်ထုတ်ခြင်းသည်သာ အမှန်တကယ် သိပ္ပံနည်းကျ
သော လေ့လာမှုမျိုး ဖြစ်သည်ဟု သူက ခံယူသည်။ သည်ကိစ္စမျိုးတွင်
သမိုင်းစဉ်စီးပွားရေးပညာရှင်တွေ လိုက်မမီနိုင်။ အကြောင်းမူ၊ အထက်
ဥပမာနှင့်ပင် ဆက်ပြောရလျှင်၊ တစ်ခါတစ်ရံ၌ ဈေးနှုန်းကျသော်လည်း
စားသုံးသူက မဝယ်သေးဘဲ၊ ဈေးဆက်ကျလိမ့်ဦးမည်ဟု ဆိုင်းနေတာမျိုး
လည်း ရှိတတ်သောကြောင့် ဖြစ်သည်။ ထို့ကြောင့်၊ နောက်ကြောင်းတွေ
ကြည့်ကာ ပုံသေနည်းထုတ်ခြင်းထက်၊ အတွင်းစိတ်သဘောကို
ဆင်ခြင်သောနည်း (introspection) ကသာ အဖြေမှန်များကို ထုတ်
နိုင်လိမ့်မည်၊ စသဖြင့် မင်းဂါးရ်က ရှုမြင်ခဲ့သည်။



မင်းဂါးရ်၏ Untersuchungen စာတမ်း (၁၈၈၃ ခုနှစ်) တွင်
ပွားရေးပညာအတွက် သီအိုရီပိုင်းဆိုင်ရာနှင့် လေ့လာပုံနည်းနာပိုင်း
ဆိုင်ရာ အခြေခံများ အခိုင်အမာ ချမှတ်ပေးနိုင်ရန် သူ အားထုတ်ခဲ့သည်။
ည်အထဲတွင်၊ သူ၏ ကိုယ်ပိုင်နည်းနာများကို ကာကွယ်ခြင်း၊ သမိုင်းစဉ်
ဏ်း၏ နည်းနာများကို ဝေဖန်ချေဖျက်ခြင်းများလည်း ပါဝင်သည်။
း်ဂါးရ်က ပုဂ္ဂလဓိဋ္ဌာန်ခွဲခြမ်းစိတ်စစ်နည်း (individualistic method
analysis) ကို အထူးအလေးထားသည်။ စီးပွားရေးပညာအသိဟူသည်
က်မြင်ဒိဋ္ဌ မကြုံရမီကပင် ကြိုတင်သိမြင်သော a priori အသိမျိုး
ဖြစ်ရမည်ဟု သူယုံကြည်သည်။ စီးပွားရေးပညာဟူသည်၊ လူတစ်ဦးချင်း
၏ ဦးစားပေးရွေးချယ်မှုများ (တောင်းဆိုမှု၊ ဝယ်လိုမှုများ) ကို
ကြည့်ဆင်ခြင်ကာ၊ ယင်းမှတစ်ဆင့်၊ မတူသော ကုန်ပစ္စည်းများအတွက်
တူသော ဈေးနှုန်းများ ဟူသည့် လက်တွေ့လိုက်ကြည့်၍ရသော အနေ
အထားများ ပြောင်းလဲဖြစ်ပေါ်ပုံကို ရှင်းလင်းဖွင့်ဆိုခြင်းပင် ဖြစ်သည်ဟု
သူကခံယူသည်။

သူ၏ Untersuchungen ကို ရှမိုလာအပါအဝင် သမိုင်းစဉ်
ဂိုဏ်းသားများက အပြင်းအထန် ဝေဖန်ဆန့်ကျင်ကြသည်။ မင်းဂါးရ်၏
ပည့်များ၊ သူ့အယူအဆကို ထောက်ခံသူများကလည်း ထိုဝေဖန်ချက်များ
အလားတူ ပြင်းထန်စွာပင် ပြန်လည်တုံ့ပြန်ကြသည်။ နောက်တွင်မူ၊
လာက မိမိတို့ဂျာနယ်၌ မင်းဂါးရ်၏ စာအုပ်စာတမ်းများကို နောက်ထပ်
ဖန်သုံးသပ်မှု လုံးဝပြုတော့မည် မဟုတ်ကြောင်းနှင့် မင်းဂါးရ်၏
ာက်လိုက်များသည် တက္ကသိုလ်များတွင် သင်ကြားရေးတာဝန် ပေးအပ်
င့်သူများ မဟုတ်ကြောင်းပင် ကြေညာပြောဆိုခဲ့သည်။

ငြင်းခုံပွဲမှာ အချိန်တန်သော် ပြီးဆုံးသွားပါသည်။ ငြင်းခုံသည့်
ချက်များနှင့်စပ်လျဉ်း၍ သဘောတူညီမှု ရသွားခြင်း၊ တိကျသောအဖြေ
က်သွားခြင်း တို့ကြောင့်တော့ မဟုတ်။ ကာလရှည်ကြာ၍ ငြီးငွေ့သွား
သောကြောင့်သာ ဖြစ်သည်။

သို့သော်၊ မင်းဂါးရ်၏ စီးပွားရေးပညာ နည်းနာများကို အပြင်းအထန် ဝေဖန်သူတချို့ ရှိနေသေးသည့်တိုင် အများစုက လက်ခံ ခဲ့ကြပါသည်။

ငြင်းခုံပွဲကြောင့်၊ စီးပွားရေးပညာနယ်ပယ်၌ လေ့လာမှုနည်းနာ (methodology) ဆိုသော ကဏ္ဍရပ်မှာ နာမည်ပျက်သလို ဖြစ်သွား သည်။ စီးပွားရေးပညာရှင် အများအပြားကလည်း ထိုငြင်းခုံပွဲမှာ အလ အချိန်ဖြုန်းမှုသက်သက်သာ ဖြစ်သည်ဟု မှတ်ယူကြပြီး၊ ယင်းမှဆက် လေ့လာမှုနည်းနာနှင့် စပ်လျဉ်းသည့် ဝေဖန်ဆွေးနွေးမှု မှန်သမျှသည် အချည်းနှီး အကျိုးမဲ့သာဖြစ်သည် ဟူ၍ ရှုမြင်လာခဲ့ကြသည်။ သို့သော် ယင်းသို့ သိမ်းကျုံးရှုမြင်ကာ နည်းနာဗေဒကို ပစ်ပယ်ခြင်းမှာမူ စီးပွား ပညာအတွက် များစွာထိခိုက်နစ်နာစေကြောင်း၊ နည်းနာဗေဒကို စူး လေ့လာခြင်းများသည် အချိန်ဖြုန်းခြင်း မဟုတ်ကြောင်း ထောက် ပြောဆိုသူများလည်း ရှိခဲ့ပါသည်။

❖

ထင်ရှားကျော်ကြားသော စီးပွားရေးပညာရှင်ကြီးများထဲတွင် အများစုတို့မှာ ၎င်းတို့၏အယူအဆများ ၎င်းတို့၏သီအိုရီများကို အ စီးပွားရေးပညာရှင် အများစုတို့ နှစ်သက်လက်ခံခြင်း၊ ၎င်းတို့က တစ် နောက်လာမည့် ပညာရှင်လောင်းလျာများသို့ ပညာအမွေအနှစ်အ ဆင့်ကမ်းပို့ချပေးကြခြင်း တို့ဖြင့် သက်ရှိထင်ရှားကာလမှာပင် စီးပွား ပညာ ပင်မရေစီးကြောင်း၌ ဦးစီးရှေ့ဆောင်နိုင်ကြမြဲ ဖြစ်သည်။ ထူး သည့် ပုဂ္ဂိုလ်ကြီး အချို့မှာမူ လုံးဝကွဲပြားခြားနားသော အယူအဆ အားဖြင့် ပင်မရေစီးကြောင်း၏ ပြင်ပသို့ထွက်ကာ တပည့်နောက်ပါများ တစ်ဂိုဏ်းတစ်ကျောင်း သီးခြား ထူထောင်သွားတတ်ကြပါသည်။ မင်း ကမူ အထက်က ကဏ္ဍနှစ်ရပ်လုံးတွင် ထည့်သွင်း၍ရသည့် ရှားရှားပါး ပုဂ္ဂိုလ်အမျိုးအစား ဖြစ်ပါသည်။



ပုဂ္ဂိုလ်တစ်ဦးချင်းတို့ကို အလေးထားသောအမြင်၊ စီးပွားရေး သာကသည် တစ်သီးပုဂ္ဂလတို့၏ ဆန္ဒစွဲ တန်ဖိုးဖြတ်ချက်များပေါ်တွင် တည်၍ တုံ့ပြန်လှုပ်ရှားမြဲဖြစ်သည် ဟူသောအမြင်များအားဖြင့် မင်းဂါးရ် သည် ဩစတြီးယန်း စီးပွားရေးပညာဂိုဏ်း၏ ဦးဆောင်ပုဂ္ဂိုလ်တစ်ဦး ဖြစ်ခဲ့သည်။ တစ်ချိန်တည်းမှာပင်၊ ကုန်ပစ္စည်း၏ တန်ဖိုးသည် စားသုံးသူ နှစ်သက်မှု အတိုင်းအဆပေါ်တွင် မူတည်သည် ဟူသောအချက်ကို စတင် တွေ့မြင်ခဲ့ခြင်းနှင့်၊ စားသုံးမှုအကြိမ်များလာသည်နှင့်အမျှ အစွန်းထွက် နှစ်သက်မှုများ လျော့နည်းသွားပုံ သဘောကို တွေ့ရှိ ဖော်ထုတ်ခဲ့ခြင်း တို့အတွက်လည်း သူက စီးပွားရေးပညာ ပင်မလမ်းကြောင်းထဲတွင်ပါ ရေးပါသော ပုဂ္ဂိုလ်တစ်ဦးအဖြစ် အသိအမှတ်ပြုခံခဲ့ရပါသည်။

## အဲဖရက် မာရှယ်
## (၁၈၄၂ - ၁၉၂၄)



အဲဖရက်မာရှယ် (Alfred Marshall) က စီးပွားရေးဆိုင်ရာ ယူဆချက် (concept) အတော်များများပင် ဖော်ထုတ်တင်ပြခဲ့သူ ဖြစ်သကဲ့သို့၊ ယင်းယူဆချက်များကို သရုပ်ပြပုံများအားဖြင့် ရှင်းလင်းအောင် တင်ပြသည့် 'သရုပ်ပြပုံသုံး စီးပွားရေးပညာ' (diagrammatic economics) ကဏ္ဍကို အစပြုခဲ့သူလည်း ဖြစ်သည်။ ထို့ပြင် စီးပွားရေးပညာအား သီးခြားဘာသာရပ်တစ်ခုအဖြစ် ရပ်တည်နိုင်အောင် မြေတောင်မြှောက်ပေးရာ၌လည်း အဓိကအခန်းမှ သူ ပါဝင်ခဲ့သည်။

❖

မာရှယ်ကို လန်ဒန်မြို့ရှိ ဘာမွန်ဆေး (Bermondsey) အလုပ်သမားရပ်ကွက်တွင် ၁၈၄၂ ခုနှစ်က မွေးဖွားသည်။ သူ့ဖခင်သည် အင်္ဂလန်ဘဏ်တွင် စာရေးတစ်ယောက်ဖြစ်ပြီး မိခင်က သားသတ်လုပ်ငန်းသမားတစ်ဦး၏ သမီးဖြစ်သည်။ မိဘများမှာ လူချမ်းသာများ မဟုတ်ကြသော်လည်း ပညာရေးကို အလွန် တန်ဖိုးထားသူများဖြစ်ရာ မာရှယ်အား

ကျောင်းကောင်းများတွင် ထားပေးခဲ့သည်။ ဖခင်က မာရှယ်အား ကြိုးစားရန်၊ ညဉ့်နက်သန်းခေါင်အထိ စာကျက်မှတ်ရန် ကြပ်မတ်ခိုင်း လေ့ရှိသည်။ ထို့ပြင် ဂန္ထဝင်စာပေများနှင့် ဘာသာစကားရပ်များကို အထူး လေ့လာရန်လည်း အမြဲ တိုက်တွန်းသည်။ တိုက်တွန်းလွန်း၍လား မ မာရှယ်က အဲသည်ဘာသာရပ်တွေကို စိတ်မဝင်စားဘဲ သင်္ချာကိုသ နှစ်သက်ခုံမင်လာခဲ့သည်။

နောက်တွင် ဦးလေးဖြစ်သူ၏ အကူအညီ အထောက်အပံ့ ကိန်းဗရစ်(ချ)တက္ကသိုလ်သို့ သူ တက်ရောက်ခွင့်ရခဲ့သည်။ ကိန်းဗရစ်( တွင် သင်္ချာ၊ ဒဿနိကဗေဒနှင့် နိုင်ငံရေးဘောဂဗေဒတို့ကို ဆည်းပူးလေ့လ ခဲ့သည်။ ယင်းအနက် ဒဿနိကဗေဒကို သူ ပို၍စိတ်ဝင်စားသည်။ ထိုစဉ် အဲ့လ်(ပ)(စ)တောင်တန်းများသို့ အဖွဲ့လိုက် တောင်တက်ခရီး မကြာခဏ ထွက်ရလေ့ရှိရာ မာရှယ်က စိတ်အေးလက်အေး စာဖတ်ရင်း စဉ်း တွေးခေါ်နေနိုင်မည့် နေရာမျိုးကို ရွေးချယ်ကာ ဂန္ထဝင်မြောက်ဒဿနကျ တွေ ဖတ်ရှု ကျန်ရစ်နေလေ့ရှိခဲ့သည်။

ဒဿနကျမ်းများကို စိတ်ဝင်စားခဲ့သော မာရှယ်သည် နောက်ပိုင်း စီးပွားရေးပညာကို အထူးပြုလေ့လာ ဖြစ်ခဲ့သည်။ ယင်းသို့ ပြောင်းလဲ ခဲ့ရသည့် အဓိက အကြောင်းတစ်ခုက မြို့ကြီးများရှိ အနိမ့်ပါး အနံ့ချာ ရပ်ကွက်များသို့ ရောက်ကာ အဆင်းရဲ အမွဲတေဆုံး လူသားများ၏ မျက်နှ ကို မြင်ရတွေ့ရ၍ ဖြစ်ကြောင်း၊ ကိန်း(စ) ရေးသားသည့် အဲဖရက် မာရှယ် အတ္ထုပ္ပတ္တိစာတမ်းတွင် ဖော်ပြထားသည်။ စီးပွားရေးရာကို အထူး လေ့လာသည် ဆိုသော်လည်း ထိုစဉ်က ကိန်းဗရစ်(ချ)တွင် စီးပွားရေ ပညာဖြင့် ဘွဲ့ချီးမြှင့်လေ့ မရှိခဲ့သေးရာ ကိုယ်ကျင့်ဗေဒ (moral science ခေါင်းစဉ်အောက်၌ပင် ဘွဲ့ယူခဲ့ရသည်။

ဘွဲ့ရပြီးနောက် ကိန်းဗရစ်(ချ)တက္ကသိုလ် စိန့်ဂျွန်းကောလိပ်တွင် ၉ နှစ်မျှ စာသင်သည်။ ထို့နောက် ဘရစ္စတိုလ်ကောလိပ်နှင့် အောက်စဖို့ တက္ကသိုလ် ဘယ်လယားလ်ကောလိပ်တို့တွင် ခေတ္တမျှစီ ထမ်းရွက်



၈၅ တွင် ကိန်းဗရစ်(ချ)သို့ တစ်ကြိမ် ပြန်ဝင်ရောက်ကာ ၁၉၀၈ ခုနှစ် ငြိမ်းစားယူသည့်အချိန်ထိ ဆရာအဖြစ် လုပ်ကိုင်ခဲ့သည်။

❖

မာရှယ် စတင် သုံးစွဲခဲ့သည့် စိစစ်မှုဆိုင်ရာ ယူဆချက်များနှင့် ည်းနာများကို ယနေ့တိုင် ဘွဲ့ကြိုတန်းများတွင် မိုက္ကရိုဘောဂဗေဒ (micro-conomics) ဘာသာရပ် သင်ကြားရာ၌ အခြေခံများအဖြစ် အသုံးပြုနေဆဲ ဖြစ်သည်။

မာရှယ်က ဈေးကွက်တစ်ရပ်စီကို တစ်ခုချင်း သီးခြားစီခွဲ၍ လေ့လာ သည်။ သည်ဈေးကွက်တစ်ရပ်က အခြားဈေးကွက်များအပေါ် သက်ရောက် မှု၊ အခြားဈေးကွက်များက ဈေးကွက်တစ်ရပ်ချင်းအပေါ် သက်ရောက် မှုတို့ကို သူ မစဉ်းစားဘဲ ဘေးဖယ်ထားခဲ့သည်။ သည်အကြောင်းကြောင့် အား တစ်စိတ်တစ်ဒေသမျှခြေစိစစ်မှု (partial equilibrium analy-sis) စနစ်ကို စတင်ဖော်ဆောင်သူအဖြစ် အသိအမှတ်ပြုကြသည်။ တစ်ဖက် င် လီယွန်ဗောလ်ရပ်(စ) (Léon Walras) က စီးပွားရေးတစ်ရပ်အတွင်း ဈေးကွက်အားလုံးတို့ အပြန်အလှန် မှီခိုသက်ရောက်ပုံများကို လေ့လာသည့် အထွေထွေမျှခြေစိစစ်မှု (general equilibrium analysis) များ ပြုလုပ် သည်။ မာရှယ်၏တစ်စိတ်တစ်ဒေသမျှခြေစနစ်မှာ ဗောလ်ရပ်(စ)လောက် ည့်စုံခြင်း၊ ကျယ်ပြန့်ခြင်း မရှိသော်လည်း လုပ်ငန်းတစ်ခုချင်းတို့ ရင်ဆိုင် သည့် လက်တွေ့ပြဿနာများကို သုံးသပ် အဖြေရှာရာ၌မူ အဓိက ချက်တွင် စူးစိုက်မှုပေးနိုင်သည့်အတွက် အထွေထွေထက် ပို၍ထိရောက်မှု သည်။

ယင်းသို့ ဈေးကွက်တစ်ခုချင်းတို့ကို လေ့လာရာ၌ မာရှယ်က ရောင်းလိုအားနှင့် ဝယ်လိုအား စိစစ်မှုဆိုင်ရာနည်းနာတို့ကို ဖော်ထုတ် သုံးပြုသည်။ အထက်သို့ ဦးတည်သည့် ရောင်းလိုအားမျဉ်းကွေး (up-ward sloping supply curve) က ရောင်းလိုအားဥပဒေသ (law of

supply) ကိုပြသည်။ မည်သည့်ကုန်ပစ္စည်းမဆို ဈေးနှုန်းများတက်လာ
လုပ်ငန်းရှင်တို့က ၎င်းပစ္စည်းများကို များများ ထုတ်လုပ်ကာ ဈေးကွ
တွင်းသို့ ယခင်ထက် ပို၍ တင်သွင်းလာမည် ဟူသောသဘော။ အော
ဘက်သို့ ဦးတည်သည့် ဝယ်လိုအားမျဉ်းကွေး (downward slop
demand curve) ကလည်း ဈေးနှုန်းကျလျှင် စားသုံးသူတို့ များ
ဝယ်ယူလာကြသည်ဟူသော ဝယ်လိုအားဥပဒေသကို ပြသည်။ ကတ်
တစ်လက်၏ အသွားနှစ်ဘက်နှင့် တူသော အဆိုပါ ရောင်းလိုအား
ဝယ်လိုအားတို့သည် ကုန်ပစ္စည်းတစ်ခုစီ၏ ဈေးနှုန်းကိုလည်းကော
၎င်းကုန်ပစ္စည်း အရေအတွက် မည်ရွေ့မည်မျှ ထုတ်လုပ်မည်ကို လ
ကောင်း အဆုံးအဖြတ်ပြုနေကြသည်။

ယခင်က စီးပွားရေးပညာရှင် ဝီလျံ ဂျက်ဗန်း(စ)က ဝယ်လိုအား
ပဓာနပြုသည့် ရှုထောင့်မှလည်းကောင်း၊ ဒေးဗစ်ရီကာဒိုက ရောင်းလို
ကို ပဓာနပြုသည့် ရှုထောင့်မှလည်းကောင်း သုံးသပ်ခဲ့ကြသော်လ
မာရှယ်ကမူ ၎င်းတို့နှစ်ဦးလုံးနှင့် မတူဘဲ၊ ကုန်ပစ္စည်းဈေးနှုန်း
ထုတ်လုပ်မှုပမာဏတို့ကို ရောင်းလိုအားနှင့် ဝယ်လိုအားတို့က ပူး
အဆုံးအဖြတ်ပြုသည် ဟုဆိုသည်။

မာရှယ်က လုပ်ငန်းပြိုင်ဆိုင်မှုတို့သည် ကုန်ပစ္စည်းတို့၏ အ
တကယ်ဈေးနှုန်း (actual price) များကို မျှခြေဈေးနှုန်း (equilibri
pricc) နှင့် တူညီလာအောင် တွန်းပို့ပေးသည် ဟုဆိုသည်။ ယင်းသ
အရ အကယ်၍ ဈေးနှုန်းများကို မျှခြေအဆင့်ထက်မြှင့်၍ သတ်မှတ်ထ
သည် ဆိုပါစို့။ လုပ်ငန်းရှင်များအနေနှင့် မိမိတို့ ထုတ်လုပ်ထားသမျှ ပစ္စ
အားလုံး ကုန်အောင် ရောင်းချနိုင်မည် မဟုတ်ရာ တဖြည်းဖြည်း ဂိုဒေါင်
ထဲတွင် စုပုံလာသည်ကို မြင်တွေ့ကြရမည် ဖြစ်သည်။ သည်အ
လုပ်ငန်းရှင်အနေနှင့် ကုန်ထုတ်လုပ်မှုကို လျှော့ချရန်နှင့် ရှိသည့်ပစ္စည်း
ဈေးလျှော့ရောင်းရန် စဉ်းစားရတော့မည် ဖြစ်သည်။ တစ်ဘက်တ
အကယ်၍ ဈေးနှုန်းများကို မျှခြေထက်နှိမ့်၍ သတ်မှတ်ထားခဲ့သည် ဆို
ဈေးချိုသဖြင့် အဝယ်လိုက်ကာ ကုန်ပစ္စည်းလက်ကျန် နည်းလာလိမ့်မည်

ည်အနေအထားတွင် စားသုံးသူက ဖိဝယ်လျှင် ပစ္စည်းပြတ်သွားပြီး
င်မှာ လက်ကျန်မရှိတော့ဟု ကြေညာရသည့်အဆင့် ရောက်လာမည်။
အခါ လုပ်ငန်းရှင်များအနေနှင့် အရောင်းသွက်သော ထိုပစ္စည်းများကို
များထုတ်လုပ်ရန်နှင့် ဈေးနှုန်းတိုးမြှင့်ရောင်းချရန် စဉ်းစားလာကြမည်
သည်။ ပုံ(၁)၌ လုပ်ငန်းရှင်များအနေနှင့် မျှခြေအနေအထားတွင်သာ
တို့ ထုတ်လုပ်သော ပစ္စည်းအားလုံးကို တစ်သမတ်တည်းသော ဈေးနှုန်း
ရောင်းချနိုင်မည်ဖြစ်ကြောင်း ပြသထားသည်။




ပုံ(၁)၊ ရောင်းလိုအား၊ ဝယ်လိုအားနှင့် မျှခြေ

ဆက်လက်ပြီး မာရှယ်က ရောင်းလိုအားနှင့် ဝယ်လိုအား တို့ကို
၍ အသေးစိတ် ခွဲခြမ်းစိတ်ဖြာကြည့်ခဲ့သည်။ ဝယ်လိုအားနှင့်ပတ်သက်၍
က ...

ဝယ်လိုအားသည် ကုန်ပစ္စည်းတစ်ခုကို ဝယ်ယူသုံးစွဲသည့်အခါ၌
းသုံးသူတို့ခံစားရသည့် ကျေနပ်မှုအတိုင်းအဆအပေါ်တွင် မူတည်သည်။
စ်နည်းဆိုသော် စားသုံးသူကျေနပ်မှုက ဝယ်လိုအားကို အဆုံးအဖြတ်
သည်။ စားသုံးသူတို့သည် သူတို့ဝယ်ယူသော ပစ္စည်းထံမှ ကျေနပ်မှု
များဆုံး ရရှိလိုသည်။ များများရလျှင် တန်သည် ဟုယူဆသည်
ကြောင့် ကုန်ပစ္စည်းအသီးသီးတို့အတွက် ပေးရမည့် ဈေးနှုန်းနှင့် ရရှိမည့်
ကျေနပ်မှုများကို နှိုင်းယှဉ်ကာ မိမိမှာရှိသည့်ငွေနှင့် ချင့်ချိန်တွက်ချက် ဈေး

သိပ်မြင့်နေသည့် ပစ္စည်းအစား ဈေးချိုသည့် တခြားပစ္စည်းများကို ရွေး ဝယ်ယူတတ်သည်။

ဈေးနှုန်း ပြောင်းလဲခြင်း မရှိပါဘဲလျက် ကုန်ပစ္စည်းတစ်ခု များ ရောင်းလာရခြင်း သို့မဟုတ် အရောင်းထိုင်းသွားခြင်းကို ဝယ်လို အပြောင်းအလဲ (change in demand) ဟု မာရှယ်က သုံးနှုန်းပြော သည်။ ၎င်းကို သရုပ်ပြပုံဖြင့် ပြသည့်အခါ ဝယ်လိုအားမျဉ်း ရွေ့လျား (shifts in demand curve) ဟူ၍ ပြသည်။ ဝယ်လိုအား အပြောင်းအ တို့သည် လူအများ ချမ်းသာလာခြင်း၊ ဆင်းရဲလာခြင်း၊ လူဦးရေ တိုး လာခြင်း၊ လျော့နည်းသွားခြင်း၊ စားသုံးသူတို့ အကြိုက် ပြောင်းလဲခြ အခြားပစ္စည်းဈေးနှုန်းများ တက်ခြင်း ကျခြင်း၊ များမကြာမီ ဈေးနှုန်း တက်လိမ့်မည် ကျလိမ့်မည် ဟုမျှော်လင့်နေကြခြင်း စသော အကြောင်း ကြောင့် ဖြစ်ပေါ်ရသည်ဟု မာရှယ် ကဆိုသည်။ ၎င်းကို ထပ်၍ ရှင်းရ အကြောင်းကြောင်းကြောင့် လူအများ ဝင်ငွေကောင်းလာသည့်အ သို့မဟုတ် လူဦးရေ တိုးတက်လာသည့်အခါမျိုးတွင် ကုန်ပစ္စည်းတစ်ခုသ ဈေးမလျော့ပါဘဲလျက် ယခင်ကထက် အရောင်းတက်လာသည်၊ ( ဝယ်လိုအား တက်လာသည်။ ဝယ်လိုအားကောင်းလာခြင်းက ဈေးနှုန်း တွန်းတင်မည်။ ပုံ (၂) ကို ကြည့်ပါ။




ပုံ (၂)၊ ဝယ်လိုအား ရွေ့လျားမှု



ကြော်ငြာကောင်းခြင်းကြောင့်လည်း ပစ္စည်းတစ်ခုအပေါ် လူအများ ဝင်စားက ဝယ်လိုအား တက်လာနိုင်သည်။ အလားတူ ဘယ်အချိန် ာက်ရောက်လျှင် ဘယ်အကြောင်းနှင့် ဆက်စပ်ပြီး ဘယ်ပစ္စည်းတွေ တက်လိမ့်မည်ဟု လူအများ မြင်လာလျှင်လည်း ဈေးမတက်မီ စောစော ဝယ်ယူကြသဖြင့် ဝယ်လိုအား ရုတ်တရက် တက်နိုင်သည်။ အခြား ည်းများ ဈေးနှုန်းပြောင်းလဲခြင်းကြောင့် ကုန်ပစ္စည်းတစ်ခုအတွက် ယ်လိုအားတွင် လာ၍ ဂယက်ရိုက်ပုံများက အမျိုးမျိုး ဖြစ်နိုင်သည်။ ဥပမာ က်ဖက်ခြောက်ဈေးသိပ်တက်လျှင် နေ့စဉ် ပုံမှန်သောက်နေသူတွေထဲမှ ျို့က လက်ဖက်ရည်အစား ကော်ဖီ ပြောင်းသောက်လာသဖြင့် ကော်ဖီ ယ်လိုအား ကောင်းလာခြင်းမျိုး၊ လောင်စာဆီဈေးနှုန်း ရေရှည် ကြီးမြင့် နေသည့်အခါ အင်ဂျင်အားကောင်းသလောက် ဆီစားများသည့် ကား ကြီးတွေ စီးနေသူတို့ အင်ဂျင်အားနည်းနည်း ဆီစားအစားနည်းနည်း ားလေးများ ပြောင်းစီးလာသဖြင့် ကားကြီးကြီးတွေ ဝယ်လိုအား ကျကာ ားသေးသေးတွေ ဝယ်လိုအား တက်လာခြင်းမျိုး စသည်များ ဖြစ်သည်။

ရောင်းလိုအား နှင့်ပတ်သက်၍၊

ရောင်းလိုအားကို အဓိက အဆုံးအဖြတ်ပြုနေသည့် အရာက တ်လုပ်ကုန်ကျစရိတ် ဖြစ်သည်။ စားသုံးသူက သူ ပေးသည့်ငွေဖြင့် ျေနပ်မှု အများဆုံး ရရှိလိုသကဲ့သို့ ထုတ်လုပ်သူကလည်း သူ့ကုန်ပစ္စည်းမှ မြတ် အများဆုံး ရလိုသောသဘော ရှိသည်။ လုပ်ငန်းရှင်တစ်ဦးအနေနှင့် ကုန်ပစ္စည်းကို ပုံမှန်ထုတ်လုပ်နေသည့် ပမာဏထက် တိုးမြှင့်ထုတ်လုပ် ည်ဆိုလျှင် လုပ်ငန်းတို့၏ သဘာဝအရ ထိုတိုးမြှင့်သည့် အပိုင်းတွင် န်းထက် ထုတ်လုပ်စရိတ် ပိုကုန်ကျမည်ဖြစ်ရာ ဈေးကောင်း မရဘဲ တိုးချဲ့ တ်လုပ်ရန် မဖြစ်နိုင်ပေ။ ထို့ကြောင့် ၎င်းအချက်ကို မာရှယ်က ပုံဖြင့် သည့်အခါ အထက်သို့ တက်သွားသော ရောင်းလိုအားမျဉ်းအဖြစ် ါ်လာခြင်း ဖြစ်သည်။

ဝယ်လိုအားမှာကဲ့သို့ပင် ရောင်းလိုအား၌လည်း ရောင်းလိုအားမျဉ်း ရွေ့လျားမှု (shifts in supply curve) မျိုး ရှိသည်။ ဈေးနှုန်းတစ်ခုချင်းစီ၌




ပုံ (၃)၊ ရောင်းလိုအား ရွေ့လျားမှု

ထုတ်လုပ်မှုတွင် အတိုးအလျော့ ရှိလာခြင်း ကိုဆိုသည်။ ယင်းသို့ ဖြစ်
ရသည့် အဓိအကြောင်းက ထုတ်လုပ်ကုန်ကျစရိတ် ဖြစ်သည်။ ဥပ
အကြောင်းကြောင်းကြောင့် လုပ်ခများ တိုးပေးလာရသည့် အခါမျိုးတွ
ထုတ်လုပ်စရိတ် တက်လာသည်။ ထို့ကြောင့် လုပ်ငန်းရှင်အနေနှင့် မူ
ရနေကျ အမြတ်အစွန်းမျိုး ရလိုသော် တက်လာသော ကုန်ကျစရိတ်
စားသုံးသူအပေါ် ပုံချနိုင်မှ ဖြစ်တော့မည်။ (ဝါ) ဈေးတင် ရောင်းချရ
မည်။ ထို့ကြောင့် လုပ်ခ တိုးမြင့်လာခြင်းသည် ဈေးနှုန်း တိုးမြင့်
ရောင်းလိုအားမျဉ်းကို လက်ဝဲဘက်သို့ ရွေ့လျားစေသောသဘော ရှိသည်
တစ်ဖက်တွင်မူ ပို၍ ထိရောက်ကောင်းမွန်သော နည်းပညာများ သုံးစွဲ
လာသည့် အခါမျိုးတွင်မူ လုပ်အားသုံးစွဲရမှု လျော့နည်းသွားကာ ယင်း
အတူ ထုတ်လုပ်ကုန်ကျစရိတ်လည်း ကျဆင်းသွားပြီး ဈေးနှုန်းလည်
ကျသွားမည်။ မာရှယ်၏ သရုပ်ပြပုံတွင် ၎င်းကို ရောင်းလိုအားမျဉ်
လက်ယာဘက်သို့ ရွေ့သွားသောပုံအဖြစ် မြင်ရမည် ဖြစ်သည်။

❖



စီးပွားရေးပညာသို့ မာရှယ်၏ဖြည့်ဆည်းချက်များအနက် အရေး
[..]တစ်ခုက ရှန်းပြန်တတ်ခြင်းသဘော (ဝါ) အလျော့အတင်းသဘော
[..]tion of elasticity) ကို ဖော်ထုတ်ခဲ့ခြင်းဖြစ်၏။

စီးပွားရေးဆိုင်ရာ ဆက်ဆံရေးမှန်သမျှသည် အကြောင်းအကျိုး
[..]က်နွယ်မှုများချည်း ဖြစ်သည်ဟု သူမြင်၏။ သူပြောချင်သည့် အလျော့
[..]တင်း သဘောမှာ မည်သည့် အကြောင်းတစ်ခုကြောင့် မည်သို့သော
[..]ကျိုးသက်ရောက်မှုတစ်ခု မည်ရွေ့မည်မျှ ဖြစ်ပေါ်သနည်း ဟူသည်ကို
[..]င်းတာလိုခြင်း ဖြစ်၏။ ဥပမာ၊ ဈေးနှုန်းအတက်အကျကြောင့် ပစ္စည်း
[..]ခုအတွက် ဝယ်လိုအား မည်မျှ တက်သွားကျသွားသနည်း ဟူသော
[..]ချက်မျိုး ဖြစ်သည်။

အကယ်၍ အကြောင်းတစ်စုံတစ်ရာကြောင့် တစ်ခုသော အကျိုး
[..]က်ရောက်မှုသည် သိသိသာသာ များများစားစား ဖြစ်ပေါ်သည်ဆိုက
[..]ဆက်နွယ်မှုသည် အလျော့အတင်း များသော (elastic) ဆက်နွယ်မှု
[..]ပြီး သက်ရောက်မှု မသိသာ မထင်ရှားဘူးဆိုက ၎င်းဆက်နွယ်မှုသည်
[..]လျော့အတင်း နည်းသော (inelastic) ဆက်နွယ်မှု ဖြစ်သည်ဟု သူက
[..]သည်။ ထို့နောက် မာရှယ်က စီးပွားရေးဆက်နွယ်မှု အသီးသီးတို့၏
[..]လျော့အတင်းပမာဏကို တိုင်းတာနိုင်ရန်အတွက် သင်္ချာပုံသေနည်းတစ်ခု
[..]ည်း ဖော်ထုတ်ခဲ့သည်။

ဈေးနှုန်းနှင့် ဝယ်လိုအား အလျော့အတင်းတို့ ဆက်စပ်ပုံကိစ္စနှင့်
[..]လျဉ်း၍ မာရှယ်က ကုန်ပစ္စည်းတစ်ခုအတွက် ဝယ်လိုအားတွင် အလျော့
[..]တင်း ရှိစေသော မရှိစေသော အကြောင်းအချက်များကို သုံးသပ်ပြသည်။
[..]င်းအနက်၊ အရေးကြီးသော အရာတစ်ခုက အလွယ်တကူ အစားထိုးနိုင်
[..] (ease of substitution) ရှိမရှိ ဟူသောအချက် ဖြစ်သည်။ အကယ်၍
[..]ပစ္စည်းတစ်ခုသည် မသုံးမဖြစ်ပစ္စည်း ဖြစ်ပြီး၊ သူ့နေရာတွင် အစားထိုး
[..]လည်း အခြားပစ္စည်း မည်မည်ရရ မရှိဘူးဆိုက ၎င်းသည် ဈေးနှုန်း
[..]င်းရုံဖြင့် ဝယ်လိုအား အလျော့အတင်း ဖြစ်မသွားနိုင်သည့် (price in-
[..]astic) ပစ္စည်းမျိုးဖြစ်သည် ဟုဆိုရလိမ့်မည်။ သည်ပစ္စည်းမျိုးနှင့်

ပတ်သက်လျှင် ဈေးတက်သွားသော်လည်း ဝယ်သူက ဆက်၍ပင် ဝယ်
ရမည့်သဘော ရှိသည်။ ဥပမာ၊ ၁၉၇၀ ပြည့်နှစ်များက ဖြစ်ခဲ့သ
လောင်စာဆီ အကျပ်အတည်းကာလတွင် ဓာတ်ဆီဈေးနှုန်းလေးဆ
တက်သွားခဲ့သော်လည်း မော်တော်ယာဉ် မသုံးမဖြစ် သုံးစွဲနေရသူများ
လောင်စာဆီကို များများစားစား မလျှော့နိုင်၊ ဈေးကြီးပေး၍ပင် ဆက်
သုံးစွဲနေခဲ့ကြရသည်။

ဈေးနှုန်း၏ ပမာဏ ကိုယ်တိုင်သည်လည်း ဝယ်လိုအား အ
အတင်း နည်းခြင်း များခြင်းကို အဆုံးအဖြတ်ပြုသော အချက်တစ်ခု ဖြ
နိုင်သေးသည်ဟု မာရှယ်က ဆိုပါသည်။ ဥပမာ 'ဆား' ဆိုပါစို့။
ပုလင်းလေးတစ်လုံး၏ ဈေးနှုန်းသည် တခြားပစ္စည်းများနှင့်စာသော် အ
နည်း သည်။ ၎င်းဈေးနှုန်းကို ရာခိုင်နှုန်း အများကြီးတင်မည် ဆိုလျှင်
တက်လာသော ဈေးနှုန်းသည် ဘယ်လောက်မှ မများသေးရာ သည်
အပြောင်းအလဲကြောင့်တော့ ဝယ်လိုအားတွင် သိသိသာသာ ပြောင်
သွားလိမ့်မည် မဟုတ်။ တစ်နည်းဆိုသော် တန်ဖိုးနည်းသည့် ပစ္စည်း
ဝယ်လိုအားသည် ဈေးနှုန်းကို ဂရုမစိုက် (price inelastic) ဟုဆို
ဖြစ်သည်။ မော်တော်ကား အစရှိသည့် တန်ဖိုးကြီးသော ပစ္စည်းများ
ရာခိုင်နှုန်း ခပ်များများသာ ဈေးတက်သွားမည်ဆိုက နဂိုကပင် ကိုယ့်
နှင့် ချင့်ချိန်ဝယ်ယူနေကြရသည့် စားသုံးသူအများစုတို့အဖို့ လက်
သွားကြမည် ဖြစ်သည်။ ထို့ကြောင့် တန်ဖိုးကြီးပစ္စည်းများ၌ ဈေး
အတက်အကျ ပေါ်မူတည်၍ ဝယ်လိုအား အလျှော့အတင်း သိသိသာ
ရှိတတ်သည် (price elastic) ဟုဆိုရပါမည်။

မာရှယ်က အချိန်သည်လည်း ဝယ်လိုအား အလျှော့အတင်
အဆုံးအဖြတ်ပြုသည့် အရေးကြီးသော အချက်တစ်ခု ဖြစ်သည် ဟု
သည်။ ဆိုလိုသည်က အချိန်ကြာလာသည်နှင့်အမျှ ဝယ်လိုအားသည်
အလျှော့အတင်း ရှိလာသည် ဟူ၍ဖြစ်သည်။ ဥပမာ၊ ၁၉၇၀ ကျော်က
လောင်စာဆီဈေးနှုန်း တက်စဉ်ကအကြောင်းကို ကြည့်လျှင် အစပိုင်
လူတို့သည် မော်တော်ယာဉ် မသုံးစွဲဘဲ မနေနိုင်ကြသဖြင့် ဆီ



တ်သည့်တိုင် သုံးစွဲမှုကို သိပ်မလျှော့နိုင်ကြ။ တက်ဈေးဖြင့် ဝယ်မြဲဝယ်
ကြသည်။ သို့သော် နှစ်ချီ၍ကြာလာသည့်အခါ လူအများအပြားပင်
အားသက်သာသော ကားများကို ပြောင်းလဲ ဝယ်ယူ သုံးစွဲလာကြသည်။
တ်တော်ကားထုတ်လုပ်သူများကလည်း ဆီနည်းနည်းနှင့် ခရီးဝေးဝေး
းနိုင်သည့် ကားများ ပြောင်းလဲ ထုတ်လုပ်လာကြသည်။ နေ့စဉ်
လုပ်သွား အလုပ်ပြန်ကို ကားကိုယ်စီဖြင့် သွားမနေကြတော့ဘဲ သူ့ကား
လှည့်၊ ကိုယ့်ကားတစ်လှည့် အတူစုစီးသည့်စနစ် ကျင့်သုံးလာသည်။
တ်စကား၊ မီးရထား စသည့် လူအများ လိုက်ပါနိုင်သည့် ယာဉ်များကို
ည်း ပို၍ စီးရအဆင်ပြေအောင် ပြုပြင်ပြောင်းလဲလာကြသည်။ နောက်ဆုံး
လိုက်သည့်အခါ လောင်စာဆီဝယ်ယူသုံးစွဲမှု သိသိသာသာ လျှော့ကျ
းသည်။ စောစောက ဈေးနှုန်းကြောင့် ဝယ်လိုအား အလျှော့အတင်း
ခဲ့သော လောင်စာဆီသည် အချိန်ကြာသောအခါ အလျှော့အတင်း
သော သဘောပင်တည်း။

မာရှယ်က ဈေးနှုန်းကြောင့်ဖြစ်သည့် အလျှော့အတင်း သဘောကို
င်းလိုအားနှင့်လည်း ဆက်စပ်ကြည့်သည်။ ကုန်ပစ္စည်းတစ်ခု၏ ဈေးနှုန်း
တက်အကျ ပေါ်မူတည်ကာ လုပ်ငန်းသမားတို့ ၎င်းပစ္စည်းကို မည်မျှ
၍ သို့မဟုတ် လျှော့၍ ထုတ်လုပ် ရောင်းချလာကြသနည်း ဟူသည်ကို
မ်းခြင်း ဖြစ်သည်။

ဤနေရာ၌လည်း အချိန်က အရေးကြီးသော အခန်းကဏ္ဍမှ ပါဝင်
သည်။

သည်ကိုစွဲနှင့်ပတ်သက်၍ မာရှယ်က အတိုဆုံးအချိန်၊ ရေတိုနှင့်
ည် ဟူ၍ သုံးပိုင်းခွဲခြားကြည့်သည်။

သူပြောသည့် အတိုဆုံးအချိန် ဟူသည်က ဈေးကွက်သို့ ပစ္စည်း
သုတ် ထုတ်ရောင်းသည့် ကာလလောက်ကို ဆိုလိုခြင်း ဖြစ်သည်။
ကွက်သို့ ရောက်လာသော ပစ္စည်းအားလုံးကို ရောင်းရမည်၊ မရောင်းဘဲ
းလျှင် ပျက်စီးသွားမည်၊ သည်အတွင်း ဈေးကောင်းရသည် ဟူ၍ပင်
က်က ထပ်မံ ထုတ်လုပ်ပေးနိုင်မည် မဟုတ်ဟူသော အချိန် အပိုင်း

အခြားမျိုး ဖြစ်သည်။ သည်အနေအထားမျိုးတွင် ဝယ်သူရှိလျှင် ဈေး တတ်နိုင်သမျှ အမြင့်ဆုံး တင်ရောင်းနိုင်မည်၊ ဝယ်သူ မရှိက အလကားနီး ဈေးအထိပင် ချရောင်းတန် ရောင်းရလိမ့်မည်။ ၎င်းကို သရုပ်ပြပုံ ဖော်ပြလျှင် ရောင်းလိုအားမျဉ်းသည် ဒေါင်လိုက်တည့်တည့် သို့မဟု ဒေါင်လိုက်နီးပါး ဖြစ်နေသည်ကို မြင်ရလိမ့်မည်။ ဝယ်လိုအား ဈေးနှုန်းကို လုံးလုံးလျားလျား ဆုံးဖြတ်ပေးသွားသော သဘော ဖြစ်သည်

ရေတိုကာလဆိုသည်က ပစ္စည်းကို လူကြိုက်များသဖြင့် ဈေး ရောင်းချနေရသည်။ သို့သော် နောက်ထပ် များများစားစား ထုတ်လု အတွက်ဆိုလျှင် စက်ပစ္စည်းတွေ ထပ်ဝယ်၊ အလုပ်ရုံများကို တိုး အလုပ်သမားသစ်တွေ ခန့်နှင့် အတော်လုပ်ရဦးမည်။ အဲသည်လောက်အ လုပ်ဖို့ အချိန် မရသေး။ ထိုနည်းတူ ကိုယ့်အလုပ်ကောင်းနေတာ မြ တခြားလုပ်ငန်းရှင်များ ဝင်လာမှာလည်း ပူစရာ မလိုသေး။ သူတို့လာ ဝင်ချင်လျှင် ပြင်ဆင်ဖို့ အချိန်ပေးရဦးမည် ဆိုသည့်ကာလမျိုး။ အဲသည် ကာလမျိုးတွင် မိမိက မူလစက်ပစ္စည်း၊ မူလလုပ်သားအင်အားနှင့် အချိန်ပို အလုပ်လုပ်ပြီး တတ်နိုင်သမျှ ကုန်ပစ္စည်း များများရအော ထုတ်လုပ်နိုင်သည်။ သည်လိုလုပ်သည့်အခါ ပုံမှန်ထက်တော့ ထုတ် စရိတ် ပိုလာမည်။ သို့သော် ဈေးကွက်မှာ မိမိက ပြိုင်ဘက်မရှိ ဖြစ်နေ ဈေးနှုန်းကို ဖြစ်နိုင်သမျှ အမြင့်ဆုံးတင်၍ရသည်။ ချုပ်လိုက်သော် ကာလ၏ သဘောမှာ ဝယ်လိုအား တက်သော် ရောင်းလိုအားပိုင် တက်တော့တက်သည်၊ သို့သော် များများစားစား မတက်။ ထို့ကြော အမိက သက်ရောက်မှုသည် ဈေးနှုန်းဘက်သို့ သွားသည်၊ (ဝါ) ဈေးနှုန်း သိသိသာသာ ပိုတက်သည်။

ရေရှည်ကာလ ဆိုသည်မှာမူ ကုန်ပစ္စည်းတစ်ခု ဈေးကောင်းရသည် ကို အကြောင်းပြုကာ မူလထုတ်လုပ်သူကလည်း လုပ်ငန်းတိုးချဲ့မည် အခြားလုပ်ငန်းရှင်များလည်း သည်ကုန်ပစ္စည်း ထုတ်လုပ်သည့်ဘက် ဝင်လာကြမည်၊ မဟန်၍ ပြန်ထွက်သူလည်း ထွက်သွားမည် ဆိုသည့် အချိန်ကာလမျိုး ဖြစ်သည်။ ထိုကာလမျိုးတွင် ထုတ်လုပ်စရိတ်များလည်း



နှုန်းပုံသေသဘော ရှိလာကာ ကုန်ပစ္စည်းလည်း များများ ထွက်သဖြင့် ဈေးနှုန်း သိသိသာသာ တက်မည် မဟုတ်တော့။ တစ်နည်းဆိုသော် ရေရှည်၌ ရောင်းလိုအားမျဉ်းသည် ရေပြင်ညီအတိုင်း တစ်ပြေးတည်းလို ရှိနေမည် ဖြစ်သည်။

အထက်ကအချက်များကို ချုပ်၍ မာရှယ်က ရေတိုကာလတွင် ဝယ်လိုအားသည် ဈေးနှုန်းကို အဆုံးအဖြတ်ပြု၍ ရေရှည်၌မူ ရောင်းလိုအား နှင့် ထုတ်လုပ်ကုန်ကျစရိတ်များက ဈေးနှုန်းကို သတ်မှတ်ပြဋ္ဌာန်းသွားကြ သည် ဟုကောက်ချက်ချပါသည်။

❖

မာရှယ်က ဆင်းရဲသူတို့အား ကူညီလိုသော ဆန္ဒစိတ်အခံဖြင့် ဘောဂပွားရေးပညာနယ်ပယ်သို့ ရောက်ရှိလာခဲ့သူဖြစ်သည့် အားလျော်စွာ ဝင်ငွေခွဲဝေမှုဆိုင်ရာ ပြဿနာများ၊ ဆင်းရဲမွဲတေရခြင်း အကြောင်းရင်းများ စသည်တို့နှင့်စပ်လျဉ်း၍ အထူး စိတ်ဝင်စားခဲ့သည်။ သူက ဆင်းရဲခြင်း ပြဿနာကို လုပ်သားဈေးကွက်၌ ခြေရာခံကြည့်သည်။ လုပ်သားဈေးကွက် မှာ လှုပ်ရှားလည်ပတ်ပုံ၌ အခြားကုန်ပစ္စည်းဈေးကွက်များနှင့် ဆင်တူပင် ဖြစ်သည်။ သို့သော် ခြားနားချက်တစ်ခုက လုပ်သားဈေးကွက်တွင် လုပ်ငန်းရှင်တို့သည် ဝယ်သူဖြစ်ပြီး အိမ်ထောင်စုအသီးသီးတို့က ရောင်းသူ ဖြစ်နေခြင်း ဖြစ်သည်။

မာရှယ်က မကျွမ်းကျင်လုပ်သား ရောင်းလိုအားကို မဲလ်သပ်(စ)၏ လူဦးရေဆိုင်ရာ နိယာမက သတ်မှတ်ပြဋ္ဌာန်းကြောင်း၊ လုပ်ခတွေ ဈေးကောင်းသည့်အခါ လူဦးရေတိုးပွားလာပြီး လုပ်သားရောင်းလိုအား သည်၊ တက်လာကြောင်း၊ သို့သော် တစ်ဘက်တွင် စက်ယန္တရားများ တိုးတက်လာသည်နှင့်အမျှ မကျွမ်းကျင်လုပ်သား ဝယ်လိုအားက ကျ ကျရှိကြောင်း၊ သည်နှစ်ချက် ပေါင်းလိုက်သည့်အခါ မကျွမ်းကျင် လုပ်သားအတွက် လုပ်အားခသည် တက်လာစရာလမ်း မရှိတော့သကဲ့သို့

၎င်းတို့၏ဘဝများသည်လည်း နိမ့်ပါးနုံချာ၍ပင် နေလိမ့်မည်ဖြစ်ကြောင်း သည့်အပြင်၊ အသိပညာ အတတ်ပညာများ ချို့တဲ့အားနည်းသူ လုပ်သား ဈေးကွက်၌ မိမိအတွက် တောင်းဆိုနိုင်စွမ်းအား ကင်းမဲ့သူတို့ အနေနှ လုပ်ခနိမ့်သော အလုပ်များကိုသာ ရရှိကြကြောင်း၊ ထိုအခါ ၎င်းတို့ ပေါက်ဖွားသည့် သားသမီးများမှာလည်း ကျန်းမာရေးချို့တဲ့ခြင်း၊ ပညာ မပြည့်ဝခြင်း တို့ကြောင့် လုပ်အားစွမ်းရည်နည်းပါးသူ၊ အနိမ့်စားလုပ်ခသာ ရရှိသူများပင် ဖြစ်လာကြကြောင်း၊ ထိုဆင်းရဲမွဲတေမှုတို့သည် မျိုးဆက် တစ်ခုမှတစ်ခုသို့ လက်ဆင့်ကမ်း တည်တံ့နေကြောင်း သုံးသပ်ပြော ခဲ့သည်။

သို့သော်၊ ထိုကျွမ်းကျင်မှု နည်းသော သို့မဟုတ် အတတ်ပညာ တစ်စုံတစ်ရာ ပါမလာသော လုပ်သားတို့အား မည်သည့်နည်းမျိုးဖြင့် လုပ်ခတိုးမြှင့်ပေးနိုင်မည် ဟူ၍ကား သူ တိတိကျကျ ညွှန်ပြ ပြောဆိုနိုင်ခြင်း မရှိခဲ့ပေ။ ထို့ပြင် လုပ်သားတို့အတွက် အနိမ့်ဆုံးလုပ်ခကို မည်ရွေ့မည် ထက် မလျော့စေရဟု သတ်မှတ်ပြဋ္ဌာန်းပေးရန်၊ အလုပ်သမားသမဂ္ဂများ ဖွဲ့စည်းပေးရန်စသည့် အကြံဉာဏ်မျိုးများကိုလည်း သူ ထောက်ခံတင်ပြခြင်း မရှိခဲ့။ မကျွမ်းကျင်လုပ်သားတို့ အနေနှင့် မိသားစုဦးရေ ထိန်းသိမ်းရေး နှုန်းတိုးအခွန်စည်းကြပ်စနစ် (progressive taxation) မှရသော ဘဏ္ဍာ ငွေဖြင့် ဆင်းရဲသားတို့အားကူညီရန်နှင့် ဆင်းရဲမှုပြဿနာကို ပညာရေး နည်းလမ်းအားဖြင့် အဖြေရှာရန်၊ စသည်တို့လောက်သာ သူ အကြံပြု ခဲ့သည်။

❖

မာရှယ်က မိုက်ကရိုဘောဂဗေဒဆိုင်ရာ တွေ့ရှိချက်များအားဖြင့် အခါက ထင်ရှားခဲ့သော်လည်း မက်ကရိုဘောဂဗေဒနှင့် စပ်လျဉ်း၍လည်း သူ၏ ဖြည့်ဆည်းမှုတချို့ ရှိခဲ့ပါသည်။ သူက တိုင်းပြည်နှစ်ပြည်ရှိ မတူညီ



သော ငွေကြေးနှစ်ရပ်အကြား လဲလှယ်နှုန်းနှင့်စပ်လျဉ်း၍ ဝယ်နိုင်အား ညီမျှမှု (purchasing power parity) သဘောတွင် အခြေခံလျက် ရှင်းလင်းတင်ပြခဲ့သည်။ သူ့အယူအဆက ရိုးရိုးစင်းစင်းပင် ဖြစ်သည်။ အချို့သော ပစ္စည်းများသည် ကမ္ဘာအနှံ့ဆိုသလိုပင် ရောင်းချနေရသည်။ ထို့ကြောင့် တိုင်းပြည်အသီးသီး၌ ရောင်းချနေသည့် ၎င်းကုန်ပစ္စည်းတို့၏ တန်ဖိုး အသီးသီးကို နှိုင်းယှဉ်ကာ သည်တိုင်းပြည်မှ ငွေကြေးနှင့် ထိုတိုင်းပြည်မှ ငွေကြေးတို့၏ တန်ဖိုးကို အချိုးချကြည့်နိုင်သည် ဟူ၍ ဖြစ်သည်။ ဥပမာ မက်ဒေါနယ်ဟမ်ဘာဂါတစ်ခုကို အမေရိကန်ပြည်တွင် ၁ ဒေါ်လာနှုန်းဖြင့် ရောင်းရပြီး ဂျပန်ပြည်၌ ယန်း ၁၀၀ နှုန်း ရောင်းရသည် ဆိုပါစို့။ ဒေါ်လာနှင့် ယန်းတို့၏ လက်ရှိလဲလှယ်နှုန်း မည်သို့ရှိသည်ဖြစ်စေ လက်တွေ့အားဖြင့် အမေရိကန် ၁ ဒေါ်လာသည် ဂျပန်ယန်းငွေ ၁၀၀ နှင့် ဝယ်နိုင်အားချင်း ညီမျှသည် (ဝါ) တန်ဖိုးတူသည် ဟူသောသဘော ဖြစ်နေသည်။ ဝယ်နိုင်အားညီမျှမှုသီအိုရီက ငွေကြေးလဲလှယ်နှုန်းတို့သည် နောက်ဆုံး၌ ဝယ်နိုင်အား အချိုးအစားနှင့် တူညီသော အနေအထားသို့ပင် ရွေ့ပြောင်းရောက်ရှိကြမြဲ ဖြစ်သည် ဟုဆိုသည်။ ဥပမာ ဂျပန်ပြည်၌ ကုန်ပစ္စည်းတို့ ဈေးသက်သာနေသည် ဆိုပါစို့။ အမေရိကန်ဒေါ်လာ လက်ဝယ်ရှိသော သူသည် မိမိငွေကို ဂျပန်ယန်းငွေနှင့်လဲကာ ဂျပန်ပစ္စည်း များ ဝယ်လိမ့်မည်။ သို့သော် ထိုသို့ သူသူငါငါ ဝယ်ဖန်များသောအခါ ဂျပန်ယန်းငွေတန်ဖိုး တဖြည်းဖြည်း မြင့်တက်ကာ အမေရိကန်ဒေါ်လာ တန်ဖိုးကျလာပြီး နောက်ဆုံး၌ (ဒေါ်လာက ဝယ်နိုင်အားတွင် ယန်းငွေထက် သာနေရာမှ တန်းတူညီမျှဖြစ်လာကာ) လဲလှယ်နှုန်းနှင့် ဝယ်နိုင်အား အချိုးအဆတို့ တူညီသော အနေအထားသို့ ပြန်လည်ရောက်ရှိမည် ဖြစ်သည်။ အလားတူ အမေရိကန်ပြည်၌ ပစ္စည်းတွေ ဈေးသက်သာသလို ဖြစ်နေလျှင်လည်း ဂျပန်တို့က ဒေါ်လာငွေများကို ယန်းငွေဖြင့် ဝယ်ကာ အမေရိကန်ပြည်မှ ပစ္စည်းများ ဝယ်ယူလိမ့်မည်။ ဂျပန်က ဒေါ်လာ ဝယ်များလာသော် ဒေါ်လာတန်ဖိုး တက်ပြီး ယန်းတန်ဖိုး ကျမြဲ

အမေရိကန်ပစ္စည်းကို ဈေးချိုချိုဖြင့် ဝယ်မရတော့သော အနေအထား ရောက်ရှိလာမည်။ တစ်နည်းဆိုသော် ငွေကြေးလဲလှယ်နှုန်းနှင့် ဝယ်နိုင်အား အချိုးအစားတို့ တူမျှသွားခြင်းပင် ဖြစ်သည်။

❖

စီးပွားရေးပညာနယ်ပယ်၌ အယူအဆသစ်နည်းနာသစ် အများ အပြား ဖြည့်ဆည်းပေးခဲ့တာ မှန်သော်လည်း မာရှယ်အား ပို၍ အသိအမှတ် ပြုကြသည်က စီးပွားရေးရာကို သီးခြားပညာရပ် (subject/disciplin တစ်ခု အဆင့်သို့ရောက်အောင် မြှင့်တင်ပေးခဲ့ခြင်းအတွက် ဖြစ်၏ ကိန်းဗရစ်(ချ)တက္ကသိုလ်သို့ ဆရာတစ်ဦးအဖြစ် သူ ပြန်လည်ရောက် လာသည့် ၁၈၈၅ ခုနှစ်အချိန်ထိ စီးပွားရေးပညာသည် ကိုယ်ကျင့်ဒသ ဘာသာနှင့် သမိုင်းဘာသာ သင်ရိုးမာတိကာများ၏ တစ်စိတ်တစ်ဒေ အဖြစ်သာ ပါရှိနေဆဲ ဖြစ်သည်။ သမိုင်းသမား၊ ဒဿနိကသမားတွေ ဘွဲ့ရလိုလျှင် သူ့ကိုပါ ထည့်သွင်းလေ့လာရသော သဘောမျှသာ ဖြစ်သည် မာရှယ်က စီးပွားရေးပညာကို ၎င်းဘာသာ သီးခြားပညာရပ်တစ်ခုအဖြ ရပ်တည်နိုင်ရုံသာမက ရူပ်ပိုင်းသိပ္ပံပညာ၊ ဇီဝသိပ္ပံပညာတို့နည်းတူ သိ နည်းကျ ဖြစ်လာအောင်လည်း အားထုတ်ခဲ့သည်။ ထို့ပြင် သည်ပညာဖြ အစိုးရတို့အား လည်းကောင်း၊ လုပ်ငန်းရှင်များအား လည်းကောင်း ပံ့ပိုး ကူညီနိုင်ရန်ပါ သူ ကြိုးစားသည်။ တစ်နည်းဆိုသော် စီးပွားရေးပညာကို လက်တွေ့အသုံးချ ဘာသာရပ်တစ်ခု ဖြစ်အောင် ပို့ဆောင်ပေးခဲ့ခြင်း ဖြစ်သည်။

၁၉၀၃ ခုနှစ်တွင် ၎င်းကိစ္စနှင့်ပတ်သက်သည့် သူ၏ အားထုတ်မှုမှာ အကျိုးရလဒ် ထင်လာခဲ့သည်။ ကိန်းဗရစ်(ချ)တက္ကသိုလ်က စီးပွားရေး ဘာသာရပ်ဖြင့် ဒီဂရီပေးသည့် ကျောင်းတစ်ကျောင်း သီးခြား ထူထောင် ပေးလိုက်ခြင်း ဖြစ်သည်။ ထို့နောက်တွင်မှ ကမ္ဘာတစ်လွှားရှိ အခြား တက္ကသိုလ်များကလည်း ကိန်းဗရစ်(ချ)ကို နမူနာယူကာ စီးပွားရေးပညာကို သီးခြား ဘာသာရပ်ကြီးတစ်ခုအဖြစ် စတင် သင်ကြားလာကြသည်။ ... ပွားရေးပညာအဓိက ကျောင်းသားများ နိုင်ငံတကာ၌ ပေါ်ပေါက်လာခြင်း ...အတူ သည်ဘာသာရပ်၏ အဆင့်အတန်းကို မြှင့်တင်ပေးခဲ့သည့် မာရှယ် ...ည်လည်း သူ့ခေတ်သူ့ကာလက ကမ္ဘာတွင် အထင်ရှားဆုံး စီးပွားရေး ...ာရှင်ကြီး ဖြစ်လာခဲ့သည်။ ယနေ့တိုင်လည်း စီးပွားရေးပညာ သမိုင်း ...စ်လျှောက် အရေးပါဆုံးပုဂ္ဂိုလ် လေးငါးခြောက်ဦး စာရင်းကို ရွေးချယ် ...တိုင်း မာရှယ်၏အမည်က တစ်နေရာပါဝင်လာစမြဲ ဖြစ်ပေသည်။

# ဖရန့်စစ် အက်(ချ)ဝါ့သ်
(၁၈၄၅ - ၁၉၂၆)



ဖရန့်စစ် အက်(ချ)ဝါ့သ် (Francis Ysidro Edgeworth) က ပွားရေးတစ်ရပ်အနေဖြင့် ယင်း၏ ရင်းမြစ်များအား မည်သို့ အကောင်းဆုံး သင့်တော်ဆုံး ဝေမျှနိုင်မည်နည်း ဟူသောအချက်ကို စူးစမ်းလေ့လာခဲ့သူ ဖြစ်သည်။ သည်ကိစ္စနှင့်ဆက်စပ်လျက် စီးပွားရေးပညာနယ်ပယ်သို့ သူ ခါက ဖြည့်ဆည်းပေးခဲ့သည်က အဆင့်မြင့် သင်္ချာနည်းစနစ်များကို သုံးပြုသည့် မိုက္ကရိုဘောဂဗေဒဆိုင်ရာ ခေတ်မီခွဲခြမ်းစိတ်စစ်မှုတန်ဆာပလာ များဖြစ်သော ကျေနပ်မှုဖန်ရှင် (utility function) များ၊ မထူးမျဉ်းကွေး (indifference curve) များ၊ ကွန်ထရက်မျဉ်းကွေး (contract curve) များနှင့် အက်(ချ)ဝါ့သ်သေတ္တာ (Edgeworth box) စသည်တို့ကို သူ တီထွင်ဖော်ထုတ်ခဲ့ခြင်း ဖြစ်သည်။

အက်(ချ)ဝါ့သ်ကို အိုင်ယာလန်ပြည် အက်(ချ)ဝါ့သ်(စ)တောင်းမြို့တွင် ၁၈၄၅ ခုနှစ်က မွေးသည်။ မိဘများမှာ ချမ်းသာကြွယ်ဝ၍ ၎င်းတို့နယ်ပယ် သည့် ထင်ရှားကျော်ကြားကြသူများ ဖြစ်သည်။ သူ့အဘိုး ရစ်ချတ်လင်ဗယ် အက်(ချ)ဝါ့သ် (Richard Lovell Edgeworth) သည် ဘက်စုံတီထွင်သူ တစ်ဦး ဖြစ်ပြီး၊ နာမည်ကျော် ဝတ္ထုရေးဆရာမ မာရီယာ အက်(ချ)ဝါ့သ်

(Maria Edgeworth) မှာ သူ့အဒေါ်ဖြစ်သည်။

ငယ်စဉ်ကအိမ်တွင် သီးသန့်ဆရာများဖြင့် စာသင်ကြားခွင့်ရရှိ အထူးသဖြင့် ဂန္ထဝင်စာပေနှင့် လူသားဝါဒဆိုင်ရာ အသိပညာများ ပြည့်ပြည့်ဝဝ ဆည်းပူးခဲ့ရသည်။ အသက် ၁၇ နှစ်တွင် ဒပ်ဗလင်မြို့ ထရင်နီတီကောလိပ်သို့ တက်ရောက်ခဲ့သည်။ နောက်ငါးနှစ်ခန့်အကြာ ၁၈၆၇ ခုနှစ်တွင် အောက်စဖို့ဒ်တက္ကသိုလ်သို့ တက်ရောက်ပြီး လူသားဆိုင်ရာ ပညာရပ်များ (humanities) ဟု စုပေါင်းခေါ်ဝေါ်လေ့ရှိသည့် ဒဿနိကဗေဒ၊ ဘာသာစကား၊ စာပေ၊ သမိုင်း၊ အနုပညာရပ်များနှင့် ဘာသာရေးဆိုင်ရာ တို့ကို အထူးပြုလေ့လာသည်။ ၁၈၇၇ ခုနှစ်တွင် မဟာဝိဇ္ဇာ (M.A.) ဘွဲ့ရရှိပြီး ထိုနှစ်မှာပင် သူပြုစုသည့် ကျင့်ဝတ် (ethics) ဆိုင်ရာ ကျမ်းတစ်အုပ် ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သည်။ New and Old Methods of Ethics ... ဟူ၍ အမည်ပေးထားသည့် ၎င်းစာအုပ်၌ သူက ကိုယ်ကျင့်တရားဆိုင်ရာ သီအိုရီများကို လူအများဆုံး အလိုဆန္ဒ ပြည့်ဝရေးဝါဒ (utilitaranism) ခေါင်းစဉ်အောက်၌ စုပေါင်းထည့်သွင်း အားထုတ်ခဲ့သည်။

ထို့နောက်၌ အက်(ချ)ဝါ့သ်သည် ကူးသန်းရောင်းဝယ်ရေးဆိုင်ရာ ဥပဒေဘာသာရပ် (commercial law) ကို လေ့လာသည်။ ထို့ပြင် သင်္ချာဘာသာကိုလည်း မိမိဘာသာပင် ဆည်းပူးခဲ့သည်။

နောက်တွင် အက်(ချ)ဝါ့သ်သည် လန်ဒန်မြို့ ဘက်(ဒ)ဖို့ဒ်ကောလိပ်၌ ဆရာအဖြစ် ဝင်ရောက်လုပ်ကိုင်ရာ ၎င်း၌ စီးပွားရေးပညာရှင် ဂျက်ဗန်း(စ) (William Stanley Jevons) နှင့် အိမ်နီးချင်းတစ်ဦးအဖြစ် ရင်းနှီး ခင်မင်ခွင့်ရခဲ့သည်။ ဂျက်ဗန်း(စ)ကြောင့် သင်္ချာနှင့် စာရင်းအင်းပညာ (statistics) တို့ကို ပိုမို စိတ်ဝင်စားလာသကဲ့သို့၊ စီးပွားရေးပညာနယ်ပယ်၌ ၎င်းပညာရပ်များအား ကောင်းစွာအသုံးပြုနိုင်ပုံကိုလည်း အလေးအနက် သိမြင်လာခဲ့သည်။

သို့နှင့် စီးပွားရေးရာနယ်ပယ်များနှင့် အခြေခံသဘောတရားများ စကားပြေချည်းသက်သက်ဖြင့် မဟုတ်ဘဲ သင်္ချာနည်းစနစ်များအား ...၍ တိကျနိုင်မှာအောင် အားဖြည့်ပေးသည့် စာအုပ်စာတမ်းကျမ်းများ သူ ရေးသားပြုစုလာသည်။ ၎င်းစာအုပ်စာတမ်းများကြောင့် သူ့အမည် ထင်ရှားလာကာ လန်ဒန်ရှိဘုရင့်ကောလိပ် (King's College) က ပါမောက္ခရာထူး ပေးအပ်သည်။ ထို့နောက်တွင်မူ ပညာရှင်အများ တန်ဖိုးထားကြသည့် အောက်စဖို့ဒ်တက္ကသိုလ် အောလ်ဆိုးလ်(စ)ကောလိပ် (All Souls College) ၏ နိုင်ငံရေးဘောဂဗေဒ ပါမောက္ခရာထူး (the Drummond Professor of Political Economy) ကို သူရရှိခဲ့သည်။

၁၈၉၁ ခုနှစ်တွင် အက်(ချ)ဝါ့သ်သည် စီးပွားရေးဂျာနယ် (Economic Journal) ၏ ပထမဆုံးအယ်ဒီတာ ဖြစ်လာသည်။ ထို့နောက် ...၅ လုံးလုံးပင် ၎င်းဂျာနယ်ကို ကောင်းသထက်ကောင်းအောင် သူ ပြုစုပျိုးထောင်ခဲ့ရာ နောင်အခါ၌ တစ်ကမ္ဘာလုံးရှိ စီးပွားရေးပညာဆိုင်ရာ ဂျာနယ်များထဲတွင် အရေးပါဆုံး အထင်ရှားဆုံး ဂျာနယ်တစ်ခု ဖြစ်လာခဲ့သည်။ စီးပွားရေးဂျာနယ် လုပ်ကိုင်စဉ်ကာလအတွင်း နောက်ပိုင်း ထင်ရှားလာမည့် စီးပွားရေးပညာရှင်ကြီး ကိန်း(စ) (John Maynard Keynes) နှင့်လည်း အယ်ဒီတာအလုပ်များကို အတူ တွဲဖက်လုပ်ကိုင်ခဲ့ရသည်။

အက်(ချ)ဝါ့သ်က စီးပွားရေးဆိုင်ရာ အသိအမြင်များကို ရှာဖွေရာ၌ ဒစ်ဖရင်ရှယ်ကဲကုလ (differential calculus) ပညာကို ပင်တိုင်လက်စွဲအဖြစ် အသုံးပြုသူ ဖြစ်သည်။ ရှင်းလင်းသော အဓိပ္ပာယ်ဖွင့်ဆိုချက် (definition) များ၊ သင်္ချာဆိုင်ရာ တိကျသော သစ္စာကထာ (axiom) များဖြင့် အစတည်ပြီး၊ ယင်းတို့မှ ဆက်လက်၍ တိကျနိုင်မှာသော ကောက်ချက်များ ဆွဲထုတ်ပြသည့် နည်းလမ်းမျိုးဖြင့်သာ စီးပွားရေးပညာကို သင်္ချာဘာသာနှင့် အခြားအမာခံ သိပ္ပံဘာသာရပ်များကဲ့သို့ ခိုင်ခံ့သေချာသော အဆင့်သို့ ရောက်အောင် မြှင့်တင်နိုင်လိမ့်မည်။ ထိုအနေအထားမျိုး ရောက်မှသာ စီးပွားရေးမူဝါဒဆိုင်ရာ ပြဿနာများကို စီးပွားရေးပညာက ပိုင်ပိုင်နိုင်နိုင် ကိုင်တွယ်ဖြေရှင်း ပေးနိုင်လိမ့်မည် ဟူ၍ သူရှုမြင်ခဲ့သည်။ ထို့ပြင် စကားပြေ ...ရိုးနှင့်စာသော် သင်္ချာကိန်းဂဏန်းများ၊ ညီမျှခြင်းများ၊ ဇယားများက ...၍ လုပခန့်ညားပြီး ပို၍လည်း တိကျမှန်ကန်မှု ရှိသည်။ ထို့ကြောင့် သင်္ချာ

အသုံးပြုသော ရှင်းလင်းတင်ပြချက်များသည် အက်ဒမ်စမစ် အပါအဝင် ကျမ်းရိုးဘောဂဗေဒပညာရှင်များ၏ စကားပြေသက်သက် တင်ပြချက်များထက် အတွေးအမြင်ပိုင်းဆိုင်ရာ၌ ပို၍ အဆင့်အတန်း မြင့်သည်ဟု သူကခံယူသည်။ သို့သော် ယင်းကဲ့သို့ဆိုခဲ့သော အက်(ချ)ဝါ့သ်ကိုယ်တိုင် သူတစ်ပါး ဝေဖန်လှောင်ပြောင်ချင်စရာ အားနည်းချက်အချို့ ရှိနေပြန်သည်။ ယင်းက သူ့စကားပြေအရေးအသား ရှင်းလင်းပြေပြစ်မှု မရှိခြင်းနှင့် သူ၏ သင်္ချာကဏ္ဍတွေ ရှုပ်ထွေးလှခြင်း ဖြစ်သည်။ သူရေးသားသည့် စာအုပ် စာတမ်းများမှာ သင်္ချာဘောဂဗေဒ (Mathematical economics) ကို အထူးပြုလေ့လာကြသည့် စီးပွားရေးပညာရှင်များအတွက်ပင် ဖတ်ရှု ခက်လှသည် ဟုဆိုပေသည်။

❖

အက်(ချ)ဝါ့သ်က အဓိကအားဖြင့် ရောင်းဝယ်ဖလှယ်မှု (exchange) ဆိုင်ရာနှင့် ခွဲဝေမှု (distributioin) ဆိုင်ရာ ပြဿနာတို့ကို စိတ်ဝင်စားသည်။ ကုန်သွယ်မှု သို့မဟုတ် ဖလှယ်မှု မှရသည့် အကျိုးအမြတ်များကို နိုင်ငံအသီးသီးတို့ ကြားတွင်လည်းကောင်း၊ လူတစ်ဦးချင်းတို့ ကြားတွင်လည်းကောင်း မည်သို့ ခွဲဝေကြသနည်း ဟူသောအချက်ကို သူ စူးစမ်း လေ့လာသည်။

စီးပွားရေးပညာအတွက် အက်(ချ)ဝါ့သ်၏ အရေးပါသော ဖြည့်ဆည်းချက်တစ်ရပ်က စားသုံးသူကျေနပ်မှု (utility) အပိုင်းတွင် ထပ်ဆင့် မွမ်းမံခြင်း ဖြစ်သည်။ စောစောပိုင်းကာလ ကျေနပ်မှုပဓာနဝါဒီများက ကုန်ပစ္စည်းအသီးသီးတို့နှင့် စပ်လျဉ်း၍ စားသုံးသူတို့၏ ကျေနပ်မှုကို အတိုင်းအတာ ပမာဏများအားဖြင့် ဖော်ပြလိုသောသဘော ရှိကြသည်။ ကုန်ပစ္စည်း (A) မှ ရရှိသော ကျေနပ်မှုသည် ကုန်ပစ္စည်း (B) မှ ရရှိသော ကျေနပ်မှုထက် မည်ရွေ့မည်မျှပိုသည် ဟုပြချင်ကြသည်။ တစ်နည်းဆိုသော် ကျေနပ်မှုပမာဏကို ကိန်းဂဏန်းဖြင့် ရေတွက်ပြသလိုသည့် (cardinal utility) သဘော ဖြစ်သည်။



အက်(ချ)ဝါ့သ်ကမူ စီးပွားရေးပညာရှင်များအား ကျေနပ်မှုပမာဏကို အရေအတွက်ဖြင့် ပြရန် အားထုတ်မနေဘဲ ဘယ်ပစ္စည်းထက် ဘယ်ပစ္စည်းကို ပို၍ နှစ်သက်သည်၊ ဘယ်အရာကို သုံးစွဲရသည့်အခါ ကျေနပ်မှု အများဆုံး ခံစားရသည်၊ စသဖြင့် ကျေနပ်မှု အဆင့်ဆင့် သို့မဟုတ် နှစ်သက်မှုအလိုက် ဦးစားပေးအဆင့်ဆင့်ကို ပြသည့် (ordinal utility) သဘောဘက်သို့ အာရုံစူးစိုက်လာအောင် ရွေ့ပြောင်းခေါ်ယူသည်။

ကျေနပ်မှုကို ပမာဏဖြင့်ပြသည်ထက် ဦးစားပေးအဆင့်ဖြင့် ပြရခြင်းက ပို၍ လွယ်ကူသည်။ ဥပမာ၊ ကုန်ပစ္စည်း A ကို မည်မျှကြိုက်သည်၊ B ကို မည်မျှနှစ်သက်သည် စသဖြင့် ပြောခြင်းထက် A ကို B ထက် ပိုကြိုက်သည်၊ လျော့ကြိုက်သည်၊ သို့မဟုတ် တန်းတူဟု သဘောထားသည် စသဖြင့် ပြောရတာ ပို၍ ရိုးစင်းရှင်းလင်းသည်။

အက်(ချ)ဝါ့သ်က ကျေနပ်မှုကို ယင်းသို့ အဆင့်များ ခွဲခြားတိုင်းထွာခြင်းမှ ဆက်လက်ကာ မထူးမျဉ်းကွေး (indifference curve) ဟူသည်ကို ဖော်ထုတ်တင်ပြသည်။ ၎င်းမျဉ်းကွေးမှာ လူတစ်ယောက် A နှင့် B ပစ္စည်း နှစ်မျိုးကို တွဲဖက်သုံးစွဲသည့်အခါ၌ ရရှိသည့် ကျေနပ်မှုများကို တိုင်းတာတာ၊ စားသုံးသူအား တူညီသော ကျေနပ်မှုပေးနိုင်သည့် ၎င်းပစ္စည်း နှစ်မျိုး၏ အချိုးအစပ်များကို မှတ်သားပြီး၊ ယင်းတို့ဖြင့် ရေးဆွဲပြသည့် ရုပ်မျဉ်းတစ်ခု ဖြစ်သည်။ ပို၍ရှင်းလင်းအောင် ဥပမာဖြင့်ပြရသော် ဘီယာနှင့် ပရက်ဇယ် (pretzel) အမြည်းထုပ် ဆိုပါစို့။ ဘီယာချည်းဆိုလျှင် မပြည့်စုံ။ ပရက်ဇယ်ချည်း ဝါးနေရလျှင်လည်း အဓိပ္ပာယ်မရှိ။ နှစ်ခုတွဲလိုက်တော့မှ ပြည့်ပြည့်ဝဝ ကျေနပ်မှုရတာ အများသိကြသည်။ ယင်းပစ္စည်းတွဲအတွက် မထူးမျဉ်းကွေးတစ်ခု ရေးဆွဲနိုင်ရန် အစပျိုးကိန်းဂဏန်းအဖြစ် ဥပမာ ဘီယာ ၃ ဘူး၊ ပရက်ဇယ် ၃ ထုပ် ဟူသော အချိုးအစပ်ဖြင့် စတင်ကြည့်ရသော်၊

ဘီယာကြိုက်တတ်သူ၊ သောက်လည်းသောက်နိုင် ဝါးလည်းဝါးနိုင်သူ အနေနှင့် ဘီယာ ၃ ဘူး၊ ပရက်ဇယ် ၃ ထုပ် မှီဝဲရပါက၊ ဘီယာ ၂ ဘူး

ပရက်ဇယ် ၂ ထုပ် စားသုံးရသည်ထက် ပို၍ ကျေနပ်မှုရရှိမည် ဖြစ်သည် တစ်ဖန် ယင်းထက်တိုးကာ ၄ ဘူး၊ ၄ ထုပ် ဖြစ်လာသော် ပို၍ပင် ကျေနပ် ခံစားရလိမ့်ဦးမည်။ ထို့ကြောင့် ယေဘုယျအားဖြင့်ဆိုသော် အရေအတွက် များလျှင် ကျေနပ်မှု ပိုလာသည့်သဘော ဖြစ်ပါသည်။ ထို့ကြောင့် ကျေနပ် အတိုးအလျော့ မရှိစေဘဲ စားသုံးသည့် အရေအတွက်များကိုသာ အပြော အလဲပြုမည်ဆိုက ဘီယာကိုတိုးသော် ပရက်ဇယ်ကိုလျှော့၍ ပရက်ဇယ် တိုးလိုလျှင် ဘီယာကို လျှော့ရမည် ဖြစ်သည်။ ဥပမာ ၄ ဘူး နှင့် ၂ ထု သို့မဟုတ် ၂ ဘူးနှင့် ၄ ထုပ် စသဖြင့်။

ထို့နောက် အဆိုပါ ၃ ဘူး ၃ ထုပ်၊ ၄ ဘူး ၂ ထုပ်၊ ၂ ဘူး ၄ ထု စသော စားသုံးပစ္စည်းအချိုးအစပ်များကို ဂရပ်ပုံတွင် အသီးသီး နေရာချ ဆက်စပ်ရေးဆွဲပါက ဘီယာနှင့်ပရက်ဇယ် နှစ်ခုတွဲအတွက် မထူးမျဉ်းကွေ တစ်ခု ထွက်ပေါ်လာမည် ဖြစ်သည်။ ပုံ (၁) ကို ကြည့်ပါ။




ပုံ (၁)၊ မထူးမျဉ်းကွေး

ထို့နောက်တွင် ဘီယာအရေအတွက်ကို တိုးမြှင့်ခြင်း ဖြစ်သော်လည် ကောင်း၊ ပရက်ဇယ်အရေအတွက်ကို တိုးမြှင့်ခြင်း ဖြစ်သော်လည်းကော အထက်က မျဉ်းကွေးမှာထက် စားသုံးသူကျေနပ်မှု ပိုမိုများပြားသ နောက်ထပ် မထူးမျဉ်းကွေးတစ်ခု ရေးဆွဲနိုင်သည်။ ထိုမျဉ်းကွေးကို ပုံ



တွင် ထည့်သွင်းမည်ဆိုက ၎င်းသည် ပထမမျဉ်းကွေး၏ **အထက် သို့မဟုတ်** အရှေ့မြောက်ဘက်တွင် ရှိနေမည် ဖြစ်သည်။ ဥပမာ၊ **ဘီယာ ၄ ဘူး** ပရက်ဇယ် ၄ ထုပ် သုံးစွဲမည် ဆိုပါစို့။ စားသုံးသူကျေနပ်မှုသည် **ဘီယာ** ၃ ဘူး၊ ပရက်ဇယ် ၃ ထုပ်တုန်းကထက် ပိုလာမည် ဖြစ်သည်။ **ထို့နောက်** ထိုကျေနပ်မှုနှင့် ညီမျှနိုင်သည့် အခြားအတွဲအစပ်များ၊ ဥပမာ ဘီယာ ၅ ဘူး ပရက်ဇယ် ၃ ထုပ်။ ဘီယာ ၃ ဘူး ပရက်ဇယ် ၅ ထုပ်၊ စသည်တို့ကို တွက်ချက်ယူကာ ဂရပ်မျဉ်းဆွဲပါက စားသုံးသူကျေနပ်မှုတွင် ၃ ဘူး ၃ ထုပ် တန်းထက် ပိုသော မထူးမျဉ်းကွေးတစ်ခု ပေါ်ထွက်လာပေမည်။ အလားတူ ဘီယာ ၂ ဘူး ပရက်ဇယ် ၂ ထုပ်တွင် အခြေခံလျက် ၎င်းနှင့်တန်းတူ ကျေနပ်မှု ပေးနိုင်သည့် ဘီယာ – ပရက်ဇယ် အချိုးအဆများကို ရှာ၍ ဂရပ်မျဉ်းဆွဲပါက စားသုံးသူကျေနပ်မှုတွင် ၃ ဘူး ၃ ထုပ်တန်းထက် နည်းသော မထူးမျဉ်းကွေးတစ်ခုကို မူလမျဉ်းကွေး၏ အောက်ဘက် သို့မဟုတ် အနောက်တောင်ဘက်တွင် ရရှိမည် ဖြစ်သည်။

အက်(ချ)ဝ့်ါသ်က မထူးမျဉ်းကွေးတို့သည် မူလမှတ်အား မျဉ်းဖြောင့် အတိုင်း မဖြတ်သန်းဘဲ မျဉ်းခုံးအသွင် (convex) ဖြစ်ပေါ်လိမ့်မည်။ အကြောင်းက အရေအတွက် တိုးသည်နှင့်အမျှ အစွန်းထွက်ကျေနပ်မှု လျော့နည်းသွားတတ်သောသဘော (diminishing marginal utility) ကြောင့် ဖြစ်သည် ဟူ၍ဆိုသည်။ ဥပမာ ဘီယာ ဆိုပါစို့။ တစ်နေ့လုံး ပင်ပန်းလာပြီး ညနေတွင် ဘီယာ သောက်သည့်အခါ ပထမတစ်ဘူးတွင် အလွန် အရသာရှိသည်။ ပင်ပန်းတာတွေ ပြေပျောက်ကာ ကျကျနန အပန်းဖြေလိုက်ရသလို ခံစားရသည်။ ဒုတိယဘီယာတစ်ဘူးတွင်လည်း သောက်သုံးသူ၏စိတ်မှာ ကျေကျေနပ်နပ်ရှိဆဲ၊ အေးအေးဆေးဆေး ဘီယာ သောက်ရင်း အပန်းဖြေနေရသည် ဟူသောအရသာမျိုး ခံစားနေရဆဲ ဖြစ်သည်။ ၃–၄–၅ ဘူး၊ ထို့နောက် ၆ ဘူး လောက်တွင်မူ အရသာခံသည့် အပိုင်း၊ ဘီယာ သောက်သုံးရခြင်းအတွက် ကျေနပ်နေသည့် အပိုင်း သိပ်မရှိတော့။ သောက်လက်စနှင့် ဆက်သောက်နေခြင်းမျိုးသာ ဖြစ်လာပြီ။ ဘူး ၉ ဘူး ဆိုလျှင်တော့ ဟာ တော်ပြီ၊ မသောက်ချင်တော့ဘူး၊ အရမ်း

မှုးပြီ၊ ဗိုက်ထဲလည်း ပြည့်နေပြီ၊ ဆက်သောက်လျှင် ထိုးအန်မလား၊ ယိုင်ထဲ သွားမလား၊ တစ်ခုခုတော့ ဖြစ်တော့မည်။ ကျေနပ်မှုအများဆုံးအဆင့်မှ တဖြည်းဖြည်း လျော့ကျကာ နောက်ဆုံး၌ ကျေနပ်မှုကို အနုတ်လက္ခဏာ ဖြင့် ပြရမည့် အနေအထား ရောက်သွားခြင်း ဖြစ်သည်။

ဘီယာနည်းတူ ပရက်ဇယ်မှာလည်း ထိုနည်းငင်း ဖြစ်သည်။ ပထမ ပရက်ဇယ်တစ်ထုပ်သည် အဆာပြေစေသည်။ စားရတာ အရသာရှိသည်။ နှစ်ထုပ်လည်း မဆိုးပါဘူး ဆိုပါတော့။ သုံးလေးထုပ်ဆိုလျှင် ဗိုက်ပြည့် လာမည်။ ၁၀ ထုပ်စားရမည်ဆိုလျှင်တော့ ဒဏ်ပေးခံရသလို ဖြစ်တော့မည်။

အက်(ချ)ဝါ့သ်က သူ၏ မထူးမျဉ်းကွေးများကို ရောင်းဝယ်ဖလှယ်မှု များအား စိစစ်သုံးသပ်ရာ၌လည်း အသုံးပြုသည်။ သူက လူနှစ်ဦးကြား ကုန်ပစ္စည်းချင်းဖလှယ်မှု (barter) ပြုလုပ်ပုံကို မှုတည်၍ သုံးသပ်ပြသည်။ သူ့အယူအဆကို လက်ခံသည့် သည်ဘက်ခေတ် စီးပွားရေးပညာရှင် အများအပြားကမူ သူ၏ စိစစ်သုံးသပ်ပုံနည်းနာကို နိုင်ငံနှစ်ခုအကြား ကုန်သွယ်မှုအနေအထားများကို စိစစ်ရာ၌ အသုံးပြုလေ့ရှိကြသည်။ ၎င်း ရောင်းဝယ်ဖလှယ်မှုနှင့် စပ်လျဉ်းသည့် သူ့အယူအဆသည်ပင်လျှင် စီးပွားရေးပညာနယ်ပယ်သို့ အက်(ချ)ဝါ့သ် ဖြည့်ဆည်းပေးခဲ့သည့် အဓိက အချက် ဖြစ်ပါသည်။ အက်(ချ)ဝါ့သ်က ရောင်းဝယ်ဖလှယ်ခြင်းဖြင့် နှစ်ဦး နှစ်ဖက် အကျိုးရှိနိုင်ပုံအကြောင်း၊ သို့သော် ရောင်းဝယ်ဖလှယ်မှု၏ နောက်ဆုံး ရလဒ်မှာမူ တိတိကျကျ ခန့်မှန်းချင့်တွက်၍ မရသော အရာမျိုး (indeterminate) ဖြစ်ကြောင်း သရုပ်ပြပုံများအားဖြင့် ဖော်ပြခဲ့သည်။

နမူနာသဘော ပြောရသော် ...

ဂျာမနီနှင့် ဘယ်လဂျီယမ် နိုင်ငံနှစ်ခု ကုန်သွယ်မှုပြုကြသည် ဆိုပါစို့။ ၎င်းနှစ်နိုင်ငံတို့ ထုတ်လုပ်ကြသည့် ကုန်ပစ္စည်းများမှာလည်း အထက်က နမူနာပြခဲ့သည့် ဘီယာနှင့် ပရက်ဇယ် ပင်ဖြစ်သည် ဆိုပါစို့။ တစ်နိုင်ငံစီ၌ မထူးမျဉ်းကွေး ကိုယ်စီရှိကြပြီး နိုင်ငံရှိ စားသုံးသူတို့၏ ကျေနပ်မှုအဆင့်ကို အမြင့်ဆုံးသို့ တင်လိုသောဆန္ဒ (သို့မဟုတ်) မထူး မျဉ်းကွေးများကို အမြင့်ဆုံး မြင့်လိုသော ဆန္ဒလည်း ကိုယ်စီပင် ရှိကြသည်



ဖြစ်သည်။ မိမိတိုင်းပြည်ရှိ ရင်းမြစ်များ၏ စွမ်းအားဖြင့် ဘယ်လဂျီယမ်သည် ဘီယာ သေတ္တာသန်း ၄၀ နှင့် ပရက်ဇယ် တန်ချိန် ၁၀ သန်း ထုတ်လုပ်ကာ သူ၏ မထူးမျဉ်းကွေးကို အမြင့်ဆုံး မြင့်တင်ထားပြီး ဂျာမနီကလည်း ဘီယာ သေတ္တာသန်း ၄၀ နှင့် ပရက်ဇယ် တန်ချိန် သန်း ၆၀ ထုတ်လုပ်ကာ သူ့အတွက် အမြင့်ဆုံး မထူးမျဉ်းကွေးကို ဖန်တီးထားသည်။

တိုင်းပြည်နှစ်ခု၏ မထူးမျဉ်းကွေးပြပုံနှစ်ခုအတွက် ပုံမှန်အတိုင်း ထား၍ နောက်တစ်ခုကို ပြောင်းပြန်ဇောက်ထိုးလုပ်ကာ အပေါ်မှ ထပ်လိုက်သော် ပုံ (၂) တွင် ပြထားသည့်အတိုင်း စတုရန်းကွက်တစ်ခုနှင့် ၎င်းအထဲတွင် မျဉ်းကွေးနှစ်ခု ထပ်နေသောပုံ ပေါ်လာလိမ့်မည်။ ၎င်းပုံမျိုးကို အက်(ချ)ဝါ့သ် သေတ္တာ (Edgeworth Box) ဟုခေါ်သည်။ (ပုံ – ၂) ကို ကြည့်ပါ။




ပုံ (၂)၊ အက်(ချ)ဝါ့သ် သေတ္တာ

ယခုပုံတွင် ဘယ်လဂျီယမ်ကို ပုံမှန်ထားပြီး၊ ဂျာမနီ၏ မထူး မျဉ်းကွေးပြပုံကိုမူ တစ်ဖက်လှန်ကာ ဇောက်ထိုးပြုလျက် ဘယ်လဂျီယမ်ပုံမှာ

လာထပ်ထားခြင်း ဖြစ်သည်။ D အမှတ်ရှိနေသော မျဉ်းကွေးသည် ဂျာမနီ၏မျဉ်းကွေး ဖြစ်ပြီး၊ E အမှတ်ရှိနေသော မျဉ်းကွေးမှာ ဘယ်လဂျီယမ် ဖြစ်သည်။ ထို့ကြောင့် ဂျာမနီက ကျေနပ်မှုများများ ရလာမည် (သို့မဟုတ်) မထူးမျဉ်းကွေးသည် ယခုထက် ပိုမြင့်တက်လာမည်ဆိုလျှင် ၎င်းသည် ယခု ပုံ၌ အနောက်တောင်ဘက်သို့ ရွေ့လျားလာရမည်ဖြစ်ပြီး၊ ဘယ်လဂျီယမ်က တက်မည်ဆိုလျှင် အရှေ့မြောက်သို့ ရွေ့လျားလိမ့်မည် ဖြစ်သည်။

ယခုပုံ၌ A အမှတ်သည် နှစ်နိုင်ငံကုန်သွယ်မှု မပြုမီအချိန်၌ ရှိနေသည့်နိုင်ငံနှစ်ခုလုံးအတွက် အသင့်တော်ဆုံး အနေအထားကို ပြသည့် နေရာ ဖြစ်သည်။ အဓိပ္ပာယ်က တခြားနိုင်ငံနှင့်သာ ကုန်သွယ်မှု မပြုဘူး ဆိုက၊ နှစ်နိုင်ငံလုံးပင် ၎င်းအမှတ်နေရာ၌ ရှိသည့် ဘီယာ – ပရက်ဇယ် အချိုးအစား အသီးသီးတွင် အဆင်အပြေဆုံး ရှိကြမည် ဟူသောသဘော ဖြစ်သည်။

ထို့နောက် အက်(ချ)ဝ့ါသ်က ဘယ်လဂျီယမ်နှင့် ဂျာမနီ တို့သည် အဆိုပါ A အမှတ်မှနေ၍ ယခုပုံ၌ စတုဂံကွက်အတွင်း မျဉ်းကွေးနှစ်ခုတို့ တစ်ခုကိုတစ်ခု ဖြတ်ကြရာမှ ဖြစ်ပေါ်သည့် အိလစ်ပုံ (သို့မဟုတ်) မျက်လုံးပုံ အတွင်း မည်သည့်နေရာသို့ဖြစ်စေ ရွှေ့ပြောင်းကြပါက နှစ်နိုင်ငံလုံးသည် မိမိတို့ဘာသာ သီးခြားစီနေကြသည်ကထက် ပို၍ကောင်းသော အနေ အထား၊ ပို၍မြင့်မားသော ကျေနပ်မှုကို ရရှိနိုင်မည် ဟုဆိုလိုက်သည်။ ဥပမာ – ၎င်းမျဉ်းကွေးနှစ်ခုသည် A ၌ မဖြတ်ဘဲ B အမှတ် (သို့မဟုတ်) C အမှတ်၌ ဖြတ်ကြမည် ဆိုပါစို့။ ဘယ်လဂျီယမ်၏ မျဉ်းကွေးရော ဂျာမနီ၏ မျဉ်းကွေးပါ မြင့်တက်သွားကြသည့် သဘောဖြစ်ကြောင်း တွေ့ ရလိမ့်မည်။ ထိုအမှတ်များသို့ ရောက်ရှိရန်အတွက် နှစ်နိုင်ငံ ကုန်သွယ်မှုပြု လိုသည်။ ဘယ်လဂျီယမ်သည် သူ၏မျဉ်းကွေး မြင့်တက်ရန်အတွက် သူ ပိုလျှံနေသော ဘီယာကို ဂျာမနီမှ ပရက်ဇယ်နှင့် ရောင်းဝယ်ဖလှယ် ရလိမ့်မည်။ ဂျာမနီကလည်း သူ့မှာ ပေါများနေသည့် ပရက်ဇယ်ကို ထုတ်ရောင်းကာ ဘယ်လဂျီယမ်မှ ဘီယာများ ပြန်ဝယ်ရလိမ့်မည်။

ဤသည်က နှစ်ဦးနှစ်ဖက် အကျိုးထွက်သည့် အနေအထား



ယင်းနှင့် ဆန့်ကျင်ဘက် အနေအထား တစ်ရပ်ကိုလည်း အက်(ချ)ဝ့ါသ်က ပြသည်။ ပုံ (၂) ၌ D နှင့် E အမှတ်နှစ်ခုကြား ဆက်သွယ်ထားသည့် မျဉ်းတစ်ကြောင်းကို တွေ့ရလိမ့်မည်။ နှစ်နိုင်ငံ မထူးမျဉ်းကွေးတို့၏ ဆုံမှတ်သည် ၎င်း ED မျဉ်းပြတ်တစ်လျှောက်တွင် ရွေ့လျားတည်ရှိနေမည် ဆိုပါစို့။ ယင်းနှစ်နိုင်ငံ အကြားတွင် ကုန်သွယ်မှုအရ အသာ အနာများ ဖြစ်ပေါ်နေလိမ့်မည် ဟူသောအချက်ကို စဉ်းစားမိနိုင်ပါသည်။ ဘယ်လဂျီယမ် အခြေအနေကောင်းနေလျှင် ဂျာမနီမှာ ထိခိုက်၍၊ ဂျာမနီ အခြေအနေကောင်းနေလျှင် ဘယ်လဂျီယမ်မှာ ထိခိုက်နေမည့်သဘော ဖြစ်သည်။ မထူးမျဉ်းကွေးဖြင့် စဉ်းစားကြည့်ပါက ဂျာမနီ၏ မထူးမျဉ်းကွေး မြင့်တက်နေချိန်၌ ဘယ်လဂျီယမ်၏ မျဉ်းကွေးက နိမ့်ကျနေပြီး၊ ဘယ်လဂျီယမ်၏မျဉ်းကွေး တက်နေချိန်၌ ဂျာမနီက နိမ့်ကျနေမည့်သဘော ဖြစ်သည်။ တစ်ဦးနာမှ တစ်ဦးသာရမည့် အနေအထားမျိုးပင်။

အက်(ချ)ဝ့ါသ်က ဂျာမနီနှင့် ဘယ်လဂျီယမ် တို့၏ မထူးမျဉ်းကွေး များ တစ်ခုနှင့်တစ်ခု ထိတွေ့ရာ (tangent) နေရာအမှတ်များ (ပုံ – ၂ တွင် D နှင့် E ကြား အမှတ်များ) အား ဆက်သွယ်ထားသောမျဉ်းကို ပဋိညာဉ်မျဉ်း (contract curve) ဟုသတ်မှတ်ခေါ်ဝေါ်သည်။ ထိုအမှတ် များသည် နိုင်ငံနှစ်ခုကြား အကောင်းဆုံး ရောင်းဝယ်ဖလှယ်မှု ပြုလုပ်နိုင် မည့် အနေအထားများကို ဖော်ပြသည့် အမှတ်များ ဖြစ်သည်။ သို့သော် တခြားတစ်ဖက်မှ (သို့မဟုတ်) လက်တွေ့အနေအထားဘက်မှ ပြောရလျှင်မူ ပဋိညာဉ်မျဉ်းသည်ပင် နှစ်နိုင်ငံအကြား ကုန်သွယ်မှုအရ ထိခိုက်သာနာမှု များ ဖြစ်ပွားရာ ပဋိပက္ခမျဉ်း (conflict curve) ဖြစ်သည်ဟုလည်း ဆိုနိုင်ပါသည်။ အကြောင်းမူ နိုင်ငံနှစ်ခုလုံးပင် ၎င်းမျဉ်းပေါ်တွင် ရှိနေသည့် အချိန်၌ နဂိုမူလထက် အနည်းနှင့်အများဆိုသလို အခြေအနေ ပို၍ ကောင်း လာမည် ဖြစ်သော်လည်း၊ တစ်ချိန်တည်းမှာပင် သူသာသည် ကိုယ်နာသည် ဆိုသော အနေအထားမျိုးလည်း ရှိနေနိုင်သောကြောင့် ဖြစ်သည်။ ဥပမာ – အကယ်၍ နှစ်နိုင်ငံမျဉ်းကွေးများသည် E အမှတ်တွင် ထိတွေ့ကြသည်ဆိုက ဂျာမနီ၏ မျဉ်းကွေးသည် အနောက်တောင်ဘက်သို့ များနိုင်သမျှ အများဆုံး

ရွေ့လျား (တိုးတက်) ခဲ့သော သဘောဖြစ်ရာ၊ ကုန်သွယ်မှုမှ ဖြစ်ပေါ်သ
အကျိုးအမြတ် အားလုံးကို သူတစ်ဦးတည်းပင် ရရှိသွားပြီး၊ ဘယ်လဂျီ
မှာမူ နဂိုထက် ယုတ်လျော့မသွားသော်လည်း ကုန်သွယ်မှုမှ အကျိုးအမြ
လုံးဝမရဘဲ ရှိလိမ့်မည်။ အလားတူ၊ နှစ်နိုင်ငံ မျဉ်းကွေးတို့သည် D အမှ
တွင် ဆုံကြမည်ဆိုက၊ ဘယ်လဂျီယမ်၏ မျဉ်းကွေးသည် ၎င်း D
နေရာအထိ တက်သွားရမည် ဖြစ်ရာ၊ ကုန်သွယ်မှု အကျိုးအမြတ် အား
ကိုလည်း သူ ပင်ရရှိမည် ဖြစ်သည်။

အထက်က အနေအထားများကို သုံးသပ်ကာ၊ အက်(ချ)ဝါ့သ်
ကုန်သွယ်မှု အကျိုးအမြတ်ကို နှစ်ဦးနှစ်ဖက်တို့ မည်သို့ခွဲဝေရရှိကြသန
ဟူသောအချက်ကို ဆက်လက် စူးစမ်းလေ့လာသည်။ ထိုအခါ နိုင်ငံနှ
အကြား၌ ကုန်သွယ်ရေးဆိုင်ရာ မျှခြေအမှတ် (equilibrium po
တစ်ခု မှုသေသတ်မှတ်ရန် မဖြစ်နိုင်ကြောင်း သူ တွေ့ရှိရသည်။ သူ
၎င်းအမှတ်သည် ပဋိညာဉ်မျဉ်းပေါ်ရှိ တစ်နေရာရာတွင်တော့ ရှိရ
ဖြစ်ပြီး၊ ဘယ်နေရာ ဟူသည်ကမူ ဘယ်လဂျီယမ်နှင့် ဂျာမနီတို့ မပြေ
ညှိနှိုင်းကြ ဈေးဆစ်ကြ သည့်အပေါ်တွင် မူတည်ကာ အမြဲပြောင်းလဲ
လိမ့်မည်။ တစ်ဖန် ထိုသို့ အပြန်အလှန် ဈေးဆစ်ညှိနှိုင်းကြရာ၌ စော
ကုန်သွယ်ရေး အသာစီးရနေသော တိုင်းပြည်၊ တစ်နည်းဆိုရသော် သူ
ပစ္စည်းကို တစ်ဖက်လူ လိုအပ်နေပြီး မိမိကမူ တစ်ဖက်လူ၏ ပစ္စည်း
မဝယ်လျှင်လည်း ဖြစ်သည့် တိုင်းပြည်က အပေါ်စီးရသည်၊ တစ်ပန်း
သည်ဟု သူကဆိုသည်။

ထို့ပြင် အက်(ချ)ဝါ့သ်က၊ ရောင်းဝယ်ဖလှယ်မှုမှ ထွက်ပေါ်
နောက်ဆုံးရလဒ်ကို တိတိကျကျ ခန့်မှန်းချင့်တွက်ရန် ခက်ခဲရသ
အကြောင်းမှာ ဟိုဘက်သည်ဘက် ရောင်းဝယ်သူ အရေအတွက်
သက်ဆိုင်ကြောင်း၊ အကယ်၍ ပရက်ဇယ် ထုတ်လုပ်ရောင်းချ
တိုင်းပြည်တွေ များနေပြီး၊ ဘီယာ ထုတ်လုပ်ရောင်းချသော တိုင်းပြည်
နည်းပါးနေမည်ဆိုလျှင် ဂျာမနီသည် ဘယ်လဂျီယမ်နှင့် ကုန်သွယ်
အခြေအနေ ကောင်းလိမ့်မည် မဟုတ်ကြောင်း၊ အကြောင်းက သူ ရော



ည့် ပရက်ဇယ်ကိုပင် အခြားတိုင်းပြည်များက အပြိုင်အဆိုင် ဈေးလျှော
းကာ ဘယ်လဂျီယမ်ရှိ ဘီယာနှင့် ရောင်းဝယ်ဖလှယ်မှု ပြုလာနိုင်ကြ
သာကြောင့် ဖြစ်ကြောင်း၊ အလားတူပင် ဘီယာ ထုတ်လုပ်ရောင်းချသူတွေ
းပြီး၊ ပရက်ဇယ် ထုတ်လုပ်သော တိုင်းပြည် နည်းပါးနေမည်ဆိုကလည်း
မနီ ပရက်ဇယ်တွေ ဈေးကောင်းရကာ၊ သူ လိုချင်သော ဘီယာကိုမူ
အတွက် ကွက်ရွေအကိုက်ဆုံး တိုင်းပြည်မှ ဂျာမနီတို့ ခေါင်းခေါက်
ယ်ယူကြမည် ဖြစ်ကြောင်း သုံးသပ်ပြသည်။

အထက်က အချက်များကို စဉ်းစားဆင်ခြင်ကာ အက်(ချ)ဝါ့သ်က
ယာရော ပရက်ဇယ်ကိုပါ တိုင်းပြည်အများအပြားတို့ လုံးဝ လွတ်လပ်စွာ
ဉ်ပြိုင် ထုတ်လုပ် ရောင်းဝယ် ဖောက်ကား နေကြသည့် အနေအထားမျိုး
င်သာ ကုန်သွယ်ဖလှယ်မှုမှ ထွက်ပေါ်လာမည့် နောက်ဆုံးရလဒ်ကို
မှန်း ချင့်တွက် နိုင်စရာ ရှိသည်၊ ထိုအနေအထားတွင်မူ မည်သူမျှ
းကိုင်နိုင် ဈေးဆစ်နိုင်စွမ်း မရှိ၊ အားလုံးပင် ပေါက်ဈေးအတိုင်း ဝယ်ကြ
င်းကြရလိမ့်မည် ဟုသုံးသပ်ပြောဆိုခဲ့သည်။

❖

စီးပွားရေး သဘောတရားများအပြင် စာရင်းအင်းစိစစ်မှု ပညာရပ်
atistical analysis) နှင့် စပ်လျဉ်း၍လည်း၊ စာရင်းဇယားများမှ
ာက်ချက်များ ထုတ်ယူပုံနည်းလမ်းတို့ကို ရှာဖွေခြင်း၊ ဆက်စပ်မှု
ြာက်ဖော်ကိန်း (correlation coefficient) ဟူသည်ကို ဖော်ထုတ်ခြင်း
း အပါအဝင် သုတေသနပြုသည့်ဆည်းချက် အများအပြား ရှိခဲ့ပါသည်။ သုညမှ
ခ်အထိ တည်ရှိနိုင်သည့် ဆက်စပ်မှုမြှောက်ဖော်ကိန်း ဟူသည်က
ွားရေးကိန်းရှင် (economic variable) နှစ်ခုအကြား ဆက်စပ်နေမှု
တိုင်းအဆကို ဖော်ပြသောအရာ ဖြစ်သည်။ ဥပမာ – ဆက်စပ်မှု
ြာက်ဖော်ကိန်းသုည ရှိသည်ဆိုက ယင်းကိန်းရှင်နှစ်ခုအကြား ဆက်စပ်မှု
းဝမရှိ။ တစ်ခုမည်မျှ ပြောင်းလဲသော်လည်း ကျန်တစ်ခုက လုံးဝ

ပြောင်းလဲမည် မဟုတ်ဟူသော အနေအထားဖြစ်ပြီး အကယ်၍ ဆက်စပ် မြောက်ဖော်ကိန်း 'တစ်' ဖြစ်သည်ဟုဆိုလျှင်မူ ၎င်းနှစ်ခုသည် တညီတည တစ်ဆက်တစ်စပ်တည်း ပြောင်းလဲနေသော အရာများ ဖြစ်သည်။ တစ် ပြောင်းလဲပြီဆိုက နောက်တစ်ခု ပြောင်းလဲရန် ရာနှုန်းပြည့်သေချာသည် ဟူသောသဘော ဖြစ်သည်။

အက်(ချ)ဝဲ့သ်၏ သင်္ချာစာရင်းအင်းပညာ၌ ရှားရှားပါးပါး အလွ လက်တွေ့ကျသော အပိုင်းများလည်း ရှိခဲ့သည်။ ဥပမာအားဖြင့် ဘဏ လုပ်ငန်းသမားများအတွက် တန်ဖိုးရှိသော စာတမ်းနှစ်စောင် သူ ရေးသာ ခဲ့ဖူးသည်။ ၎င်းစာတမ်းများ၌ သူက ဘဏ်လုပ်ငန်းသမားအနေနှင့် မိမိ ဘဏ်မှ နေ့စဉ် ငွေထုတ်ယူခဲ့ကြသည့် စာရင်းဇယား ရာဇဝင်များကို ခွဲခြ စိစစ်ကာ ဘဏ်၌ ငွေမည်ရွေ့မည်မျှ သီးသန့်ထားရှိလျှင် နေ့စဉ် ထုတ်ပေ ရန် လုံလောက်ကြောင်း သူ တွက်ချက်ပြသခဲ့သည်။ ဘဏ်လုပ်ငန်းရှင် အနေနှင့် သူ၏ တွက်ချက်နည်းများကို အမှီပြုကာ ငွေထုတ်လိုသူများအ အဆင်ပြေစွာ ထုတ်ပေးနိုင်ရန် အရန်သင့်ထားရမည့် ငွေပမာဏနှ အပြင်သို့ အတိုးဖြင့် ထုတ်ချေးနိုင်သည့် ငွေပမာတို့ကို စနစ်တကျ ခန့် ထားရှိနိုင်ကြသည်။

ယင်းသို့ လက်တွေ့အသုံးပြုရသည့် အပိုင်း တစ်ခုတလေ ရှိခဲ့သေ မှန်သော်လည်း အက်(ချ)ဝဲ့သ် အဓိကစိတ်ဝင်စားခဲ့သည်က စီးပွားရေးဆိုင် အခြေခံသဘောတရားများကို သီအိုရမ် (theorem) များ အသွင်ဖြ အခိုင်အမာ ပြသနိုင်ရေး ဖြစ်သည်။ စီးပွားရေးပညာရပ်နှင့် စပ်လျဉ်းသ သူ၏ ထိုသဘောထားအမြင်သည် အခြားပညာရှင် အများအပြားအ လွှမ်းမိုးမှု ရှိခဲ့သည်။

အထက်က ဖော်ပြခဲ့သည်များအပြင် စီးပွားရေး စိစစ်မှုဆိုင် အရေးပါသော နည်းနာများစွာပင် သူ တီထွင် ဖော်ထုတ်ခဲ့ပါသေးသည် ထိုအကြောင်းများကြောင့်လည်း သူ့အား ၂၀ ရာစု ခေတ်ဦးကာလ အရေးပါဆုံး စီးပွားရေးပညာရှင်များထဲတွင် တစ်ဦးအဖြစ် အသိအမှ ပြုကြရခြင်း ဖြစ်ပါသည်။

## ဂျွန်ဘိတ်(စ)ကလတ်(ခ)

(၁၈၄၇ - ၁၉၃၈)



၁၉ ရာစုနှောင်းပိုင်းတွင် အစွန်းထွက်ကျေနပ်မှု (marginal utility)၊ အစွန်းထွက်ထုတ်လုပ်မှု (marginal productivity) စသည့် သဘောများကို စီးပွားရေးပညာရှင် အတော်များများပင် မိမိတို့ဘာသာ သီးခြားစီ တွေ့ရှိသိမြင်ခဲ့ကြသည်။ ထိုသို့ တွေ့မြင်သူများထဲတွင် အမေ ရိကန် စီးပွားရေးတွေးခေါ်ရှင် ဂျွန်ဘိတ်(စ)ကလတ်(ခ) (John Bates Clark) လည်း တစ်ဦးအပါအဝင် ဖြစ်သည်။ ကလတ်(ခ)က အစွန်းထွက် ထုတ်လုပ်မှု ဟူသည်မှ ဆင့်ပွားကာ ဝင်ငွေခွဲဝေမှု (income distribution) ဆိုင်ရာ သီအိုရီတစ်ရပ်ပါ ဆက်လက် ဖော်ထုတ်ခဲ့သည်။ ထို့နောက် ထိုသီအိုရီကို အသုံးပြုကာ ထိုစဉ်က မိမိတို့ လူ့အဖွဲ့အစည်း၌ တည်ရှိနေ သည့် ဝင်ငွေခွဲဝေမှု အနေအထားသည် အသာအနာ မရှိကြောင်း၊ သင့်တော် မျှတကြောင်း ထောက်ခံပြောဆိုခဲ့သည်။ ထို့ပြင် ကြီးမားသော လက်ဝါး ကြီးအုပ် လုပ်ငန်းကြီးများနှင့် အင်အားကြီးသော အလုပ်သမားသမဂ္ဂများ ကြောင့် အမေရိကန် စီးပွားရေးအပေါ် မည်သို့ သက်ရောက်နိုင်ပုံအကြောင်း များကိုလည်း သူ စူးစမ်းလေ့လာခဲ့ပြီး ယင်းကဲ့သို့သော စီးပွားရေးအင်အား ကြီးများကို ထိန်းသိမ်းကန့်သတ်ရန် လိုအပ်ကြောင်း တင်ပြခဲ့သည်။

❖

ကလတ်(ခ)ကို အမေရိကန်ပြည်ထောင်စု၊ ရုဒ်အိုင်းလင်း (Rhode Island) ပြည်နယ်၏ မြို့တော် ပရိုဗိုက်ဒင့်(စ) (Providence) ၌ ၁၈၄၇ ခုနှစ်က မွေးသည်။ သူ့ဖခင်သည် ပရိုဗိုက်ဒင့်(စ)တွင် စတိုးဆိုင်တစ်ဆိုင် ဖွင့်လှစ်ရောင်းချနေရာက ကျန်းမာရေး ချို့ယွင်းလာသဖြင့် မင်နီဆိုးတား ပြည်နယ်သို့ ပြောင်းရွှေ့ခဲ့သည်။

ကလတ်(ခ)သည် ဘရောင်းတက္ကသိုလ်နှင့် အင်(မ)ဟာ့စ်ကောလိပ် တို့တွင် ပညာသင်ကြားခွင့်ရပြီး ဒဿနိကဗေဒနှင့် ကျင့်ဝတ်ဗေဒ (Ethics) ဘာသာရပ်များကို အထူး စိတ်ဝင်စားခဲ့သည်။ တက္ကသိုလ်မှ ဘွဲ့ရပြီး နောက် ဥရောပသို့သွားကာ ဆွစ်ဇာလန်နိုင်ငံ ဇူးရစ်တက္ကသိုလ်၊ ဂျာမနီနိုင်ငံ ဟိုင်ဒယ်(လ)ဘာ့ဂ်တက္ကသိုလ် တို့တွင် သုံးနှစ်တာမျှ ပညာ ဆက်လက် ဆည်းပူးသည်။ ထိုစဉ်က အမေရိကတွင် ဘွဲ့လွန်သင်တန်း များများစားစား မရှိသေးရာ ပညာကို အဆင့်မြင့်မြင့် လေ့လာလိုက ဥရောပသို့ သွားကြရ လေ့ရှိသည်။ အမေရိကသို့ ပြန်ရောက်သည့်အခါ ကားလ်တန်ကောလိပ် (Carleton College) တွင် ဆရာ အလုပ် ရသည်။ ကားလ်တန်တွင် ကလတ်(ခ) သင်ကြားပေးရသူများအနက် နောင်အခါ ထင်ရှားသော စီးပွားရေးတွေးခေါ်ရှင်တစ်ဦး ဖြစ်လာမည့် သော်စတိုင်းဗက်ဘလင် (Thorstein Veblen) လည်း ပါဝင်သည်။ ကားလ်တန်နောက်တွင် စမစ် ကောလိပ်၊ အင်(မ)ဟာ့စ်ကောလိပ်နှင့် ဂျွန်း(စ)ဟော့ပ်ကင်း(စ)တက္ကသိုလ် တို့သို့ ရောက်ရှိပြီး နောက်ဆုံး၌ ကိုလံဘီယာတက္ကသိုလ်တွင် အခြေချ ဖြစ်သည်။ ၁၈၉၈–၉၉ ပညာသင်နှစ်အတွင်း ယေးလ်တက္ကသိုလ်၌ စီးပွားရေးပညာရှင် အာဗင်းဖစ်ရှာ (Irving Fisher) နေရာတွင် ခေတ္တ အစားဝင်ပေးခဲ့သည်ကလွဲလျှင် ကိုလံဘီယာတက္ကသိုလ်၌ပင် ၁၈၉၅ မှ ၁၉၂၃ အထိ နှစ်အစိတ်ကျော်မျှ ကြာအောင် စီးပွားရေးပညာကို သူ သင်ကြားပို့ချပေးခဲ့သည်။

၁၈၈၀ ပြည့်နှစ်တွင် အမေရိကန် စီးပွားရေးပညာအသင်း (American Economic Association) ကို တူထောင်ကြသည့်အခါ ကလတ်(ခ) လည်း ပါဝင်ခဲ့သည်။ နောက်သုံးနှစ်အကြာ၌မူ သူက အသင်း၏ ဥက္ကဋ္ဌ



ဖြစ်လာသည်။ ယခုအခါ၌မူ ၎င်းအသင်းမှာ ကမ္ဘာတွင် ဩဇာတိက္ကမ အကြီးမားဆုံး စီးပွားရေးပညာရှင် အသင်းကြီးတစ်ခု ဖြစ်နေပေပြီ။

ကိုလံဘီယာတွင် သင်ကြားပို့ချနေစဉ် ကာလအတွင်း ကလတ်(ခ) က ငြိမ်းချမ်းရေးလှုပ်ရှားမှုများတွင် တက်ကြွစွာ ပါဝင်လာခဲ့သည်။ အချိန်က ပထမကမ္ဘာစစ်ကြီး ဝန်းကျင်ကာလ ဖြစ်သည်။ စစ်ဘေးစစ်ရန်များ ရှိနေလျှင် လူတို့၏ စီးပွားရေးဘဝ တိုးတက်အောင် ဆောင်ရွက်သည့် လုပ်ငန်းများ အကြီးအကျယ် ထိခိုက်သဖြင့် ယင်းကို တားဆီးကာကွယ်မည့် အဖွဲ့အစည်းများနှင့် သူ ပူးပေါင်းခဲ့သည်။ League to Enforce Peace ဟုခေါ်သည့် ငြိမ်းချမ်းရေးအဖွဲ့ချုပ်တွင် သူ ပါဝင်ဆောင်ရွက်သည်။ နိုင်ငံပေါင်းချုပ်အသင်းကြီး (League of Nations) ထူထောင်သည့် အခါလည်း သူ တက်ကြွစွာ အားပေးထောက်ခံခဲ့ပြီး နိုင်ငံတကာ စစ်ရေး ခရာနှင့် စစ်ဝါဒအခြေအနေများကို သုတေသနပြုသည့် နိုင်ငံတကာ ငြိမ်းချမ်းရေးဆိုင်ရာ ကာနက်ဂီ (Carnegie) ရန်ပုံငွေအဖွဲ့တွင်လည်း စီးပွားရေးနှင့် သမိုင်းရေးရာဌာနခွဲ၏ ညွှန်ကြားရေးမှူးအဖြစ် ဆောင်ရွက် ခဲ့သည်။

❖

စီးပွားရေးပညာရပ်အတွက် ကလတ်(ခ)၏ အရေးပါဆုံး ဖြည့် ဆည်းပေးချက်တစ်ရပ်က ဝင်ငွေခွဲဝေမှုဆိုင်ရာ အစွန်းထွက်ထုတ်လုပ်မှု သီအိုရီ (Marginal Productivity Theory of Distribution) ဖြစ် သည်။ ၎င်းသီအိုရီမှာ လူအသီးသီးတို့၏ ဝင်ငွေနှင့် စပ်လျဉ်း၍ လည်း ကောင်း၊ စီးပွားရေးတစ်ရပ်အတွင်း ဝင်ငွေခွဲဝေရရှိကြပုံများနှင့် ပတ်သက်၍ လည်းကောင်း သက်ရောက်လွှမ်းမိုးသော အခြေခံအချက်များကို ရှင်းလင်း တင်ပြရန်အတွက် သူ ဖော်ထုတ်ခဲ့ခြင်း ဖြစ်သည် ဟုဆိုနိုင်သည်။

သို့သော် သည်သီအိုရီကို သူ စဉ်းစားကြံဆမိအောင် စေ့ဆော် ပေးသည့် အကြောင်းရင်းများနှင့် စပ်လျဉ်း၍မူ ကွဲလွဲမှုများ ရှိခဲ့သည်။

ဥပမာ – ကလတ်(ခ)ကိုယ်တိုင်က ၎င်းသီအိုရီကို အခြားစီးပွားရေးပညာ တစ်ဦးဖြစ်သူ ဟင်နရီဂျော့ချ် (Henry George) ၏ Progress a Poverty စာတမ်း (၁၈၇၉ ခုနှစ်) ပါ ဝင်ငွေခွဲဝေမှုဆိုင်ရာ အယူအဆ များယွင်းကြောင်း သက်သေပြရန်အတွက် မိမိ ဖော်ထုတ်တင်ပြခဲ့ ဖြစ်ကြောင်း ၁၈၉၉ ခုနှစ် ပုံနှိပ်သည့် သူ၏ The Distribution Wealth စာအုပ်၌ ရေးသားခဲ့ဖူးသည်။

ဂျော့ချ်က ၎င်း၏စာတမ်းတွင် ငှားခ (Rent) ဆိုသည်မှာ မြေ ကို မြေပိုင်ရှင်တို့ လက်ဝါးကြီးအုပ် ပိုင်ဆိုင်ထားခြင်းကြောင့် ရှိလာရသ အရာဖြစ်ကြောင်း၊ မြေဟူသည်က အကန့်အသတ်နှင့်သာ ရှိနေသ ပစ္စည်းမျိုးဖြစ်ရာ ၎င်းတွင် လုပ်ကိုင်ခွင့်ရရန်အတွက် အခကြေးငွေပေး သူများကလည်း အမြဲရှိနေကြောင်း၊ စင်စစ် မြေငှားခဟူသည် လု အားထုတ်မှု တစ်စုံတစ်ရာ မပါသော အရာတစ်ခုအတွက် ပေးနေရခြင်း ဖြစ်ရာ လူမှုကျင့်ဝတ်ရှုထောင့်မှ ကြည့်လျှင် တရားမျှတမှု မရှိကြော ထို့ကြောင့် သည်အနေအထားတွင် အုပ်စိုးသူတို့အနေနှင့် အခြားတည်ရှိ အခွန်အတုတ်များ အားလုံးကို ရုပ်စဲပြီး မြေယာတစ်ခုတည်းကိုသာ ၎င်း တန်ဖိုးပေါ်မူတည်၍ အခွန်ကောက်ခံသင့်ကြောင်း စသဖြင့် တင်ပြထား ထိုအယူအဆကို ကလတ်(ခ) လက်မခံခဲ့ပေ။

သို့သော် ကလတ်(ခ)၏ သားဖြစ်သူ ဂျေ၊ အမ်၊ ကလတ်(ခ) သူ့ဖခင်၏ စီးပွားရေးအတွေးအမြင်များအကြောင်း ရေးသည့် J. M. Cla on J. B. Clark အမည်ရှိ စာတမ်းနှင့် သုတေသီ ဂျွန်ဟင်နရီ (Jo Henry) ရေးသည့် ဂျေဘီကလတ်(ခ) အတ္ထုပ္ပတ္တိစာအုပ် တို့တွင် ကလတ်(ခ)၏ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီသည် ကားလ်မာ့က်(စ) အယူအဆများကို တုံ့ပြန်ချေပရာမှ ထွက်ပေါ်လာခြင်း ဖြစ်ကြောင်း အခိုင် အမာ ဆိုထားပြန်သည်။ မာ့က်(စ)က အလုပ်ရှင်များသည် လုပ်သားတို့ ဖန်တီးမှုကြောင့် ထွက်ပေါ်လာသည့် တန်ဖိုး၏ တစ်စိတ်တစ်ဒေသဖြစ်သ အပိုထွက် (ဝါ) အစွန်းထွက်တန်ဖိုး (surplus value) ကို လုပ်သားတို့အ မပေးဘဲ သိမ်းယူထားကြောင်း၊ ဤသည်မှာ ခေါင်းပုံဖြတ်ခြင်းပင်



ဖြစ်ကြောင်း ပြောဆိုခဲ့ရာ ယင်းအချက်ကိုလည်း ကလတ်(ခ)က လည်းမခံ ပေ။ ကလတ်(ခ)၏ စာအုပ်တွင် မာ့က်(စ)အား ရှင်းလင်းချေပသည့် ရေးသားချက် အများအပြား တွေ့ရှိရသည်ဖြစ်ရာ ယင်းအထောက်အထား ရမှု သားဖြစ်သူနှင့် အတ္ထုပ္ပတ္တိဆရာ ဟင်နရီ တို့၏ အယူအဆလည်း န်သလို ဖြစ်နေသည်။

ထို့ကြောင့် ပြန်ချုပ်ကြည့်လျှင် ကလတ်(ခ)သည် အစွန်းထွက် ထုတ်လုပ်မှုသီအိုရီကို စဉ်းစားစဉ်က သူ့ခေါင်းထဲတွင် ဂျော့ချ်ရော၊ မာ့က်(စ)ပါ ရှိနေခဲ့လိမ့်မည် ဟုယူဆနိုင်သည်။ အကြောင်းမူ သူ့စာထဲတွင် (ဂျော့ချ်နှင့် ဆန့်ကျင်လျက်) မြေငှားခဟူသည် မြေရှင်က လုပ်အားခ မပါဘဲ အခြောက်တိုက်ရခြင်းမဟုတ်၊ ရသင့်၍ရသော အရာသာ ဖြစ်သည် ဟူသောအယူအဆကို ဖော်ပြထားသကဲ့သို့ (ကားလ်မာ့က်(စ)နှင့် ဆန့်ကျင် လျက်) အလုပ်သမားတို့သည် ၎င်းတို့လုပ်အားမှ ထွက်ပေါ်လာသော အကျိုးအမြတ်နှင့် ညီမျှသော တန်ဖိုးကို ရရှိနေကြသည်၊ ထို့ကြောင့် ၎င်းတို့ ခေါင်းပုံဖြတ်ခြင်း ခံနေရသည် ဆိုသောအချက်မှာ မမှန်ကန်ဟူသော အယူအဆကိုလည်း ဖော်ပြထားသောကြောင့် ဖြစ်သည်။

ကလတ်(ခ)အား တိုက်တွန်းစေ့ဆော်ခဲ့သည် ဟုယူဆနိုင်သည့် အခြားအချက်တစ်ခုမှာ သူ့ခေတ်ကာလ စီးပွားရေးလုပ်ငန်းလောက၏ ကတိ အနေအထားများ ဖြစ်သည်။ သူ့စာအုပ်စာတမ်းများ အဓိက ရေးသားသည့် ၁၉ ရာစုနှောင်းပိုင်းကာလသည် အမေရိကန်ပြည်တွင် robber baron ဟုခေါ်ကြသည့် လက်ရဲဇက်ရဲ စီးပွားရေးသမားကြီးများ အောင်မြင်ကြီးထွားနေသည့်ကာလ ဖြစ်သည်။ အလုပ်သမားတို့အား အညှာတာကင်းစွာ ခေါင်းပုံဖြတ်ခြင်းဖြင့် ကြီးပွားချမ်းသာကြသည့် ၎င်း အရင်းရှင် သူဌေးကြီးများအား ပဒေသရာဇ်ခေတ် ဥရောပရှိ တချို့နေရာများ တွင် ရှိခဲ့ဖူးသည့် သူကောင်းမျိုး လူဆိုးဓားပြအချို့နှင့် ထပ်တူပြုကာ ယင်းကဲ့သို့ ခေါ်ဝေါ်ကြခြင်း ဖြစ်သည်။

အရင်းရှင်ခေါင်းပုံဖြတ်သမား robber baron များ အင်ကြီး အားကြီး ဖြင့် တည်ရှိလာသည့်နည်းတူ ယင်းတို့ကို ယှဉ်ပြိုင်တိုက်ခိုက်မည့်

Knights of Labor, American Federation of Labor စသည့် အလုပ်သမားသမဂ္ဂများ၊ သမဂ္ဂပေါင်းချုပ်အဖွဲ့များလည်း တစ်ဖက်က ပေါ်ပေါက်လာကာ အရင်းရှင်စနစ်ကို အပြင်းအထန် ထိုးနှက်တိုက်ခိုက်လာသည့် သည့်အနေအထားတွင် အရင်းရှင်စီးပွားရေးစနစ်ကို ကာကွယ်လိုသော ဆန္ဒ၊ အရင်းရှင်တို့ရရှိကြသည့် အကျိုးအမြတ်သည်လည်း ရသင့်ရထိုက်၍ ရခြင်းသာဖြစ်ကြောင်း ရှင်းလင်းတင်ပြလိုသော ဆန္ဒများဖြင့် အစွန်းထွက် ထုတ်လုပ်မှုသီအိုရီကို သူ ဖော်ထုတ်လာခြင်း ဖြစ်သည် ဟူ၍လည်း ယူဆနိုင်ပါသည်။

မည်သည့်စေ့ဆော်ချက်များကို အကြောင်းခံ၍ စဉ်းစားမိခဲ့သည် ဖြစ်စေ၊ ၎င်းသီအိုရီကို ကလတ်(ခ) အသုံးပြုသည်က ဝင်ငွေခွဲဝေမှုကိစ္စကို စဉ်းစားရန်အတွက် ဖြစ်သည်။ ကလတ်(ခ)က လက်ရှိဝင်ငွေခွဲဝေမှု အနေအထားသည် မျှတမှုရှိကြောင်း၊ ယင်းသို့ မျှတမှုရှိနေရန်အတွက် အစိုးရ လိုအပ်ချက်မှာ ယှဉ်ပြိုင်လုပ်ကိုင်နိုင်ခြင်း ရှိမရှိ ဟူသောအချက်သာ ဖြစ်ကြောင်း ပြောဆိုခဲ့သည်။ သည်သဘောကို သူ၏ ဓနဥစ္စာခွဲဝေမှု (The Distribution of Wealth) အမည်ရှိ စာအုပ်နိဒါန်းမှာပင်၊ ထိုစာအုပ် ရေးသားရသည့် ရည်ရွယ်ချက်မှာ လူ့အဖွဲ့အစည်းတစ်ခုအတွင်း ဝင်ငွေခွဲဝေ ရရှိမှုကို သဘာဝနိယာမ (Natural Law) တစ်ရပ်က ထိန်းချုပ်ပေးလျက် ရှိကြောင်း၊ ယင်းနိယာမသည်သာ အထစ်အငေ့ါမရှိ လည်ပတ်သက်ရောက် နေမည်ဆိုက ထုတ်လုပ်မှုဖြစ်စဉ်တွင် ပါဝင်သူအားလုံးတို့သည် မိမိ ဖန်တီး ထုတ်လုပ်သည်နှင့် ညီမျှသော ဓနဥစ္စာကို ရကြမည် ဖြစ်ကြောင်း၊ လုပ်သား တို့သည် လူအသီးသီးတို့အကြား အမျိုးမျိုးအဖုံဖုံ ဈေးဆစ်ကြ တောင်းဆို ကြခြင်းဖြင့် သတ်မှတ်ဖြစ်ပေါ်ကြတာ မှန်သော်လည်း ယင်းဆက်ဆံ ညှိနှိုင်းမှုများမှ ထွက်ပေါ်လာသော လစာနှုန်းထားတို့သည် သက်ဆိုင်ရာ လုပ်ငန်းစု၏ ထုတ်လုပ်မှုများအနက် လုပ်အားကဏ္ဍတွင် အရင်းခံသည့် အစိတ်အပိုင်း၏ ပမာဏနှင့် နီးစပ်တူမျှသော သဘောရှိကြောင်း စီးပွားရေး ယန္တရားတစ်ရပ်အနေနှင့် ပိတ်ဆို့တားဆီးမှုများသာ မရှိပါက လူတိုင်း လူတိုင်းအား ၎င်းကိုယ်တိုင် အမှန်တကယ် ထုတ်လုပ်ခဲ့သည်နှင့်လျော်ညီစွာ



ပေးအပ်မြဲ ဖြစ်ကြောင်း စသည်တို့ကို ရှင်းလင်း တင်ပြနိုင်ရန်အတွက် ဖြစ်သည်ဟူ၍ ရေးသားဖော်ပြထားခဲ့သည်။

ကလတ်(ခ)၏ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီကို ပို၍ရှင်းလင်းစွာ သိမြင်နိုင်ရန်အတွက် လက်တွေ့လုပ်ငန်းတစ်ခုဖြင့် နမူနာပြရသော်၊

ဥပမာ၊ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဟုဆိုရမည့် ပုဂ္ဂလိကကျောင်း တစ်ကျောင်း ဆိုပါစို့။

ကျောင်းအနေနှင့် ဆရာအသစ်တစ်ယောက် တိုး၍ခန့်လျှင် တန်းခွဲ သစ်များ တိုးချဲ့နိုင်မည် သို့မဟုတ် သင်တန်း (course) အသစ်များ တိုးဖွင့်နိုင်လိမ့်မည်။ ထိုအခါ ကျောင်း၌ ကျောင်းသားသစ်များလည်း တိုးတက် လက်ခံလာရမည် ဖြစ်ရာ ၎င်းတို့ထံမှ ရရှိမည့် ကျောင်းဝင်ကြေး ကျောင်းလခ စသည်များကြောင့် ကျောင်း၏ဝင်ငွေလည်း တိုးတက်လာ မည် ဖြစ်သည်။ အကယ်၍သာ အသစ်ခန့်အပ်လိုက်သော ဆရာသည် နိုင်ငံကျော် နာမည်ကြီး ဟူသောဆရာမျိုး ဖြစ်မည်ဆိုက အနယ်နယ် အရပ်ရပ်မှ ကျောင်းသားများသည် ၎င်းဆရာထံ သင်ကြားခွင့်ရရန်အတွက် ကျောင်းသို့ စာရင်းပေးသွင်းလာကြမည် ဖြစ်ရာ ကျောင်းက တိုးတက်ရရှိ လာမည့် ဝင်ငွေသည်လည်း သိသိသာသာပင် ပို၍ များပြားလိမ့်မည် ဖြစ်သည်။ ဤတွင် ကျောင်း၌ ထိုသို့ အသစ်တိုးလာသော ဝင်ငွေ ပမာဏ သည် ဆရာအသစ်၏ အစွန်းထွက်ထုတ်လုပ်မှု (marginal producti-vitiy) ကြောင့် ရလာခြင်း ဖြစ်သည်ဟု ယေဘုယျ မှတ်ယူနိုင်ပါသည်။

ထို့နောက် ကလတ်(ခ)က၊ အကယ်၍ လူတိုင်းသည် ကုန်ပစ္စည်း ထုတ်လုပ်မှု သို့မဟုတ် ဝန်ဆောင်မှု လုပ်ငန်းစဉ်တွင် ၎င်းပါဝင်ထည့်သွင်း ခဲ့သည့် အတိုင်းအတာနှင့်လျော်ညီသော ပမာဏကို တိတိကျကျရရှိကြမည် ဆိုက ဝင်ငွေခွဲဝေရာ၌ မျှတမှုရှိသည် ဟုဆိုရမည် ဖြစ်သည်။ သို့သော် အကယ်၍ တစ်စုံတစ်ယောက်သောသူ အနေနှင့် မိမိကြောင့် ဖြစ်ပေါ်သည့် အစွန်းထွက်ထုတ်လုပ်မှုနှင့် ညီမျှသော တန်ဖိုးကို ပြည့်ပြည့်ဝဝ မရဘဲ လျော့ နည်း၍သာရသည် ဟုဆိုလျှင်မူ ၎င်းလူအနေနှင့် ခိုးဝှက်ခြင်း လုယက်ခြင်း ခံရသည်၊ သို့မဟုတ် ခေါင်းပုံဖြတ်ခံရသည် ဟုဆိုစရာ ဖြစ်လာသည်။

ထိုအနေအထားမျိုးသည်မှ မာ့က်(စ) ရှုမြင်ခဲ့သည့် လူမှုပြဿနာများဆိ ဦးတည်စေသော သဘောရှိသည် ဟူ၍ သုံးသပ်ခဲ့သည်။

ကလတ်(ခ)၏ ဝင်ငွေခွဲဝေမှုဆိုင်ရာ အစွန်းထွက်ထုတ်လုပ်မှုသီအို ၌ မြေ (land) ကိုလည်း လုပ်အားနည်းတူပင် သဘောထားကြောင်း တွေ့ ရသည်။ ကုန်ပစ္စည်းထုတ်လုပ်မည့် စက်ရုံအလုပ်ရုံစသည့် အဆောက်အ များအတွက် မြေနေရာ လိုအပ်သည် ဖြစ်ရာ၊ ယင်းအကြောင်းကြောင့် မြေသည် အထွက်ပစ္စည်း (output) ၏ တန်ဖိုးဖြစ်ပေါ်ရာ၌ တစ်စိ တစ်ဒေသ ပါဝင်သည်ဟု သူရှုမြင်သည်။ ထို့ပြင် မြေသည် ကုန်ပစ္စည်းနှ ဝန်ဆောင်မှုတို့အတွက် လိုအပ်သည့် အရေးကြီးသော ကုန်ကြမ်းပစ္စည်းမျ ထွက်ပေါ်ရာ နေရာလည်း ဖြစ်သည်။ ထို့ကြောင့် အထွက်ပစ္စည်း၏ တန် ကို ဖြည့်တင်းပေးသော မြေ၏ အခန်းကဏ္ဍအတွက် ထိုက်သင့်သမျှ မြေရှင်အား ငှားခ (rent) အသွင်ဖြင့် ပေးရခြင်း ဖြစ်သည်ဟု သူခံယူသည် ထိုကြောင့် ဟင်နရီဂျော့ချ် ပြောသည့် ငှားခဟူသည် မလုပ်ဘဲရသော ဖြစ်သည်၊ မထိုက်တန်၊ မရသင့် ဟူသောအယူအဆသည် မှားယွင်းသည် ကုန်ထုတ်လုပ်မှုဖြစ်စဉ်တွင် မြေယာက ဖြည့်ဆည်းပေးရသည့် အပိုင်းရှိ ယင်းဖြည့်ဆည်းမှုအတွက် အကျိုးကျေးဇူး တစ်စုံတစ်ရာကို ၎င်းမြေအ ပိုင်ဆိုင်သော မြေရှင်အနေနှင့် ရသင့်သည်ဟု ကလတ်(ခ)က သုံးသ ခဲ့သည်။

အလားတူ အမြတ်အစွန်း (profit) တို့သည်လည်း ကုန်ပစ္စည် ထုတ်လုပ်ရာ၌ အထောက်အကူပြုသည့် အရင်းအနှီးကိရိယာ (capit equipment) သို့မဟုတ် စက်ယန္တရား (machinery) များ၏ ဖြည့်ဆည် ချက်အတွက် ရရှိခြင်းဖြစ်သည်ဟူ၍ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီ ရှုမြင်သည်။ ထိုသဘောအရ အမြတ်အစွန်းဟူသည် ခိုးဝှက်လုယက် မဟုတ်။ အရင်းစိုက်ထုတ်မှုအတွက် အကျိုးကျေးဇူး ခံစားရခြင်းသ ဖြစ်သည်ဟု ခံယူပြီး အလုပ်သမားတို့ အနေနှင့် ကုန်ထုတ်လုပ်မှုဖြစ်စဉ် ထွက်ပေါ်သည့် အပိုတန်ဖိုး ဟူသည်ကို မရသည့်တိုင်၊ မိမိတို့ စိုက်ထု သည့် အစွန်းထွက်ထုတ်လုပ်မှုနှင့် ညီမျှသော တန်ဖိုးကိုသာ လုပ်ခအ



ရှိမည်ဆိုက အဆိုပါ ဝင်ငွေခွဲဝေမှုအစီအစဉ်သည် **တရားမျှတမှု ရှိနေပြီ** ဟူ၍ ကလတ်(ခ)က ရှုမြင်သည်။

ကလတ်(ခ)၏ ဝင်ငွေခွဲဝေမှုဆိုင်ရာ အစွန်းထွက်ထုတ်လုပ်မှု**သီအိုရီ** နေ၍ ဆက်လက် စဉ်းစားဝေဖန်စရာ ပြဿနာတစ်ခု **ထွက်လာသည်။** ယင်းကို product exhaustion problem ဟူ၍လည်းကောင်း၊ adding up problem ဟူ၍လည်းကောင်း ခေါ်ကြသည်။ ပြဿနာ၏ အနှစ် သဘောက ဝင်ငွေခွဲဝေရာ၌ လိုနေခြင်း၊ ပိုနေခြင်းများ ဖြစ်သည်။

လိုနေခြင်းဟူသည်က ကုန်ပစ္စည်းတစ်ခု ရောင်းချ၍ ရရှိသော ငွေသည် ၎င်းအား လုပ်ကိုင်ရာတွင် ပါဝင်သည့် မြေ၊ လုပ်အား၊ အရင်း နှီးဟူသော ကုန်ထုတ်အင်အားစုများ (factors of production) အား ၎င်းတို့အသီးသီး ထည့်ဝင်ထားသည့် အစွန်းထွက်ထုတ်လုပ်မှုများနှင့် ကိုက်ညီစွာ ပေးနိုင်အောင် လုံလောက်မှုမရှိသည့် ပြဿနာ ဖြစ်၏။ ဥပမာ ဆိုကြပါစို့ ... ဆိုကယ်၍ ပုဂ္ဂလိက ကျောင်းတစ်ကျောင်းက ရရှိသော ဝင်ငွေသည် ယင်းရှိ ဆရာအသီးသီးမှ ဆရာများ၏ အစွန်းထွက်ထုတ်လုပ်မှုများ အားလုံး ပေါင်းလဒ်ကို ပြည့်မီခြင်း မရှိဟု ဆိုပါစို့။ ဝင်ငွေခွဲဝေရာ၌ အားလုံးကို ပြည့်အဝ ပေးနိုင်မည် မဟုတ်သဖြင့် အချို့သူများမှာ ရသင့်သည်ထက် လျော့နည်း၍ ရခြင်း (ဝါ) ခေါင်းပုံဖြတ်ခံရခြင်းများ ရှိနေမည် ဖြစ်သည်။

ပိုနေခြင်းဟူသည်က လုပ်ငန်းတွင်ပါဝင်သူအားလုံးကို အသီးသီး၏ အစွန်းထွက်ထုတ်လုပ်မှုနှင့် ညီမျှသော တန်ဖိုးကို ပေးပြီးသည့်နောက်တွင် လုပ်ငန်း၌ ဝင်ငွေအပိုကျန်နေသေးသည့်ကိစ္စမျိုး ဖြစ်သည်။ သည်ပိုငွေသည် မည်သူ့ကြောင့် ရခြင်း ဖြစ်သလဲ၊ ယင်းကို မည်သို့ ထပ်မံခွဲဝေလျှင် မျှတမှုရှိမည်လဲ စဉ်းစားဆုံးဖြတ်ရမည့် ပြဿနာ ဖြစ်သည်။

ကလတ်(ခ)ကမူ လုပ်ငန်းတစ်ခုက ထုတ်လုပ်လိုက်သည့် ကုန်ပစ္စည်း နှင့် ဝန်ဆောင်မှုများ၏ စုစုပေါင်းတန်ဖိုးသည် ၎င်းတွင် ထည့်သွင်းပါဝင်သော အစွန်းထွက်ထုတ်လုပ်မှုအားလုံး၏ ပေါင်းလဒ်နှင့် ညီမျှလိမ့်မည် ဟုဆိုသည်။ ထို့နောက် ထိုအချက်ကို ရှင်းလင်းပြသနိုင်ရန် အတွက် သရုပ်ပြပုံများလည်း သူ ရေးဆွဲတည်ဆောက်ပြခဲ့သည်။ **သူတ**

ယင်းသို့ မညီမျှဘဲ လိုနေပိုနေခြင်း မှန်သမျှသည် ပြိုင်ဆိုင်မှုပေါ်တွ
အခြေခံ၍ ရှင်းလင်းဖျက်ပယ်နိုင်သော အနေအထားများသာ ဖြစ်ရပေ
ဟုဆိုသည်။ သို့သော် သည်အပိုင်းနှင့် စပ်လျဉ်းသည့် ကလတ်(ခ)၏
တင်ပြချက်များမှာ များစွာ တိကျခိုင်လုံခြင်း မရှိခဲ့ပေ။ ဆွီဒင်လူမျ
စီးပွားရေးပညာရှင် ကနွတ်ဝစ်(က)ဆဲလ် (Knut Wicksell) လက်ထ
ကျမှသာ သည်ပြဿနာကို တိတိကျကျ ဖြေရှင်းပေးနိုင်ခဲ့သည်
ဝစ်(က)ဆဲလ်က လုပ်ငန်းတစ်ခုအနေနှင့် စကေးအလိုက် အထွက်မှန်သ
အနေအထားမျိုး (constant returns to scale) ရှိမှသာ ကုန်ထု
အင်အားစုတို့၏ ဖြည့်ဆည်းမှုများ ပေါင်းလဒ်နှင့် ထွက်ကုန်ပစ္စည်းတို့၏
တန်ဖိုး စုစုပေါင်းတို့ ဟုညီကြလိမ့်မည် ဖြစ်ကြောင်း ပြောဆိုပြီး စကေး
အလိုက် အထွက်မှန်အနေအထား ရရှိရန်အတွက်မူ ပြိုင်ဆိုင်မှုက ထိန်
ကျောင်းပေးသွားလိမ့်မည် ဟုဆိုခဲ့သည်။ ကလတ်(ခ)အနေနှင့် အသေးစိ
တွက်ချက် သက်သေပြရာတွင် ခိုင်မာမှု မရှိခဲ့သော်လည်း အနှစ်ချုပ်သဘော
အရမူ သူ ထုတ်ပေးခဲ့သည့် အဖြေက မှန်ကန်ခဲ့သည်။ ပြိုင်ဆိုင်မှုမျ
လှုပ်ရှားရှင်သန်နေမှုသာ အထက်ကပြောခဲ့သည့် အပိုအလို ပြဿနာများ
ထိန်းသိမ်း ဖြေရှင်းနိုင်မည်ဟု သူမြင်ခဲ့ခြင်း ဖြစ်ပါသည်။

❖

ကလတ်(ခ)၏ အခြား အရေးပါသော ဖြည့်ဆည်းချက်များ
ပြိုင်ဆိုင်မှု (competition) နှင့် လက်ဝါးကြီးအုပ်ချုပ်ကိုင်မှု (monopoly
တို့နှင့်ပတ်သက်၍ ဖြစ်သည်။ အက်ဒမ်စမစ် (Adam Smith) ခေ
လောက်က စတင်၍ စီးပွားရေးပညာရှင်တို့ အနေနှင့် လက်တစ်ဆုပ်စာ
လုပ်ငန်းသမား တစ်စု လက်ထဲသို့ စီးပွားရေးအာဏာများ စုဝေးရောက်
သွားမှာကို စိုးရိမ်ခဲ့ကြသည်။ လုပ်ငန်းနယ်ပယ်တစ်ခုတွင် လက်ဝါးကြီးအု
လုပ်ခွင့်ရထားကြသူများအနေနှင့် ဈေးကွက်ကို ချုပ်ကိုင်ချယ်လှယ်နိုင်သ
စွမ်းအားကို အကြောင်းပြု၍ ထုတ်လုပ်မှုကို ကန့်သတ်ခြင်း ဈေးနှု



င်ခြင်းများ ပြုနိုင်ကြသည်။ ဈေးကွက်၌ ပစ္စည်းရှားပါးသည့်အခါ
သုံးသူတို့ မတန်တဆ ဈေးကြီးပေးပြီး ဝယ်ယူကြရသည်။

ကလတ်(ခ)က စီးပွားရေးတစ်ရပ်အတွင်း ပြိုင်ဆိုင်မှုရှိခြင်းကို
ပေါင်းလက္ခဏာဆောင်သော အင်အားတစ်ရပ်အဖြစ် မှတ်ယူသည်။
ိုင်ဆိုင်မှုရှိသောအခါ၌ ကုန်ထုတ်လုပ်ငန်းစဉ်တွင် ပါဝင်သော လူတိုင်းပင်
၏ အစွန်းထွက် ဖြည့်ဆည်းချက်နှင့် လျော်ညီသော တန်ဖိုး (ဝါ)
တသော ဝေစုကို ရရှိကြသည်။ အကြောင်းက ပြိုင်ဆိုင်မှုရှိသော
တ်ဝန်းကျင်တွင် အလုပ်ရှင်တစ်ယောက်က လုပ်သားတစ်ဦးအား သူ၏
စွန်းထွက်ထုတ်လုပ်မှုထက် လျှော့၍ ပေးပါက ၎င်းလုပ်သားသည်
အား တန်ရာတန်ဖိုးပေးသော အခြားလုပ်ငန်းရှင်တစ်ဦးထံ ရွှေ့ပြောင်း
ားမည် ဖြစ်သည်။ လုပ်ငန်းရှင်သစ်ကလည်း ၎င်းလုပ်သားအား
းရမ်းခြင်းဖြင့် မိမိ၌ အကျိုးအမြတ်ရှိသောကြောင့် လက်ခံလိမ့်မည်။
ကြောင်းမူ သူ့ကြောင့် တိုးတက်ရရှိလာသည့် တန်ဖိုးသည် လုပ်ခ
က်ဈေးထက် ပိုမည်ဖြစ်ရာ သူ့အား လုပ်ခကို ပြည့်ပြည့်ဝဝ ပေးပြီး
ာက်မှာပင် မိမိအတွက် ၎င်းလူ၏ ထုတ်လုပ်မှုအပိုင်းမှ အမြတ်အစွန်း
ျန်နေသေးသောကြောင့် ဖြစ်သည်။ အကယ်၍သာ လုပ်ငန်းလောက၌
ိုင်ဆိုင်မှု မရှိပါက လုပ်သားအနေနှင့် အလုပ်ရှင်ကို ရွေးချယ်နိုင်သော
ခြေအနေ မရှိသဖြင့် လျော့နည်းသော လုပ်ခကိုပင် လက်ခံရတော့မည်
စ်သည်။

သည်စီးစစ်မှုမှနေ၍ စီးပွားရေးပေါ်လစီဆိုင်ရာ အရေးကြီးသော
က်ရောက်မှုများ ဖြစ်ပေါ်သည်။ အစိုးရက ပြိုင်ဆိုင်မှုကို နှောင့်ယှက်
န့်တားသည့် အခြင်းအရာ မှန်သမျှသည် ရှောင်ကြဉ်ရမည့် အရာ၊
န့်ကျင်ရမည့် အရာများ ဖြစ်လာသည်။ ထိုအရာများထဲတွင် သမဂ္ဂ
union) များလည်း ပါဝင်သည်။ အကြောင်းက သမဂ္ဂများအနေနှင့်
ပိတ်မှောက်မည် ဟုခြိမ်းခြောက်ကာ အလုပ်သမားတို့၏ လုပ်အား
စွန်းထွက်ထုတ်လုပ်မှုထက် ပို၍တောင်းဆိုလာနိုင်သောကြောင့် ဖြစ်သည်။
အနေအထားကို တားဆီးကာကွယ်ရန် ရည်ရွယ်ချက်ဖြင့် သမဂ္ဂအဖွဲ့ဝင်

မဟုတ်သူများ အလုပ် လုပ်ခွင့် ရရှိရေး ဥပဒေများ (right-to-work la
သို့မဟုတ် open shop Laws) ပေါ်ပေါက်လာစေရန် ကလတ်(
ဦးဆောင် လမ်းပြ ဆောင်ရွက်ခဲ့သည်။

ပြိုင်ဆိုင်မှုကို ဟန့်တားသော အရာသည် အလုပ်သမားများ
ဘက်မှသာ လာသည် မဟုတ်။ အလုပ်ရှင်များဘက်ကလည်း လာသည်
ထို့ကြောင့် ကလတ်(ခ)က ယင်းတို့ကိုတားဆီးရန် နည်းလမ်းများ ရှာ
နိုင်ရေးအတွက် တစ်ဦးတည်း ချုပ်ကိုင်ထားသည့် အနေအထား (m
nopoly) များ၊ ပြိုင်ဆိုင်မှု ပြည့်ပြည့်ဝဝ မရှိသည့် အခြားအနေအထ
(imperfect competition) များနှင့် ပြိုင်ဆိုင်မှုကို အဟန့်အတားပြုသည်
အခြားသော လုပ်ငန်းဆောင်ရွက်ပုံ နည်းလမ်းများကို လေ့လာသည်
ထို့နောက် ယင်းတို့နှင့်စပ်လျဉ်း၍ သုံးသပ်ချက်စာတမ်းများ ရေးသ
ပြုစုသည်။

ထိုစာတမ်းများတွင် ကလတ်(ခ)က လုပ်ငန်းရှင်ကြီးများကို အပြ
မဆိုရုံမက တစ်ဦးတည်း ချုပ်ကိုင်ထားသည့် အနေအထားများနှင့် လူတ
လက်ဝါးကြီးအုပ် လုပ်ကိုင်သည့် အနေအထားများသည် လုပ်ငန်းလော
၏ သဘာဝဖြစ်စဉ်သာဖြစ်သည် ဟူ၍ပင် အကာအကွယ်ပေး ပြောဆို
သည်။ သူက လုပ်ငန်းကဏ္ဍတစ်ခုတွင် ကုမ္ပဏီကြီးတစ်ခု သို့မဟုတ် တစ်ဦ
လက်ဝါးကြီးအုပ် လုပ်ခွင့်ရနေခြင်းသည် ပြဿနာ မဟုတ်ကြော
အဘယ်ကြောင့်ဆိုသော် ယှဉ်ပြိုင်မည့်သူများ အချိန်မရွေး ပေါ်လာ
သောကြောင့် ဖြစ်ကြောင်း၊ ကုမ္ပဏီတစ်ခုသည် လုပ်ငန်းတစ်ခုကို တစ်ဦ
တည်း လုပ်ကိုင်ကာ အမြတ်အစွန်း အမြောက်အမြား ရနေတာ မြင်လျှ
အခြားကုမ္ပဏီများကလည်း သူ ရနေသော အမြတ်ငွေကို ခွဲဝေရယူနိုင်
အတွက် သည်လုပ်ငန်းနယ်ပယ်ထဲ ဝင်ရောက်လာကြမည်သာ ဖြစ်ကြော
ထို့ပြင် တစ်ဦးတည်း လုပ်ခွင့်ရနေသော ကုမ္ပဏီအနေနှင့် သူ၏ လုပ်ပိုင်
ကို အလွဲသုံးစားပြုကာ မတရားလုပ်လာမည်ဆိုလျှင် စားသုံးသူမျ
အလုပ်သမားသမဂ္ဂများကလည်း ၎င်းကုမ္ပဏီအား ဖြိုခွဲရန် သို့မဟု
မတရားတင်ထားသည့် ဈေးနှုန်းများ ပြန်ချလာအောင် တရားဥ



လမ်းကြောင်းမှ အားထုတ် ကြိုးပမ်းလာနိုင်ကြသောကြောင့် ဖြစ်ကြောင်း
စသဖြင့် ကလတ်(ခ)က ရှင်းလင်းပြောဆိုခဲ့သည်။

သို့သော် လက်ဝါးကြီးအုပ် အနေအထားသည် ပြိုင်ဆိုင်မှုများကြားမှ
ပေါ်ထွက်လာနိုင်ပုံ အကြောင်းကိုလည်း ကလတ်(ခ) သတိပြုမိခဲ့သည်။
အကြောင်းက ယှဉ်ပြိုင်လုပ်ကိုင်နေကြစဉ်အတွင်း ထုတ်လုပ်သူအချို့က
မိမိတို့ကုန်ပစ္စည်းကို ကုန်ကျစရိတ်ထက် လျှော့၍ ဈေးနှုန်းသတ်မှတ်ကာ
အရှုံးခံရောင်းချတာမျိုး ပြုလုပ်လာနိုင်ခြင်း ဖြစ်သည်။ ထိုအခါ ၎င်းကုန်
ပစ္စည်းမျိုးကိုပင် ထုတ်လုပ်နေသည့် အခြားသူများမှာ အရှုံးခံ မရောင်းနိုင်
သဖြင့် လုပ်ငန်းကို ရပ်လိုက်ရမည် ဖြစ်သည်။ ဤနည်းဖြင့် မိမိ
ကုန်ပစ္စည်းလောကတွင် ပြိုင်ဘက်များ ပျောက်ကွယ်ပြီး မိမိ တစ်ဦးတည်း
သာ ကျန်ရှိသည့် အခါ၌မှ ကုန်ပစ္စည်းကို ရှားပါးအောင်လုပ်ကာ အမြတ်
များများကြီး တင်ရောင်းနိုင်သည့် လက်ဝါးကြီးအုပ်သမား၏ အပေါ်စီး
အနေအထားမျိုး သူ ရရှိသွားပေမည်။

၎င်းလုပ်နည်းလုပ်ဟန်နှင့် စပ်လျဉ်း၍ အခေါ်အဝေါ် နှစ်မျိုး ရှိသည်။
predatory pricing (ပြိုင်ဘက်ရှင်း ဈေးနှုန်း သတ်မှတ်ခြင်း) နှင့် dump-
ing (ဈေးချသွန်ရောင်းခြင်း)။ ပြည်တွင်းလုပ်ငန်းသမား အချင်းချင်း
ကြားတွင် ပြိုင်ဘက်ကို သတ်နိုင်လောက်အောင် အလွန်အကျွံ ဈေးချ
ရောင်းခြင်းကို predatory pricing ဟုခေါ်ပြီး၊ ပြည်ပကုန်သွယ်မှုတွင်
၎င်းပုံစံဆောင်ရွက်ခြင်းမျိုးကိုမူ dumping ဟုခေါ်ကြသည်။ အဆိုပါ
ပြိုင်ဆိုင်နည်းမျိုးများကို မတရားမမျှတသော ပြိုင်ဆိုင်နည်းဟု ကလတ်(ခ)
က သတ်မှတ်ပြီး ယင်းတို့ကို တားဆီးရန် လိုအပ်ကြောင်း အလေးအနက်
ပြောဆိုသည်။

အမေရိကန်ပြည်တွင် ၁၈၉၀ ခုနှစ်က ပြဋ္ဌာန်းသည့် ရှာမင်အက်
ဥပဒေ (Sherman Act) နှင့် ၁၉၁၁ ခုနှစ် ပေါ်ပေါက်သည့် စတင်းဒတ်
ရေနံကုမ္ပဏီအမှု စီရင်ထုံးများအရ ပြိုင်ဘက်ရှင်း ဈေးနှုန်း သတ်မှတ်ခြင်းကို
တရားမဝင်လုပ်ရပ်အဖြစ် တားမြစ်ပိတ်ပင်ခဲ့သည်။

သို့သော် ကုမ္ပဏီတစ်ခုက သူ့ပစ္စည်းကို ကုန်ကျစရိတ်ထ လျှော့၍ ရောင်းချနေရုံဖြင့် ယင်းအား ပြိုင်ဘက်ရှင်းဈေးနှုန်းသတ်မှတ် စ ကျင့်သုံးနေသည် ဟုပြောရန်မှာ လက်တွေ့၌ မလွယ်ကူသော သဘော ရှိသည်။ အကြောင်းမူ ကုမ္ပဏီတစ်ခုအနေနှင့် သူ ထုတ်လုပ်သော ပစ္စည် သည် ဈေးကွက်၌ အလွန် အရောင်းထိုင်းနေမည် သို့မဟုတ် အခြားကုမ္ပ များက သူနှင့် အရည်အသွေးတူ ပစ္စည်းကို အလွန်သက်သာသော နှုန်းထ ဖြင့် ရောင်းချနေကြမည်ဆိုက သူ့အနေနှင့်လည်း ဈေးကွက်မှ ထွက်မသွ လိုလျှင် သို့မဟုတ် သည်လုပ်ငန်းကိုပင် ဆက်လက် ယှဉ်ပြိုင်လုပ်ကို လိုလျှင် မိမိ၏ အမှန်တကယ် ကုန်ကျစရိတ်ထက် လျှော့ကာ အရှုံးခံ ရောင်းကောင်းရောင်းရမည် ဖြစ်သောကြောင့်ပင်။

သည်ပြဿနာမျိုးနှင့် စပ်လျဉ်းသည့် အငြင်းပွားမှုများမှာ ယနေ့တို လည်း ရှိနေဆဲ ဖြစ်သည်။ ဥပမာ အမေရိကန်လုပ်ငန်းရှင်များက ဂျပ ကုမ္ပဏီများသည် ၎င်းတို့၏ကုန်ပစ္စည်းများကို အမေရိကန်ဈေးကွက်တွ ဈေးချသွန်ရောင်းခြင်းအားဖြင့် အမေရိကန်လုပ်ငန်းများ ပျက်စီးအော အမေရိကန်ဈေးကွက်ကို ၎င်းတို့ အုပ်စိုးမိအောင် ကြိုးပမ်းနေကြသည် ဟုစွပ်စွဲခြင်းမျိုး ဖြစ်သည်။ ပြိုင်ဘက်ရှင်းဈေးနှုန်းသတ်မှတ်ခြင်း နည်းတ ဈေးချသွန်ရောင်းခြင်းသည်လည်း ဈေးကွက်ကို လက်ဝါးကြီးအုပ် စိုးမိ ထားနိုင်ရေးသို့ ဦးတည်သည်ဖြစ်ရာ တရားမဝင်သော နည်းလမ်းဖြ ပြိုင်ဆိုင်ခြင်းမျိုးပင်ဖြစ်သည် ဟုသတ်မှတ်ကြသည်။ ဂတ် (GATT) ခေ အကောက်ခွန်နှင့် ကုန်သွယ်မှုဆိုင်ရာ အထွေထွေ သဘောတူညီချက (General Agreement on Tariffs and Trade) တွင်လည် စာချုပ်ဝင်နိုင်ငံအားလုံး လိုက်နာကြရမည့် ဈေးချသွန်ရောင်းမှု မပြုရေ စည်းကမ်းချက်တစ်ရပ်ကို ပြဋ္ဌာန်းထားရှိသည်။ သို့သော် ဈေးချ သွန်ရောင်းခြင်း ဟူသည်လည်း ပြိုင်ဘက်ရှင်းဈေးနှုန်းသတ်မှတ်ခြ နည်းတူ အခိုင်အမာသက်သေပြရန် မလွယ်ကူသော အရာမျိုး ဖြစ်နေသည်

စင်စစ် စီးပွားရေး လုပ်ငန်း လောက၌ ပြိုင်ဆိုင်မှု၏ အရေးပါပုံ အကြောင်းမှာ ဂျေ ဘီ ကလတ်(ခ)၏ ရေးသားချက်များထဲတွင် လွှမ်းမိုး



နေသည့် အကြောင်းအရာတစ်ရပ်ပင် ဖြစ်သည်။ ထုတ်လုပ်မှုဖြစ်စဉ်တွင် ပါဝင်သူအားလုံး မိမိဆောင်ရွက်ချက်နှင့် လျော်ညီစွာ ရရှိရေး၊ ဝင်ငွေ ခွဲဝေရာ၌ တရားမျှတမှု ရှိရေးနှင့် ကုမ္ပဏီကြီးများက ၎င်းတို့၏ စီးပွားရေး ခင်အားကို မတရား အသုံးမပြုနိုင်အောင် တားဆီးကာကွယ်နိုင်ရေး တို့အတွက် ပြိုင်ဆိုင်မှုသည် မရှိမဖြစ် လိုအပ်ကြောင်း သူ အလေးအနက် ပြောဆိုခဲ့သည်။

❖

ကလတ်(ခ) သက်ရှိထင်ရှားရှိစဉ်က ကမ္ဘာ့စီးပွားရေးအတွေးအခေါ် လောက၏ ဗဟိုချက်မသည် ဥရောပ ဖြစ်သည်။ သူ၏ စာအုပ်စာတမ်း ချမ်းများအားဖြင့် အသိအမှတ်ပြုခံရသည် မှန်သော်လည်း ကလတ်(ခ) သည် ဥရောပနှင့် ဗြိတိသျှ ထိပ်တန်းစီးပွားရေးပညာရှင်ကြီးများ၏ အဆင့် သို့ မရောက်ရှိခဲ့ပါ။ သို့သော် ၁၉ ရာစုနှောင်းပိုင်းနှင့် ၂၀ ရာစုဦးပိုင်းကာလ အမေရိကန် စီးပွားရေးပညာရှင်များ လောကတွင်ကား သူက အထင်ရှားဆုံး ဖြစ်ခဲ့သည်။ ထို့ပြင် နောက်ပိုင်းကာလ တသီတတန်းကြီး ထွက်ပေါ် လာမည့် အမေရိကန် စီးပွားရေးတွေးခေါ်ရှင်များ လောကတွင်လည်း သူက ရှေ့ဆောင်ပုဂ္ဂိုလ်တစ်ဦး ဖြစ်ခဲ့ပါသည်။

## ဗီးလ်ဖရေးဒိုး ပါရေးတိုး
(၁၈၄၈–၁၉၂၃)



အီတလီလူမျိုး စီးပွားရေးတွေးခေါ်ရှင် ဗီးလ်ဖရေးဒိုးပါရေးတိုး (Vilfredo Pareto) မှာ သင်္ချာဘောဂဗေဒ (mathematical economics) ပညာရပ်ကို အစပြုသူတစ်ဦးအဖြစ် အမိက သိမှတ်ခြင်းခံရသည်။ ဆောစောပိုင်းကာလ သူ၏ လေ့လာတင်ပြချက်များအရ ယင်းသို့ သိမှတ်ကြတာ မှန်သော်လည်း နောက်ပိုင်း၌ သူကိုယ်တိုင်ကပင် စီးပွားရေးပညာအား သင်္ချာပုံသေနည်းများအားဖြင့် ဘောင်ခတ်သည့် လမ်းကြောင်းကို ငြင်းပယ်ခဲ့သည်။ သူက ၎င်းနည်းလမ်းသည် ကျဉ်းမြောင်းလွန်းသည်၊ လက်တွေ့စီးပွားရေးလောက၏ လုပ်ဆောင်မှုများကို ၎င်းနည်းလမ်းမျိုးအားဖြင့် ခြုံငုံသိရှိနားလည်မိနိုင်စရာ အကြောင်းမရှိ ဟုမြင်လာခဲ့သည်။ ထိုသို့မြင်သည့်အလျောက် သည်ပညာရပ်ကို ပိုမိုကျယ်ပြန့်အောင် ချဲ့ထွင်သည့်အနေဖြင့်၊ စီးပွားရေးစနစ်များအား ခွဲခြမ်းစိတ်ဖြာသည့်နေရာ၌ နိုင်ငံရေးနှင့် လူမှုရေးဆိုင်ရာ ပြောင်းလဲနိုင်သော အနေအထား (ကိန်းရှင်) များ (variables) ကိုပါ ထည့်သွင်းတွက်ချက်နိုင်ရန် အားထုတ်ခဲ့သည်။

❖

ပါရေးတိုးကို ပြင်သစ်ပြည် ပါရီမြို့တွင် ၁၈၄၈ ခုနှစ်က မွေးဖွားသည်။ မြို့ပြအင်ဂျင်နီယာတစ်ဦးဖြစ်သော သူ့ဖခင်သည် အီတလီအစိုးရ၏ မူဝါဒများကို ဆန့်ကျင်ခဲ့သောကြောင့် တိုင်းတစ်ပါးတွင် အခိုက်အတန့် သွားရောက်နေထိုင်ရခြင်း ဖြစ်သည်။ မိဘများမှာ လူလတ်တန်းစားများ ဖြစ်ရာ ပါရေးတိုးအား ပညာကို ကောင်းစွာ သင်ကြားပေးနိုင်ကြသည်။ ကျောင်းပညာအပြင် သူ့အား အလုပ်ကြိုးစားတတ်သည့် စိတ်နှင့် အသုံးအစွဲ အနေအထိုင် ကျစ်လျစ်သည့် အမူအကျင့်များပါ ပျိုးထောင်ပေးခဲ့ကြသည်။ ၁၈၅၈ ခုနှစ်တွင် သူတို့မိသားစု အီတလီပြည်သို့ ပြန်လည်ရောက်ရှိလာသည်။ အီတလီတွင် သူ့အား ဘော်ဒါဆောင်ရှိသည့် အထက်တန်းကျောင်းများမှာ ထားပေးသည်။ ထို့နောက်တွင် တူးရင်မြို့ရှိ ပေါ်လီတက်ကနစ် သိပ္ပံသို့ တက်ရောက်သင်ကြားပြီး ၁၈၆၉ ခုနှစ်၌ တစ်တန်းလုံးတွင် ပထမ အဆင့်ဖြင့် အောင်မြင်ကာ အင်ဂျင်နီယာဘွဲ့ရသည်။

ဘွဲ့ရပြီးနောက် မြို့ပြအင်ဂျင်နီယာတစ်ဦးအဖြစ် အစိုးရ မီးရထားလမ်းဌာန၌ အလုပ်ရသည်။ အင်ဂျင်နီယာရာထူး အဆင့်ဆင့် ထမ်းရွက်ရပြီး လုပ်ငန်းတာဝန်ဖြင့် အင်္ဂလန်နှင့် စကော့တလန်သို့ အခါအားလျော်စွာ ခရီးသွားရသည်။ သည်တွင် ဗြိတိသျှ၏ စီးပွားရေးအခြေအနေများကို သူ သတိပြုမိလာသည်။ ဗြိတိန်တွင် အစိုးရက လွတ်လပ်စွာစီးပွားရှာခွင့်ဝါဒ (laissez-faire policy) ကို ကျင့်သုံးကာ ဈေးကွက်စီးပွားရေးစနစ်ကို အားပေး မြှင့်တင်လျက်ရှိပြီး ယင်းနည်းလမ်းအားဖြင့် သိသိသာသာ အောင်မြင်မှုရနေတာ သူ မြင်ရသည်။ သို့နှင့် သည်စနစ်များကို ဦးဆောင် ဖြန့်ချိနေသူတို့ စုဝေးရာ အက်ဒမ်စမစ်အသင်း (Adam Smith Society) သို့ ဝင်ခဲ့သည်။ သည်အသင်းတွင် တက်ကြွသော အသင်းသားတစ်ဦး အဖြစ် ၁၈၇၀ ကျော် ၈၀ ကျော်နှစ်များအတွင်း သူ လှုပ်ရှားပါဝင်ခဲ့သည်။ အသင်းကထုတ်ဝေသည့် သတင်းလွှာတွင် ဆောင်းပါးများ ရေးသည်။ သူ အဓိကရေးသည့် အကြောင်းအရာများက ဒီမိုကရေစီရေး၊ လွတ်လပ်စွာ ကုန်သွယ်နိုင်ရေး၊ လွတ်လပ်စွာ ယှဉ်ပြိုင်လုပ်ကိုင်နိုင်ရေး တို့ကို အားပေး ထောက်ကူရန်နှင့် စီးပွားရေးလုပ်ငန်းများ အပါအဝင် လူတစ်ဦးချင်းတို့၏



လုပ်ကိုင်ဆောင်ရွက်မှုများတွင် ထိန်းချုပ်ကန့်သတ်မှုများ လျှော့ချရန် သည်တို့ ဖြစ်သည်။

ထို့ပြင် အချိန်ပိုရှိသမျှတွင်လည်း နိုင်ငံရေးဘောဂဗေဒနှင့် လူမှုရေး ပညာ (sociology) ဆိုင်ရာ စာအုပ်စာတမ်းများကို အကျယ်အပြန့် ဖတ်ရှု လေ့လာသည်။ ၁၈၈၂ ခုနှစ်တွင် အစိုးရအလုပ်မှ အနားယူပြီး အင်ဂျင်နီယာ လုပ်ငန်းဆိုင်ရာ အတိုင်ပင်ခံပုဂ္ဂိုလ်တစ်ဦးအဖြစ် ဆောင်ရွက်သည်။ တစ်ဘက်တွင်လည်း နိုင်ငံရေးရာနှင့် စီးပွားရေးရာ သုံးသပ်ဝေဖန်စာများ ရေးသားရာ လူအများအပြားပင် စိတ်ဝင်တစား ဖတ်ရှုကြသည်။ ပါရေးတိုး က သူ ကျွမ်းကျင်ခဲ့သည့် သင်္ချာပညာနှင့် အင်ဂျင်နီယာပညာများကို ဘောဂဗေဒသီအိုရီများထဲသို့ ထည့်သွင်းခဲ့သည်။ ယခင်က ဘောဂဗေဒကို စကားသက်သက်ဖြင့် ရေးသားဖော်ပြခဲ့ကြရာမှ သူ့လက်ထက်တွင် ရိုးရိုးဝါကျများသည် သင်္ချာညီမျှခြင်းများအသွင်ဖြင့် ပေါ်လာကြသည်။ ထိုရေးသား ဖော်ပြပုံများကို သဘောကျသဖြင့် သူ့အား လော်ဇင်း (Lausanne) တက္ကသိုလ်က ယခင်စီးပွားရေးတွေးခေါ်ရှင် လီယွန်ဗောလ်ရပ်(စ) (Léon Walras) လုပ်ခဲ့ဖူးသည့် ရာထူးနေရာ၌ ခန့်အပ်သည်။

လော်ဇင်းတက္ကသိုလ်တွင် ဆောင်ရွက်နေသည့် ကာလအတွင်းမှာပင် သူ့အား ဘောဂဗေဒကို ပို၍ သင်္ချာဆန်လာအောင် ဦးဆောင်ဖန်တီးသူ တစ်ဦးအဖြစ် နိုင်ငံတကာက အသိအမှတ်ပြုလာခဲ့ကြခြင်း ဖြစ်သည်။ သို့သော် သည်လို လူသိများထင်ရှားလာနေဆဲမှာပင် သူက သင်္ချာဘောဂဗေဒသည် သင်္ချာကို ဖောင်းပေးလွန်းသည်၊ ထို့ကြောင့် ကျဉ်းမြောင်းသည် ဟုမြင်လာပြီး လမ်းကြောင်း ပြန်ပြောင်းရန် ဆုံးဖြတ်ခဲ့သည်။ သူက မည်သူမဆို စီးပွားရေးတစ်ရပ်ကို လက်တွေ့ကျကျ သိနားလည်ရန်အတွက် ယင်းစီးပွားရေး ဖြစ်တည်ရာ ပတ်ဝန်းကျင် နိုင်ငံရေး အခြေအနေများကို လည်းကောင်း၊ ဒေသဝန်းကျင်ရှိ စီးပွားရေးဆိုင်ရာ ဓလေ့အစဉ်အလာများ ကိုလည်းကောင်း ဦးစွာ သိရှိထားဖို့ လိုသည် ဟုရှုမြင်သည်။ ထို့ကြောင့် နောက်ပိုင်း၌ စီးပွားရေးနယ်ပယ်တစ်ရပ်အတွင်း ဖြစ်ပေါ်သည့် အပြောင်းအလဲများကို ခွဲခြမ်းစိတ်ဖြာလေ့လာသည့် နေရာများတွင် လူမှုရေး၊ နိုင်ငံရေး

စိတ်ဓာတ်ရေးရာ အကြောင်းအချက်များကိုပါ ထည့်သွင်းတွက်ချက်ရ သူ အားထုတ်လာသည်။

၁၈၉၈ ခုနှစ်တွင် သူ၏ဦးလေးဖြစ်သူ ကွယ်လွန်ရာ ပါရေးတိုးသည် အမွေအနှစ် အမြောက်အမြား ရလေသည်။ ထိုငွေဖြင့် ဂျီနီဗာရေကန်ကြီး အနီးတွင် ခြံကျယ်ဝင်းကျယ်နှင့် အိမ်ကြီးတစ်ဆောင် ဝယ်ယူသည်။ ထို့နောက် ဝင်ငွေအတွက် အခြားအလုပ် မလုပ်တော့ဘဲ အိမ်တွင်းအောင်း ကာ စီးပွားရေးရာ ခွဲခြမ်းစိတ်ဖြာမှုများကိုပဲ စူးစိုက်လုပ်ကိုင်ခဲ့သည်။

စီးပွားရေးပညာကို သင်္ချာဆန်အောင်လုပ်ခဲ့ခြင်းအပြင် စီးပွားရေး ပညာအတွက် ပါရေးတိုး၏ အခြားအရေးကြီးသော ဖြည့်ဆည်းချက်သုံးရပ် ရှိပါသေးသည်။ တစ်ခုက ဝင်ငွေခွဲဝေမှုဆိုင်ရာ ဥပဒေသတစ်ရပ် သူ ဖော်ထုတ်ခဲ့ခြင်း ဖြစ်သည်။ ယင်းဥပဒေသမှာ ယနေ့တိုင် သူ၏အမည်ဖြင့် တွဲဖက်တည်ရှိနေဆဲ ဖြစ်ပါသည်။ နောက်တစ်ခုက စီးပွားရေးပညာရှင်တို့ အနေနှင့် စားသုံးသူ ကျေနပ်မှု (ဝါ) စားသုံးသူအတွက် အသုံးဝင်မှု (util- ity) ကို တွက်ချက်သည့်နေရာ၌ အရေအတွက်ပြကိန်း (cardinal num- ber) အစား အဆင့်ပြကိန်း (ordinal number) ကို သုံးစွဲလာကြအောင် ဦးဆောင်ပြောင်းလဲပေးခဲ့ခြင်း ဖြစ်သည်။ တတိယမှာမူ အခြေအနေ တစ်ရပ်၌ စီးပွားရေးအကျိုးရလဒ်များ ပိုမို တိုးတက်ကောင်းမွန်အောင် လုပ်နိုင်မလုပ်နိုင် ဆုံးဖြတ်ပေးနိုင်သည့် စမ်းသပ်မှုတစ်ခု သူ တီထွင် ဖော်ထုတ်ပေးခဲ့ခြင်း ဖြစ်ပါသည်။

ယင်းတို့နှင့်စပ်လျဉ်း၍ အတန်အသင့် ရှင်းလင်းဖော်ပြရသော်—

ပထမအချက်၊

လောဇင်းတွင် သင်ကြားပို့ချနေစဉ် ကာလအတွင်း ပါရေးတိုးက ဝင်ငွေခွဲဝေမှု (income distribution) အကြောင်းရပ်ကို စိတ်ဝင်စားလာ ပြီး နိုင်ငံအသီးသီးတို့ရှိ ဝင်ငွေမညီမျှမှု အနေအထားများကို စတင်လေ့လာ သည်။ ယင်းသို့လေ့လာရာမှနေ၍ ဝင်ငွေခွဲဝေမှုအပေါ် သက်ရောက်လွှမ်းမိုး လျက်ရှိသည့် ရိုးစင်းရှင်းလင်းသော ပုံသဏ္ဌာန်တစ်ရပ်ကို သူ ရှာဖွေတွေ့ရှိ သည်။ ပါရေးတိုးက အကယ်၍ တိုင်းပြည်တစ်ပြည်ရှိ မိသားစုအသီးသီး



တို့၏ ဝင်ငွေများကို အဆင့်အလိုက် အစီအစဉ်ချကြည့်မည်၊ ထိုအဆင့် အသီးသီး၌ ရှိသည့် ဝင်ငွေပမာဏများကိုလည်း မှတ်သားမည်၊ ထို့နောက် ယင်းတို့ကို ဆက်စပ်သုံးသပ်ကြည့်မည်ဆိုက ဝင်ငွေတိုးတက်မှုသည် အဆင့်လိုက် အချိုးညီစွာ (proportionately) မဖြစ်ပေါ်ကြောင်း၊ အဆင်းရဲဆုံးမိသားစုမှသည် အလယ်အလတ် အဆင့်များ၊ ထို့နောက် အချမ်းသာဆုံးမိသားစုများအထိ အဆင့်ဆင့် တိုးတက်သွားရာ၌ ဝင်ငွေ ပမာဏတို့သည် ဂဏန်းသင်္ချာနည်း (ဝါ) ပေါင်းပွားနည်းဖြင့် (arith- metically) တိုးခြင်းမျိုး မဟုတ်ဘဲ ဂျီဩမေတြီနည်း (ဝါ) မြှောက်ပွား နည်းဖြင့် (geometrically) တိုးသွားကြကြောင်း တွေ့ရှိရသည်ဟု သူက ဆိုသည်။ ရှင်းရသော် အကယ်၍ ဝင်ငွေတိုးတက်မှုသည် အချိုးညီစွာသာ ဖြစ်ပေါ်မည်ဆိုခဲ့လျှင် စာရင်းအင်းပညာ (statistics) နည်းအရ ရာလီကိန်း (percentile) များအားဖြင့် အဆင့်ခွဲကာ ဇယားချကြည့်သည့် အခါ၌ ၃၀ မြောက်ရာလီကိန်း (30th percentile) ၌ ရှိသော မိသားစုတစ်စုသည် ၂၀ မြောက်ရာလီကိန်း၌ ရှိသော မိသားစုတစ်စုထက် ဝင်ငွေ ၂၀ ရာခိုင်နှုန်း ပိုသည်ဆိုက ၄၀ မြောက်ရာလီကိန်း၌ ရှိသော မိသားစုသည်လည်း ၃၀ မြောက်ရာလီကိန်းရှိ မိသားစုထက် ဝင်ငွေ ၂၀ ရာခိုင်နှုန်း ပိုလိမ့်မည်။ အလားတူ ၁၀၀ မြောက်ရာလီကိန်းရှိ မိသားစုသည်လည်း ၉၀ မြောက် ရာလီကိန်းရှိ မိသားစုထက် ဝင်ငွေ ၂၀ ရာခိုင်နှုန်းပင် ပိုရလိမ့်မည် ဖြစ်သည်။ (ပုံ-၁ ကို ကြည့်ပါ။)




ပုံ (၁)၊ ဂဏန်းသင်္ချာနည်းဖြင့် ဝင်ငွေတိုးတက်ခြင်း

ဝင်ငွေတိုးတက်မှုသည် ဂျီသြမေတြီနည်းနှင့် ဖြစ်သောအခါ မိသားစုတစ်စုသည် ဝင်ငွေအဆင့်တစ်ခုမှ နောက်အဆင့်၊ နောက်အဆ များသို့ တိုးတက်ကူးပြောင်းသွားစဉ်တစ်လျှောက် ဝင်ငွေပမာဏ တိုးပွား များပါ ခုန်၍ခုန်၍ မြင့်တက်သွားသော သဘော ရှိသည်။ အထက်ကန နှိုင်းယှဉ်၍ ဥပမာပြရသော် ၃၀ မြောက်ရာလီကိန်းရှိ မိသားစုသည် မြောက်ရာလီကိန်းရှိ မိသားစုထက် (သို့မဟုတ် ၎င်းကိုယ်တိုင်ပင် မြောက်ရာလီကိန်း အဆင့်တွင် ရှိစဉ်ကထက်) ဝင်ငွေ ၁၀ ရာခိုင်နှုန်း သည် ဆိုပါစို့။ ၅၀ မြောက်ရာလီကိန်းရှိ မိသားစုကမူ ၄၀ မြော ရာလီကိန်းရှိ မိသားစုထက် ၁၀ ရာခိုင်နှုန်း မဟုတ်ဘဲ ၄၀ ရာခိုင်နှုန်းအ ပိုရသည်ကို လည်းကောင်း၊ ၁၀၀ မြောက်အဆင့်သို့ ရောက်လာသ မိသားစုမှာမူ ၉၀ မြောက်ရှိ မိသားစုထက် ဝင်ငွေ ၁၀၀ ရာခိုင်နှုန်းအ ပိုရနေသည်ကို လည်းကောင်း တွေ့ရှိရမည့်သဘော ဖြစ်သည်။ (ပုံ- ကိုကြည့်ပါ။)




ပုံ (၂)၊ **ဂျီသြမေတြီနည်းဖြင့် ဝင်ငွေတိုးတက်ခြင်း**

အမေရိကန်နိုင်ငံနှင့် ဥရောပနိုင်ငံ အများအပြားမှ ဝင်ငွေဆိုင် စာရင်း ဇယားကိန်းဂဏန်းများကို ခွဲခြမ်းစိတ်ဖြာလေ့လာသည့် အခါ





ဝင်ငွေခွဲဝေရရှိမှုပုံသဏ္ဍာန် (pattern of income **distribution) သည်** နေရာတိုင်းမှာပင် တစ်ဆင်တည်း တစ်သဘောတည်းလို **ဖြစ်နေကြောင်း** ပါရေးတိုး တွေ့ရှိရသည်။ သို့နှင့် ၎င်းအား ဝင်ငွေခွဲဝေမှုဆိုင်ရာဥပဒေသ တစ်ရပ်အဖြစ် သူ သတ်မှတ်ပြောဆိုခဲ့သည်။ ထိုပုံစံသည် အပြောင်းအလဲ ယင်းအတိုင်း တစ်သမတ်တည်း တည်ကြောင်းလည်း သူကပြောခဲ့ရာ အချက်ကို ကောက်၍ အချို့စီးပွားရေးပညာရှင်များက ပါရေးတိုး၏ အယူအဆသည် လက်ငင်းတည်ရှိနေသည့် ဝင်ငွေမညီမျှသော အနေ အထားကို တရားသည် ဟုရှုမြင်သည့်သဘောဖြစ်ကြောင်း ဝေဖန်မှုများ ခဲ့သည်။ သို့သော် နေရာတိုင်းတွင် ယင်းသို့သော ဝင်ငွေခွဲဝေမှုပုံစံများကို ည်း အဘယ်ကြောင့် တစ်သမတ်တည်း တွေ့ရှိနေရသနည်း ဟူသည် ပတ်သက်၍ ရှုထောင့်အမျိုးမျိုးမှ သုံးသပ်ပြောဆိုနိုင်ကြသော သဘော ပါသည်။ ပါရေးတိုး၏ အယူအဆကိုပင် နမူနာအဖြစ်ပြောရလျှင် သူက ်းသို့ ဆင်းရဲချမ်းသာ ကွာဟသော ပုံသဏ္ဍာန်ဖြင့် တည်ရှိနေရခြင်းသည် ချမ်းသာသူတို့အနေနှင့် မိမိတို့၏ ဓနဥစ္စာကို ထိန်းသိမ်းကာကွယ် တတ် သော သဘာဝရှိပြီး ယင်းသို့ ထိန်းသိမ်းကာကွယ်နိုင်သည့် စွမ်းအားများ ည်း ၎င်းတို့မှာ ရှိတတ်သောကြောင့် ဖြစ်ကြောင်း ရှုမြင်သည်။ ထို့ပြင် ချမ်းသာသူတို့၌ နိုင်ငံရေးဆိုင်ရာ သြဇာရှိန်ဝါများ ရှိနေတတ်ခြင်းမှာလည်း နိုင်ငံတကာ၌ တွေ့မြင်ရသည့် သဘာဝတစ်ရပ်ပင်ဖြစ်ရာ ယင်းအကြောင်း ကြောင့်လည်း ဝင်ငွေမညီမျှမှုများ လျော့ပါးအောင် ပြန်လည်ခွဲဝေမည့် စီအမံများ မအောင်မြင်ရခြင်း ဖြစ်သည်ဟု သူက သုံးသပ်သည်။

ဝေဖန်မှုအငြင်းပွားမှုများ ရှိခဲ့တာ မှန်သော်လည်း ဝင်ငွေခွဲဝေမှုနှင့် လျဉ်းသည့် ပါရေးတိုး၏ စူးစမ်းရှာဖွေချက်များက စီးပွားရေးပညာ တွက် အရေးပါသော ခြေလှမ်းသစ်တစ်ရပ် ဖြစ်ခဲ့သည်။ စင်စစ် ကမ္ဘာ နှံ့အပြားမှ ဝင်ငွေဆိုင်ရာ ကိန်းဂဏန်း အချက်အလက်များကို ရှာဖွေ ည်းကာ နှိုင်းယှဉ်သုံးသပ်လေ့လာသည့် အလုပ်ကို သူပင် ပထမဆုံး လေးအနက် လုပ်ကိုင်ခဲ့ခြင်းဖြစ်ရာ သူ့အား သည်ကဏ္ဍနယ်ပယ်၌ ဆောင်လမ်းပြပုဂ္ဂိုလ် ဟုဆိုရမည်သာ ဖြစ်သည်။

ဒုတိယအချက်၊

ရှေ့ဘက်တွင်ဆိုခဲ့ သကဲ့သို့ စားသုံးသူကျေနပ်မှု (ဝါ) အသုံးဝင် ကို အရေအတွက်ပြကိန်းဖြင့် တိုင်းတာသည့် cardinal utility နည်းလ အစား အဆင့်ပြကိန်းဖြင့် တိုင်းတာသည့် ordinal utility နည်းလမ်း အသုံးပြုဖြစ်လာအောင် ဆောင်ရွက်ခဲ့ခြင်းသည်လည်း စီးပွားရေးပ အတွက် ပါရေးတိုး၏ အရေးပါသော ဖြည့်ဆည်းချက်တစ်ရပ်ပင် ဖြစ်သ အကြောင်းက ကုန်ပစ္စည်းများ ဝန်ဆောင်မှုများနှင့် စပ်လျဉ်း၍ စားသုံးသူ ကျေနပ်မှုကို ကိန်းဂဏန်းပမာဏဖြင့် ပြရခြင်းထက်၊ သည်ဟာ ဟိုဟာထက် ပို၍နှစ်သက်ကြောင်း သို့မဟုတ် လျော့၍နှစ်သက်ကြော ပြောရမည်ဆိုက ပိုမိုတိကျမှန်ကန်စွာ ပြောနိုင်စရာရှိသောကြောင့် ဖြစ်သ ဥပမာ ကုန်ပစ္စည်း A နှင့်စပ်လျဉ်း၍ စားသုံးသူတစ်ဦး၏ ကျေနပ်နှစ်သ ကို အဆင့်ပြတိုင်းတာနည်းအားဖြင့် ပြောရမည်ဆိုပါစို့။ A အား B ထ ပို၍နှစ်သက်သည် ဟုပြောနိုင်လျှင် ကိစ္စပြီးသည်။ သို့သော် သည်ကိစ္စကို အရေအတွက်ပြတိုင်းတာနည်းအားဖြင့် ပြောရမည်ဆိုပါက A ကို B ထ နှစ်ဆနှစ်သက်သည် ဆိုမလား၊ နှစ်ဆခွဲနှစ်သက်သည် ဆိုမလား၊ B ၁၀ ဖိုးမျှ နှစ်သက်၍ A အား ၁၅ ဖိုးမျှ နှစ်သက်သည် ပြောမလား၊ ချင့်ချ ပြောဆိုရ ခက်ခဲမည် ဖြစ်သည်။

ထို့ကြောင့် စားသုံးသူကျေနပ်မှုကို အရေအတွက်ပြကိန်းအစ အဆင့်ပြကိန်းဖြင့် တိုင်းတာသည့် နည်းလမ်းကို ပြောင်းလဲအသုံးပြု အခါ စီးပွားရေးသုတေသီအဖို့ စားသုံးသူတစ်ဦးချင်းတို့အား စိစစ် မေး သည့် နေရာ၌ ပိုမို လွယ်ကူသွားပြီး လက်တွေ့လည်း ကျလာသ စားသုံးသူအနေနှင့် ဥပမာအားဖြင့် သစ်တော်သီးနှင့် ဆီးသီးတွင် ဘယ် ကို သူ ပိုကြိုက်ကြောင်းသာ ပြောဖို့ လိုအပ်သွားသောကြောင့် ဖြစ်သ သည်ကိစ္စမှာ သူ အမှန်တကယ် သိသော အရာလည်း ဖြစ်သည်။ ဈေး သည့် အခါမှာလည်း အဲသည့်အတိုင်းပင် သူ လုပ်လိမ့်မည်။ ဥ သစ်တော်သီးကို ပိုကြိုက်သည် ဆိုပါစို့။ သူ့အိတ်ထဲမှာ ပိုက်ဆံနည်း သာ ရှိပါက သစ်တော်သီးတစ်ခုကိုပဲ သူ ဝယ်စားလိမ့်မည်။ သို့

ဆာစောက ပြောခဲ့သလို သစ်တော်သီးကို ဆီးသီးထက် ဘယ်လောက် ကြိုက်သလဲ။ ၅ ဆ ပိုကြိုက်သလား။ ၁၀ ဆ ပိုကြိုက်သလား မေးလျှင် သူ တွက်တတ်မည် မဟုတ်။ မှန်မှန်ကန်ကန် ဖြေနိုင်မည်လည်း မဟုတ်။

ထို့ပြင် အဆင့်ပြကိန်းစနစ်ကို ပြောင်းလဲလိုက်သည့်အခါ ယခင်က က်ခဲနေခဲ့သည့် စားသုံးသူ ကျေနပ်မှုပမာဏကို မည်သို့တိုင်းတာမည်နည်း ဟူသော ပြဿနာနှင့်၊ မတူညီသော စားသုံးသူတို့၏ ကျေနပ်မှုပမာဏ များကို မည်သို့နှိုင်းယှဉ်မည်နည်း ဟူသော ပြဿနာများ ပျောက်ကွယ် သွားသည်။ ၎င်းပြဿနာများမှာ လူအများဆုံး အလိုဆန္ဒပြည့်ဝရေးဝါဒ (utilitarianism) ၏ ရှေ့ဆောင်လမ်းပြပုဂ္ဂိုလ်များ ဟုဆိုရမည့် ဘင်သမ် (Jeremy Bentham) နှင့် မေးလ် (John Sturat Mill) တို့ လက်ထက် ကတည်းက တည်ရှိလာခဲ့သော ပြဿနာများ ဖြစ်သည်။ အရေအတွက် အစား အဆင့်စနစ်ကို ပြောင်းလဲသုံးစွဲလိုက်သည့်အခါ တိုင်းတာစရာ ပေတံ လိုအပ်တော့။ လူနှစ်ယောက် ရောင်းဝယ်ဖလှယ်မှုပြုခြင်း ဟူသည် ၎င်းလူ နှစ်ဦးလုံးပင် မိမိ ပေးလိုက်ရသော ပစ္စည်းထက် မိမိ ရရှိသော ပစ္စည်းကို ပို၍ နှစ်သက်ကြောင်း ပြသခြင်းပင် ဖြစ်သည်။ ဘယ်လောက် ပိုနှစ်သက် သလဲ ကိန်းဂဏန်းဖြင့် ပြောစရာ မလို။ ထို့ပြင် သည်ဖလှယ်မှုမှ ထွက်ပေါ် လာသည့် အသေအချာပြော၍ ရနိုင်သော အချက်တစ်ခုက ရောင်းဝယ် ဖလှယ်ပြီးချိန်၌ ထိုလူနှစ်ယောက် ရရှိသော ကျေနပ်မှု စုစုပေါင်းသည် ရောင်းဝယ်မှု မပြုမီကရှိသည့် နှစ်ဦးပေါင်း ကျေနပ်မှုထက် ပိုသည်ဆိုတာပဲ ဖြစ်သည်။ အကြောင်းက ကိုယ်လိုချင်တာရသဖြင့် နှစ်ဦးလုံး စောစောက ထက် ပိုကျေနပ်သွားကြသောကြောင့် ဖြစ်သည်။

တတိယက စီးပွားရေးဆိုင်ရာ အသင့်ဆုံးအနေအထား (optimal state of economic affairs) ဟူသော မှတ်ယူချက်တစ်ရပ်ကို ဖော်ထုတ် တင်ပြခဲ့ခြင်း ဖြစ်သည်။ နောင်တွင် ၎င်းကို ပါရေးတိုး အသင့်ဆုံးအနေ အထား (Pareto Optimality) ဟူ၍ သုံးနှုန်း ပြောဆိုခဲ့ကြသည်။ ၎ သည်၌ ပါရေးတိုး အဓိကပြောချင်သည့် အချက်က အချို့အနေအထားတွင် စီးပွားရေးတစ်ရပ်မှ ထွက်ပေါ်လာမည့် အကျိုးရလဒ်ကို လက်ရှိထက် ပို၍

တိုးတက်ကောင်းမွန်အောင် မလုပ်နိုင်တော့ ဟူ၍ဖြစ်သည်။ ထပ်ရှင်းရသော် ပါရေးတိုး အသင့်ဆုံးအနေအထား ဟုခေါ်သည့် ယင်းအခြေအနေမျိုးတွ စီးပွားရေးတစ်ရပ်အတွင်း တစ်ဦး အခြေအနေ တိုးတက်လျှင် ကျန်တစ်ဦ ဆုတ်ယုတ်မည်၊ အတိုးနှင့် အလျော့ကို ချေလျှင် ကျေသွားမည်၊ ထို့ကြော စုစုပေါင်းတွင် အပြောင်းအလဲ ရှိမည်မဟုတ် ဟူ၍ ဆိုလိုခြင်း ဖြစ်သည် ယင်းသို့ နောက်ထပ် ပိုကောင်းအောင် မလုပ်နိုင်တော့သည့် အနေအထာ ဖြစ်သောကြောင့် ပါရေးတိုးက စီးပွားရေးတစ်ရပ်အတွက် အကောင်းဆုံ အသင့်ဆုံးအနေအထား ဟုဆိုခဲ့ခြင်း ဖြစ်သည်။

ဤသည်နှင့်ပတ်သက်၍ ပါရေးတိုးက ယခုကဲ့သို့ ဥပမာပြု ပြောခ သည်။ သူက ဈေးကွက်တစ်ခုအတွင်း ပုဂ္ဂိုလ်နှစ်ဦးတို့ ရောင်းဝယ်ဖလှယ ကြသည် ဆိုရာ၌ နှစ်ဦးလုံးပင် ကုန်ရောင်းဝယ်မှုမှ မိမိအတွက် အကျိ အမြတ် တစ်စုံတစ်ရာ ရသဖြင့်သာ လုပ်ကြခြင်း ဖြစ်သည်။ တစ်ယောက်အ မြတ်ပြီး တစ်ယောက်က ရှုံးမည်ဆိုက ရောင်းဝယ်ဖလှယ်မှု ပြုဖြစ်ကြမည် မဟုတ်။ တစ်စုံတစ်ယောက်ကဖြစ်စေ၊ နှစ်ဦးလုံးကဖြစ်စေ မိမိအတွက် အကျိုးအမြတ် မရှိဘူးထင်၍ ရောင်းဝယ်ဖလှယ်မှု မပြုကြသည့် အနေ အထားမျိုးတွင် နှစ်ဘက် ပစ္စည်းများကို ယူကာ 'ခင်ဗျားက သည်ဟာကိုယူ သူက ဟိုဟာကိုယူ' ဟူ၍ ဝင်ရောက်ခွဲဝေပေးမည်ဆိုက တစ်ဦး အသာရ သွားပြီး ကျန်တစ်ဦး နစ်နာသွားမှာ သေချာသည်။ ထို့ကြောင့် စီးပွားရေး ဆိုင်ရာ အသင့်ဆုံးအနေအထားဟူသည် ဈေးကွက်တစ်ရပ် အတွင်းရှိ လူတို့ လွတ်လပ်စွာ ရောင်းဝယ်ဖလှယ်မှု ပြုဖြစ်နေကြသည့် စီးပွားရေး အနေ အထားမျိုးကို ဆိုခြင်းဖြစ်သည်ဟု သူက သုံးသပ်သည်။

အဆိုပါ အသင့်ဆုံးအနေအထား အယူအဆသည် စီးပွားရေး ပေါ်လစီများ အပြောင်းအလဲပြုမည့် အခါမျိုးတွင် ပေါ်လစီသစ်နှင့် ပတ်သက်၍ အကျိုးအပြစ် ချင့်တွက်ဝေဖန်ရန်အတွက်လည်း အထောက် အကူ ပြုသည်။ ဥပမာ၊ ချမ်းသာသူများထံမှ ဝင်ငွေခွန်ကို လျှော့ပေါ့ ကောက်ခံလျှင် လုပ်ငန်းရှင်နီးမြုပ်နှံမှုဘက်တွင် ၎င်းတို့ ပိုမို သုံးစွဲလာကြ လိမ့်မည်၊ ထိုအခါ တိုင်းပြည်၏ စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်



လာမည် ဟူ၍ ယေဘုယျ နားလည်ထားကြပါသည်။ **အကယ်၍ ထိုစီးပွား ဖွံ့ဖြိုးမှုကြောင့် ဝင်ငွေနည်းသူ အောက်ခြေလူများမှာ အကျိုးကျေးဇူး** တစ်စုံတစ်ရာ ခံစားရမည်ဆိုက ဝင်ငွေခွန်ပေါ်လစီသစ်ကြောင့် နဂိုထက် ကောင်းသည့် စီးပွားရေးအနေအထား (ဝါ) ပါရေးတိုး သာလွန်အနေ အထား (Pareto Superior) ထွက်ပေါ်လာသည် ဟုဆိုရမည် ဖြစ်သည်။ သို့သော် အကယ်၍ ဝင်ငွေခွန် လျှော့ကောက်ခြင်းကြောင့် စီးပွားဖွံ့ဖြိုးသော အနေအထား ရောက်မလာဘူးဆိုက ချမ်းသာသူတို့ သက်သာသွားသည့် အခွန်ငွေပမာဏကို အခြားသူတို့က တစ်နည်းတစ်ဖုံ မျှပေးထေပေးရမည့် သဘောရှိရာ မူလကဘည်းက ဝင်ငွေနိမ့်သော သူများမှာ ပို၍ အခြေအနေ ဆိုးသွားကြမည် ဖြစ်သည်။ ထိုသို့ဖြစ်ပါက နဂိုမူလ အခွန်ပေါ်လစီသည် ပါရေးတိုး အသင့်ဆုံးအနေအထား၌ တည်ရှိခဲ့သည် ဟုဆိုရပေမည်။

၁၉၃၀ ပြည့်လွန်နှစ်များ အတွင်းတွင်လည်း စီးပွားရေးပညာရှင်တို့ က ပါရေးတိုး၏ အသင့်ဆုံးအနေအထား သတ်မှတ်ချက်သည် စီးပွားရေး တစ်ရပ်၏ အောင်မြင်မှု၊ မအောင်မြင်မှု၊ တိုးတက်မှု၊ ဆုတ်ယုတ်မှု စသည် များနှင့် စပ်လျဉ်း၍ ဆန္ဒစွဲအမြင်များကို ဖယ်ခွာကာ ဓမ္မဓိဋ္ဌာန်ကျကျ ဆက်ဖြတ်နိုင်အောင် အထောက်အကူ ပေးနိုင်လိမ့်မည် ဟုရှုမြင်ခဲ့ကြသည်။ တစ်နည်းဆိုသော် ၎င်းကြောင့် စီးပွားရေးပညာသည် ပို၍ သိပ္ပံနည်းကျလာ နိုင်သည် ဟုခံယူခြင်း ဖြစ်သည်။ ထို့ကြောင့်လည်း စီးပွားရေးပညာရှင် များပင် ပါရေးတိုး အသင့်ဆုံးအနေအထားဟူသည် အချို့သော အခြေ အနေ၌ အမှန်တကယ် တည်ရှိကြောင်း သက်သေပြရန်နှင့် ယင်းအနေ အထားမျိုးသည် ရေရှည် တည်တံ့တတ်သလော၊ ပြောင်းလဲလွယ်သလော ခွင်းခြားပြောဆိုနိုင်ရန် အားထုတ်ကြိုးပမ်းခဲ့ကြသည်။ ယင်းအားထုတ်မှုမှ ပေါ်ထွက်လာသည့် အဓိက တွေ့ရှိချက်တစ်ရပ်က လွတ်လပ်စွာ ယှဉ်ပြိုင် လုပ်ကိုင်နိုင်ကြသည့် အရင်းရှင်စီးပွားရေးစနစ်မျိုး အောက်တွင် ရေရှည် တည်မြဲသော ပါရေးတိုး အသင့်ဆုံးအနေအထားမျိုး ဖြစ်ပေါ်လေ့ရှိသည် ဟူသောအချက် ဖြစ်သည်။

သို့သော် အထက်က အယူအဆနှင့် ပတ်သက်၍ ထောက်ပြဝေဖ များလည်း အများအပြား ပေါ်ထွက်ခဲ့ပါသည်။

ဝေဖန်ချက်တစ်ရပ်က ပါရေးတိုး အသင့်ဆုံးအနေအထား ဟူသ ကနဦးရှိနေသည့် ဝင်ငွေခွဲဝေမှု သို့မဟုတ် ရင်းမြစ်ခွဲဝေမှုပေါ်တွင် အ တည်ကာ ယင်းမှထွက်ပေါ်သည့် စီးပွားရေးရလဒ်ကို 'အသင့်ဆုံး' ပြောနေကြခြင်းမျိုး ဖြစ်သည်။ အကယ်၍သာ ယင်းနှင့်မတူညီသော အ ဝင်ငွေခွဲဝေမှု အနေအထားတစ်ရပ်မှ အစပြုမည်ဆိုလျှင်လည်း ထွက် သည့် ရလဒ်ကို အသင့်ဆုံး ဟုဆိုနေကြလိမ့်ဦးမည်။ ယင်းရလဒ်နှစ်ခုသ လုံးဝ တူညီနိုင်ကြမည် မဟုတ်ရာ ပါရေးတိုး အသင့်ဆုံးအနေအ ဟူသည် အမျိုးမျိုး အဖုံဖုံ ပေါ်ထွက်လာနိုင်သော သဘော ရှိနေသည် ထောက်ပြပြောဆိုခဲ့သည်။

သည်ဘက်ခေတ် စီးပွားရေးပညာရှင်တစ်ဦးဖြစ်သူ အမာတိ ဆင်း (Amartya Sen) ကမူ နောက်ရှုထောင့်တစ်ခုမှ ထော ဝေဖန်သည်။ သူက ပါရေးတိုး အသင့်ဆုံးအနေအထား ယူဆချက်မှ ဆန္ဒစွဲကင်းသော သိပ္ပံနည်းကျ ကောင်းကျိုးပြုဘောဂဗေဒ (welf economics) တစ်ရပ် ထွက်ပေါ်မလာနိုင်ကြောင်း ထောက်ပြသည် အကြောင်းက ပေါ်လစီ အပြောင်းအလဲတစ်ခုကြောင့် သည်လူစုမှာလည် အကျိုးရှိ၊ ဟိုလူစုမှာလည်း အကျိုးရှိမည်ဆိုလျှင် အဲဒါသည် သက်ဆိုင် လူ့အဖွဲ့အစည်းတစ်ခုလုံးအတွက် ပိုကောင်းလာသော အနေအထ ဖြစ်သည်ဟူသော သဘောမျိုး ပါရေးတိုးကဆိုခဲ့ရာ ၎င်းအဆိုမှာ ယေဘု အားဖြင့်တော့ မှန်သည် ဟုပြောနိုင်သည်။ သို့သော် အကယ်၍ မှန်ခဲ့သ ဆိုသည့်တိုင် အဲဒါသည် တစ်ဦးတစ်ယောက်သော သူ၏ ပုဂ္ဂလိက သ ထား အမြင်သာ ဖြစ်ရာ သိပ္ပံနည်းကျထွက်ပေါ်လာသော မှန်ကန် တစ်ရပ်ဟု မဆိုနိုင်ကြောင်း ဆင်းက ငြင်းဆိုသည်။ ထို့ပြင် ပါရေးတို ရှုထောင့်မှ ကြည့်ပါက တစ်ခုသော လူ့အဖွဲ့အစည်းအတွင်း အငတ် ဆိုက်ရောက်နေမည် ဆိုလျှင်လည်း ဤသည်မှာ ယင်းလူ့အဖွဲ့အစည် ရှိနိုင်သည့် အသင့်ဆုံး စီးပွားရေးအနေအထား ဟုဆိုရဦးမည် ဖြ



အကယ်၍ အငတ်ဘေး သက်သာရန်အတွက် ရှိသူတို့ထံမှ ပစ္စည်းတို ရှိသူတို့ထံ ခွဲဝေဖြန့်ဖြူးမည်ဆိုလျှင် 'ပါရေးတိုး အသင့်ဆုံးအနေအထား' ပျက်သွားမည်ဖြစ်ရာ သူပြောသော အသင့်ဆုံးဟူသည် တကယ်တမ်း သေင့်တော်၊ နှစ်သက်ဖွယ် မရှိဟု ထောက်ပြပြောဆိုခဲ့သည်။

❖

ပါရေးတိုးအနေဖြင့် စီးပွားရေးပညာအတွက် အရေးကြီးသော အကြောင်းရပ်များစွာ ဖော်ထုတ်ဖြည့်ဆည်းပေးခဲ့တာ မှန်သော်လည်း သူ့အား အများ သိရှိမှတ်သားကြသည်က စီးပွားရေးရာ ခွဲခြမ်းစိတ်ဖြာမှု များနှင့် ဆင်ခြင်သုံးသပ်မှုများ ပြုလုပ်ရာ၌ သင်္ချာနည်းစနစ်များကို အဦးဆုံး သုံးစွဲပြခဲ့ခြင်းအတွက် ဖြစ်၏။

ဘောဂဗေဒထဲသို့ သင်္ချာထည့်သွင်းသော အလုပ်ကို အစပိုင်းတွင် သူ အားတက်သရော လုပ်ခဲ့သော်လည်း နောက်ပိုင်း၌ စိတ်ဝင်စားမှု လျော့ပါးသွားခဲ့သည်။ စီးပွားရေး တိုးတက်မှု၊ စီးပွားရေးတစ်ရပ်၏ ဆောင်ရွက်နိုင်မှု စွမ်းရည် စသည်တို့နှင့် စပ်လျဉ်း၍ ပိုင်းခြားစိစစ်သည့် နေရာများတွင် သမိုင်းနောက်ခံနှင့် လက်ငင်းနိုင်ငံရေး၊ လူမှုရေးဝန်းကျင် အနေအထားများကို မှန်မှန်ကန်ကန် ထည့်သွင်းစဉ်းစားနိုင်ဖို့က ပို၍ အရေးကြီးသည်ဟု သူ ရှုမြင်လာခဲ့သည်။ နောက်ပိုင်း၌ စီးပွားရေးသံသရာ (business cycle) နှင့်စပ်လျဉ်းသည့် သီအိုရီတစ်ရပ်တွင် ယင်းအချက်များ အားလုံးကို စုစည်းပေါင်းစပ်နိုင်ရန် သူ အားထုတ်ခဲ့သည်။

ပါရေးတိုးက လူ့အဖွဲ့အစည်းတစ်ရပ်အတွင်း လူတို့၏ စရိုက် သဘာဝများ၊ အစဉ်အလာ ထုံးဓလေ့နှင့် အတွေးအမြင် အယူအဆများသည် ၎င်းလူတို့၌ အလုပ်အပေါ် ထက်သန်မှု ရှိခြင်းမရှိခြင်း၊ စားသုံးမှု နည်းခြင်း များခြင်း၊ ချွေတာစုဆောင်းမှု ပြုခြင်းမပြုခြင်း စသည့် အမှုအကျင့်များကို ဖြစ်ပေါ်စေကြောင်း၊ ယင်းတို့က တစ်ဖန် လူ့အဖွဲ့အစည်း၏ စီးပွားရေး အတိုးအဆုတ်အပေါ် သက်ရောက်လွှမ်းမိုးကြောင်း သုံးသပ်ရှုမြင်သည်။

ထို့နောက် ၎င်းအမြင်ကို အခြေခံကာ စီးပွားရေး ဖွံ့ဖြိုးမှုနှင့် စီးပွားရေး ဆုတ်ဆိုင်းမှု တို့ဆိုင်ရာ လူမှုရေးသီအိုရီတစ်ရပ်ကို ဖော်ထုတ်တင်ပြသည်။

ပါရေးတိုးက စီးပွားရေးဖွံ့ဖြိုးရန်အတွက် ဝီရိယစိုက်ထုတ်လုပ်ကိုင် တတ်မှုနှင့် လတ်တလော ခံစားလိုစိတ်ကို မျိုသိပ် ရွှေ့ဆိုင်းတတ်မှုများ ရှိဖို့လိုကြောင်း၊ ထိုအမူအကျင့်များသည် အလုပ်ကို လေးစား တန်ဖိုးထား ရန်နှင့် ခြိုးခြံချွေတာတတ်ရန် တိုက်တွန်းလေ့ ဆုံးမပြောဆိုလေ့ ရှိသော လူမှုဝန်းကျင်များ၌ ထွန်းကားကြောင်း ပြောဆိုသည်။ အလုပ်လုပ်သူ ချွေတာစုဆောင်းသူ၊ ဆက်လက်ရင်းနှီးမြှုပ်နှံသူတို့ကြောင့် စီးပွားရေး ဖွံ့ဖြိုးကာ လူအများအပြား၌ ဝင်ငွေတိုးလာသည့်အခါ၌မူ ယခင်ကရှိခဲ့သည့် ကျစ်လျစ်သော အမူအကျင့်များ လျော့ရဲလာကြမည်။ အလုပ်ဘက်တွင် အားနည်းလာကာ အသုံးအစွဲဘက်တွင် ထက်သန်လာကြမည်။ စုဆောင်းသော အလေ့အထများ ပျောက်ကွယ်ကာ ရသမျှဝင်ငွေကို သုံးစွဲကြမည်။ ထို့နောက်တွင် မရသေးသည့် ငွေကိုပါ ကြိုတင်သုံးစွဲလာပြီး လုပ်အား စိုက်ထုတ်ရသည့် စီးပွားရေးထက် ငွေအရမြန်သည် ထင်ရသည့် လောင်း ကစားဆန်သော စီးပွားရေးမျိုးဘက်သို့ လိုက်လာမည်။ ဤသို့ဖြင့် တစ်ဦးချင်းတို့၏ စီးပွားရေးရော၊ အဝန်းအဝိုင်းတစ်ရပ်လုံး၏ စီးပွားရေးပါ ဆုတ်ယုတ် ကျဆင်းလာသည့်အခါ အသုံးအစွဲတွေ တစ်ဖန် ပြန်လျော့ လာမည်။ ခြိုးခြံချွေတာခြင်း၊ အရင်းအနှီးရအောင် စုဆောင်းခြင်း၊ လုပ်ငန်း အောင်မြင်အောင် အားထုတ်လုပ်ကိုင်ခြင်း စသော အမူအကျင့်ကောင်းများ ပြန်လည် ပေါ်ပေါက်လာပြီး စီးပွားရေးဖွံ့ဖြိုးမှု အထောက်အကူပြုမည့် အယူအဆနှင့် အဆုံးအမများလည်း တစ်ဖန် ထွန်းကားလာပြန်မည်။ သည်အခါ နောက်တစ်ကြိမ် စီးပွားရေးဖွံ့ဖြိုးရန် အခြေခံများ ပြန်လည် တည်ဆောက်မိလာပေမည်၊ စသဖြင့် စီးပွားရေးဖွံ့ဖြိုးမှုနှင့် ဆုတ်ဆိုင်းမှုတို့ ဖြစ်ပေါ်ပုံအကြောင်းကို လူမှုသဘောသဘာဝများနှင့် ဆက်စပ်ကာ သူ ရှင်းပြခဲ့သည်။

❖



သချာဘောဂဗေဒကို ကြိုးစားတည်ဆောက်ခဲ့ပြီး၊ နောက်ပိုင်း၌ မှိန်ဖွာသွားခဲ့သော ပါရေးတိုးအား သူ ငြင်းပယ်ခဲ့သော သချာဘောဂဗေဒ နှင့်ပင် အများသိမှတ်ကြခြင်းက သူနှင့်ပတ်သက်၍ ထူးထူးခြားခြား ပြောစရာတစ်ခု ဖြစ်ခဲ့သည်။ စင်စစ် ဘောဂဗေဒမှာ နောက်ပိုင်းကာလ၌ ပို၍ပင် သချာဆန်လာခဲ့သည်ဖြစ်ရာ ပါရေးတိုးအား လူမှုရေးရာ အပိုင်းထက် သချာကဏ္ဍ ဖြည့်ဆည်းချက်များအတွက် ပို၍ အမှတ်အသား ပြုကြခြင်းမှာလည်း သဘာဝကျသည်ဟုပင် ဆိုရမည် ဖြစ်သည်။ သုတေသီ များကမူ သချာကဏ္ဍ၊ လူမှုရေးရာကဏ္ဍ စသည်တို့အပါအဝင် နယ်ပယ် များစွာ၌ တီထွင်ဖော်ထုတ်ခဲ့မှုများအတွက် ပါရေးတိုးအား စီးပွားရေးပညာ သမိုင်းတွင် မပါမပြီးသည့် ထိပ်တန်းပုဂ္ဂိုလ်များ စာရင်းတွင် ထည့်သွင်း ခဲ့ကြပါသည်။

## ယူဂျင်း ဖော်(န) ဘွန်-ဘောင်ဝပ်(ခ)

(၁၈၅၁ - ၁၉၁၄)



ဘွန်-ဘောင်ဝပ်(ခ) (Eugen von Böhm-Bawerk) က အရင်း (capital) နှင့် အတိုး (interest) တို့ဆိုင်ရာ စီးပွားရေးသီအိုရီများကို ဖော်ဖန်တီးရာ၌ အဓိက ပါဝင်ခဲ့သူတစ်ဦး ဖြစ်သည်။ အတိုးနှုန်းစစ်စစ် (real interest rate) တို့ မည်သည် အပေါင်းလက္ခဏာ (positive) ဆောင်ရမည် (ဝါ) အကျိုးအမြတ်ရှိစေရမည် ဖြစ်ကြောင်း သူ ရှင်းလင်း တင်ပြခဲ့သည်။ ထို့ပြင် ဘွန်-ဘောင်ဝပ်(ခ)သည် စီးပွားရေးဆိုင်ရာ ခွဲခြမ်း စိတ်ဖြာမှုများ ပြုလုပ်ရာ၌ အချိန် (time) ၏ အခန်းကဏ္ဍကို ထည့်သွင်း စဉ်းစားပြခဲ့သည့် ပထမဆုံးသော စီးပွားရေးတွေးခေါ်ရှင် ဖြစ်ပြီး အချိန်ကို ခာနထားသည့် စီးပွားရေးသီအိုရီတစ်ရပ်ကို သူပင် စတင်ဖော်ထုတ် ခဲ့သည်။

❖

ဘွန်-ဘောင်ဝပ်(ခ)ကို မော်ရေးဗီးယားနယ်၊ ဗရွန်း (Brünn) မြို့ တွင် မွေးသည်။ ဗရွန်းမှာ ထိုစဉ်က ဩစထရီ-ဟန်ဂေရီယန် အင်ပိုင်ယာ

ထဲတွင် ပါဝင်ပြီး ယခုအခါ၌မူ ချက်သမ္မတနိုင်ငံ၏ နယ်နိမိတ်ထဲတွ ရှိနေသည်။ မြို့အမည်ကိုလည်း ဗရနို (Brno) ဟု ပြောင်းလဲခေါ် ခဲ့သည်။ ဘွန်–ဘောင်ဝပ်(ခ)၏ ဖခင်သည် အစိုးရအရာရှိကြီးတစ်ယော ဖြစ်သည်။ ကျောင်းသားဘဝ၌ ဘွန်–ဘောင်ဝပ်(ခ)သည် အစိုးရအမှုထ လုပ်ကိုင်ရန် ရည်ရွယ်ချက်ဖြင့် ဥပဒေပညာ၊ အုပ်ချုပ်ရေးနှင့် နိုင်ငံရေးသိ ဘာသာရပ်များကို စတင်ဆည်းပူးခဲ့သည်။ သို့သော် နောက်ပိုင်း၌ မိသာ စီးပွားရေးအခက်အခဲ ရှိလာသဖြင့် ဝင်ငွေအခွင့်အလမ်း ပိုသာသည့် ရှေ့ ရှေ့ရပ်အလုပ်ကို လုပ်ကိုင်ရန် ဆုံးဖြတ်ကာ ဗီယင်နာတက္ကသိုလ်၌ ဥပဒေ ပညာကို အဓိက ယူလိုက်သည်။ သို့သော် သင်ရိုးညွှန်းတမ်းအရ ဥပဒေ ကျောင်းသားများသည် စီးပွားရေးပညာကိုလည်း အနည်းအကျဉ်း သင်ရသည်ဖြစ်ရာ ထိုသင်ရသမျှ စီးပွားရေးသင်ခန်းစာများကို ဘွန် ဘောင်ဝပ်(ခ) အထူးစိတ်ဝင်စားသွားခဲ့သည်။ ဗီယင်နာတက္ကသိုလ်မှ ၁၈၇ ခုနှစ်တွင် ဥပဒေပညာပါရဂူဘွဲ့ ရပြီးနောက် ဂျာမနီနိုင်ငံရှိ ဟိုင်ဒယ်(လ ဘာ့ဂ်၊ လိုက်ပဇစ် နှင့် ဂျီနာ တက္ကသိုလ်များသို့ အစိုးရအထောက်အပံ့ဖြ သွားရောက်ကာ ၅ နှစ်တာမျှ စီးပွားရေးပညာ လေ့လာဆည်းပူးခွင့် ရရှိ ပါရဂူဘွဲ့စာတမ်းတစ်စောင် ရေးသားပြုစုဖြစ်သည်။ ၁၈၈၀ ပြည့်နှစ်တွ တက္ကသိုလ်ဆရာအဖြစ် စတင်ဝင်ရောက်ပြီး နောက် ၄ နှစ်အကြာ၌ ပါမောက္ခတစ်ဦး ဖြစ်လာသည်။

၁၈၈၉ ခုနှစ်တွင် ဘွန်–ဘောင်ဝပ်(ခ)သည် သင်ကြားရေးအလုပ် ထွက်ကာ ဘဏ္ဍာရေးဝန်ကြီးဌာနသို့ ပြောင်းရွှေ့ထမ်းဆောင်သည်။ အစိုး စီးပွားရေးပါရဂူတစ်ဦးအဖြစ် သူက ဩစတြီးယားနိုင်ငံအား ရွှေစံချိန် (gold standard) သို့ ပြန်လည်ကူးပြောင်းရန် နည်းလမ်းရှာဖွေခြင်း အစိုးရအတွက် အခွန်ဘဏ္ဍာရှာဖွေရာ၌ ရောင်းခွန် (sales tax) အဓိက အားပြုနေရာမှ ယင်းထက် ပိုမိုထိရောက်သော နည်းလမ်းအဖြ ဝင်ငွေခွန် (income tax) စနစ်ကို ပြုပြင်ပြောင်းလဲသုံးစွဲခြင်း စသည် လုပ်ငန်းကြီးများတွင် ဦးဆောင်ပါဝင်ခဲ့သည်။

၁၈၉၃ ခုနှစ်တွင် သူ့အား ဩစတြီးယားနိုင်ငံ၏ ဘဏ္ဍာရေးဝန်ကြီး ဖြစ် ခန့်အပ်သည်။ နောက်ထပ် ဆယ်နှစ်ခန့်အတွင်း ထိုရာထူးတာဝန်ကို ကြာကြာ သူ ထမ်းဆောင်ခဲ့ရပြီး ၁၉၀၄ ခုနှစ်တွင်မူ ဗီယင်နာတက္ကသိုလ်က အပ်သည့် နိုင်ငံရေးဘောဂဗေဒဌာန ပါမောက္ခရာထူးကို လက်ခံကာ သာရေးနယ်ပယ်သို့ ပြန်ဝင်လာခဲ့သည်။ ထိုစဉ်မှသည် သူကွယ်လွန်သည့် ၁၄ ခုနှစ်အထိ ဆယ်နှစ်တာကာလအတွင်း ဘွန်–ဘောင်ဝပ်(ခ)၏ ချိန်အများစုတို့မှာ သူ့အား နိုင်ငံရေးရာ၊ စီးပွားရေးရာ တို့နှင့်စပ်လျဉ်း၍ ဖန်ထိုးနက်ကြသူတို့အား ရှင်းလင်းချေပရင်းပင် ကုန်လွန်ခဲ့ရပေသည်။

❖

ယနေ့ခေတ်၌ ဘွန်–ဘောင်ဝပ်(ခ)ကို အဓိကသိမှတ်ကြသည်မှာ ၏ အရင်းနှင့်အတိုးဆိုင်ရာ သီအိုရီများအတွက် ဖြစ်၏။ သည်ကဏ္ဍနှင့် စပ်လျဉ်း၍ သူ၏ အရေးပါသော ဖြည့်ဆည်းချက်သုံးရပ် ရှိသည်။ ယင်းတို့ (၁) ကုန်ထုတ်လုပ်မှု (production) ဟူသည် သွယ်ဝိုက်ဖြစ်စဉ် oundabout process) တစ်ခုဖြစ်ကြောင်း ခွဲခြမ်းစိတ်ဖြာပြခြင်း၊ (၂) စေ်အမှန်အတိုးနှုန်းများဟူသည် အပေါင်းလက္ခဏာဆောင်ရမည်ဖြစ် ကြောင်း ရှင်းလင်းပြခြင်းနှင့် (၃) အချိန် (time) ဟူသည်ကို အတိုးနှုန်းများ ပေါ် သက်ရောက်စေနိုင်သည့် အရေးကြီးသော ကိန်းရှင် (variable) တစ်ရပ်အဖြစ် ထည့်သွင်းစဉ်းစားသည့် အတိုးနှုန်းများဆိုင်ရာ မျှခြေသီအိုရီ quilibrium theory of interest rates တစ်ရပ်ကို ဖော်ထုတ်ပြသခဲ့ခြင်း ဖြစ်ပြီး၊ ယင်းသုံးရပ်လုံးပင် တစ်ခုနှင့်တစ်ခု ဆက်စပ်ပတ်သက်နေကြ သာသဘော ရှိပါသည်။

စီးပွားရေးပညာရှင်တို့အနေဖြင့် တိုင်းပြည်ဒေသတို့၏ စီးပွားရေး များအကြောင်း စဉ်းစားရာ၌ ယင်းတို့အား မျှခြေ (equilibrium) နေအထားဆီသို့ ဦးတည်ရွေ့လျားနေသော အရာများအဖြစ်သာ ရှုမြင် းသပ်လေ့ရှိပြီး၊ မျှခြေသို့ရောက်ရန်အတွက် အချိန်ကာလ တစ်စုံတစ်ရာ

ဖြတ်သန်းရသည် ဟူသောအချက်ကိုမူ လျစ်လျူရှုထားတတ်ကြသည်။ စင်စစ် စီးပွားရေးတစ်ရပ် အနေဖြင့် မျှခြေ သို့မဟုတ် ငြိမ်သက်သော အနေအထား (state of rest) သို့ရောက်ရန် အချိန်သိသိသာသာ ကြာမြင့်ဖြစ်ရာ ထိုကာလအတွင်း အခြားအပြောင်းအလဲများစွာ ပေါ်ပေါက်လာနိုင်သည်။ ထိုအပြောင်းအလဲတို့ကြောင့် ကနဦးမျှခြေအနေအထား ကမောက်ကမဖြစ်ကာ စီးပွားရေးသည် အခြားလမ်းကြောင်းတစ်ခု ကူးပြောင်းရွေ့လျား သွားနိုင်ပေသည်။ ထို့ကြောင့် ဘွန်-ဘောင်ဝပ်(ခ) အချိန်ဟူသော အချက်ကို ဘေးဖယ်မထားနိုင်ဘဲ ရှိခဲ့သည်။ သူ စီးပွားရေးတို့ အမှန်တကယ် လှုပ်ရှားပြုမူဆောင်ရွက်ပုံကို စူးစမ်းလေ့လာရာ၌ အချိန်ကို အရေးကြီးသော အချက်တစ်ရပ်အဖြစ် ထည့်သွင်းစဉ်းစားရမည် ဖြစ်ကြောင်း အလေးအနက် ပြောဆိုသည်။

ဘွန်-ဘောင်ဝပ်(ခ)က စီးပွားရေးလုပ်ငန်းများအနေနှင့် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ ထုတ်လုပ်ဆောင်ရွက်ပေးရန် စဉ်းစားဆုံးဖြတ်သည့်နေရာ၌ အချိန်အတိုင်းအတာဟူသည် အထူးအရေးကြီးသော ကဏ္ဍမှ ပါဝင်ကြောင်း ရှင်းပြသည်။ လုပ်ငန်းသမားသည် လက်သင့်ရာ ထုတ်လုပ်နည်းနာကို အသုံးပြုကာ ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ အလျင်အမြန် ထုတ်လုပ်ပေး၍ ရနိုင်၏။ သို့သော် များသောအားဖြင့် ထိုအလွယ်တကူ အလျင်အမြန် နည်းနာများသည် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှု များများ ထုတ်လုပ်ပေးနိုင်လေ့ မရှိကြ။ တစ်ဘက်တွင် ယင်းနည်းနာများလောက် မြန်မြန်ဆန်ဆန် ရလဒ် မထွက်သော်လည်း ထွက်ပြီဆိုလျှင်မူ ယင်းတို့ထက် ပို၍ များများစားစား ထွက်သည့် ထုတ်လုပ်နည်းနာများလည်း ရှိသည်။ ထိုနည်းနာမျိုးကို သွယ်ဝိုက်ကုန်ထုတ်နည်းနာ (roundabout technique of production) ဟုခေါ်ပါသည်။ သည်နည်းလမ်းမျိုးဖြင့် ထုတ်လုပ်သည့်အခါ ဆက်စပ်ကိစ္စအဝဝကို အခြေချနေရသဖြင့် အစပိုင်းတွင် အချိန်ယူရသည်။ သို့သော် စတင်လည်ပတ်ပြီဆိုသည့်အခါ၌မူ ချက်ချင်းလက်ငင်း ရလဒ်ပေါ်သည့် နည်းများထက် အကျိုးကျေးဇူး သိသိသာသာ ပိုသည်။ နမူနာတစ်ခုအဖြစ် ပြောရသော်၊ စမ်းချောင်းမှ သောက်ရေ ဆိုပါစို့။



စမ်းချောင်းမှာ လက်ခုပ်နှင့် ခပ်သောက်လျှင် ချက်ချင်း လက်ငင်း သောက်ရသည်။ သို့သော် တစ်ကြိမ်မှာ လက်တစ်ခုပ်စာပဲရသည်။ ပုံးနှင့် သွားခပ်ပြီး သောက်ရေအိုးထဲ ထည့်ထားမည်ဆိုလျှင် ပုံးတို့၊ အိုးတို့၊ သောက်ရေခွက် တို့တော့ လိုမည်။ ရေသွားခပ်ရသည်ဆိုသော အလုပ်လည်း ရှိနေမည်။ သို့သော် တစ်ကြိမ်တည်းနှင့် တစ်ပုံးစာသောက်ရမည်။ သည်လိုမဟုတ်ဘဲ စမ်းချောင်းမှရေကို နေအိမ်အထိ ပိုက်နှင့်သွယ်ထားမည် ဆိုပါစို့။ ပိုက်ပစ္စည်းများ ဝယ်ရသဖြင့် ငွေအတန်အသင့် ကုန်မည်။ ပိုက်သွယ်ရသည့် အလုပ်အတွက် အချိန် အတန်အသင့် ယူရမည်။ သို့သော် သွယ်ပြီးပြီဆိုလျှင်တော့ အိမ်မှာ ရေကို အကန့်အသတ်မရှိ အလွယ်တကူ ရတော့မည်။ လက်ခုပ်၊ ရေအိုး၊ ရေပိုက်တို့ကို ကြည့်လျှင် စမ်းချောင်းမှ ရေကို ရယူသောက်သုံးရာ၌ တစ်ဆင့်ပြီးတစ်ဆင့် ပို၍ပို၍ သွယ်ဝိုက်သော နည်းနာများကို ကျင့်သုံးသွားကြောင်း တွေ့ရမည် ဖြစ်သည်။ ထိုအတွက် ကနဦးတွင် အချိန် ပို၍ သုံးစွဲရသော်လည်း အကျိုးရလဒ်၌ တစ်ဆင့်ထက်တစ်ဆင့် သိသိသာသာ ပိုသွားကြောင်း တွေ့မြင်နိုင်သည်။

အထက်က နမူနာအတိုင်းပင် သွယ်ဝိုက်ကုန်ထုတ်လုပ်မှု (round-about production) နည်းစဉ်များ၌ စားသုံးသူသို့ ထုတ်လုပ်ပေးလိုသော ကုန်ပစ္စည်း မတိုင်မီ ကြားအဆင့်များတွင် အခြားပစ္စည်းတွေ ပြုလုပ်ရသေးသည်။ ထုတ်လုပ်မှုလုပ်ငန်းစဉ်၌ အဆင့်တွေ ပိုများလာသည်နှင့်အမျှ ငွေရင်းရော၊ ပစ္စည်းကိရိယာများပါ ပိုမိုစိုက်ထုတ်သုံးစွဲလာရသည်။ ဘွန်-ဘောင်ဝပ်(ခ) လေ့လာရေးသားနေသည့် ကာလက assembly line ခေါ် စုပေါင်းတပ်ဆင်မှုလိုင်းသုံးသည့် စက်ရုံအလုပ်ရုံကြီးတွေ ပေါ်ပေါက်စအချိန် ဖြစ်သည်။ နည်းပညာအရ အဆင့်မြင့်၍ လုပ်ငန်းပမာဏလည်း ကြီးမားသော စက်ရုံကြီးတွေဖြင့် ထုတ်လုပ်သည့်အခါ လုပ်ငန်းစတင်စဉ်မှသည် ကုန်ချောထွက်လာသည်အထိ စောင့်ရသောကာလမှာ အတော်ပင် ကြာမြင့်လေ့ရှိသည်။ နည်းပညာအဆင့် ပိုမြင့်မည်၊ လုပ်ငန်းထည် ပိုကြီးမားမည်ဆိုလျှင် စောင့်ဆိုင်းရချိန်က ပို၍ပင်ကြာဦးမည် ဖြစ်သည်။

ဥပမာ မော်တော်ကားဆိုပါစို့။ ကျွမ်းကျင်သူပညာရှင်တစ်စုက မော်တော်ကားတစ်စီး တည်ဆောက်ကြမည်ဆိုလျှင် အချိန်များစွာကြာမည် မဟုတ်။ သို့သော် အဲသည်ကားမျိုး အမြောက်အမြား ထုတ်လုပ်လိုလျှင်မူ ဦးစွာပထမစက်ရုံကြီးတစ်ရုံ တည်ဆောက်ရမည်ဖြစ်ရာ ယင်းအတွက် အချိန်ပေးရလိမ့်မည်။ တစ်ဖန် ထိုစက်ရုံမျိုးမှာပင် ထုတ်လုပ်အားတိုးတက်စေရန်အတွက် စုပေါင်းတပ်ဆင်မှုလိုင်း၌ နည်းပညာအဆင့်မြင့်ကာ လူလုပ်သားများနေရာတွင် စက်ရုပ်လုပ်သား (robot) များ သုံးစွဲသည့် အလိုအလျောက်ယန္တရားအဖြစ်သို့ ပြောင်းလဲမည် ဆိုပါစို့။ ဦးစွာပထမ ရှိဘော့စက်ရုပ်များ ပြုလုပ်ရမည်။ စုပေါင်းတပ်ဆင်မှုလိုင်းကိုလည်း စက်ရုပ်များနှင့် ဆီလျော်အောင် ပြုပြင်တည်ဆောက်ရမည်ဖြစ်သည်။ ၎င်းယန္တရားမှာ လူလုပ်သားများသုံးသည့် စုပေါင်းတပ်ဆင်မှုလိုင်းထက် ပို၍သွယ်ဝိုက်သော ထုတ်လုပ်မှုပုံစံမျိုးဖြစ်ရာ အစပထမတွင် ကုန်ပစ္စည်းထွက်သည့်အဆင့်ရောက်ဖို့ အချိန်ကြာကြာပိုစောင့်ရမည်။ သို့သော် ရေရှည်တွင်မူ သူက များများစားစား သိသိသာသာ ပိုမိုထုတ်လုပ်ပေးမည် ဖြစ်သည်။

ဘွန်–ဘောင်ဝပ်(ခ)၏ သွယ်ဝိုက်ကုန်ထုတ်လုပ်မှုဖြစ်စဉ် သဘောတရား၌ ပြဿနာတစ်ခု ရှိနေသည်။ ယင်းက ကုန်ထုတ်လုပ်ငန်းတစ်ခု၌ ရှိနေသည့် သွယ်ဝိုက်လုပ်ဆောင်မှု အတိုင်းအတာပမာဏ (roundabout-ness) ကို တိုင်းတာရန် ခက်ခဲခြင်း ဖြစ်သည်။ ဥပမာ ဂိုဒေါင်လေးတစ်ခုထဲတွင် လူတစ်ယောက်က သူ့ဘာသာ မော်တော်ကားတစ်စင်း တည်ဆောက် ပြုလုပ်ခြင်းနှင့် စက်ရုပ်သုံး အလိုအလျောက် တပ်ဆင်စက်ရုံမှာ မော်တော်ကား ပြုလုပ်ပုံတို့ကို နှိုင်းယှဉ်မည် ဆိုလျှင်မူ စက်ရုံ၌ သွယ်ဝိုက်လုပ်ငန်းစဉ် များစွာ ပိုမိုပါဝင်နေကြောင်း ထင်ရှားသော်လည်း စုပေါင်းတပ်ဆင်မှုလိုင်းဖြင့် အလုပ်လုပ်သည့် စက်ရုံချင်းအတူတူတွင် ဘယ်သူက ဘယ်လောက်ပို၍ သွယ်ဝိုက်လုပ်ငန်းသုံးသလဲ တိုင်းတာတွက်ချက် ပြောဆိုပါဆိုသည့်အခါ၌ သိပ်မလွယ်ကူတော့ပေ။

သို့သော် လက်တွေ့စီးပွားရေးလောက၌ လုပ်ငန်းရှင်များအနေနှင့် ယင်း မလွယ်ကူသောကိစ္စကိုပင် ချင့်တွက်စဉ်းစားကာ ဆုံးဖြတ်ချက်များ



ချမှတ်နေရသောသဘော ရှိနေသည်။ ထို့ကြောင့် အဆိုပါ သွယ်ဝိုက်လုပ်ဆောင်မှုအတိုင်းအတာ ပြဿနာကို အဖြေရှာနိုင်ရန် ဘွန်–ဘောင်ဝပ်(ခ) များစွာ ကြိုးစားအားထုတ်ခဲ့ပါသည်။ သို့သော် သည်ကဏ္ဍ၌ ပြောပလောက်သော အောင်မြင်မှုမျိုး သူ မရရှိခဲ့ပေ။

မည်သို့ဖြစ်စေ သွယ်ဝိုက်ထုတ်လုပ်မှုဟူသော အကြောင်းရပ်မှနေ၍ အရေးကြီးသော အချက်တစ်ရပ်ကိုကား သူ တွေ့မြင်ခဲ့ရသည်။ ယင်းက ကုန်ထုတ်လုပ်မှုဖြစ်စဉ်၌ ပစ္စည်းများကို မြန်မြန်ရမည်၊ သို့သော် နည်းနည်းသာရမည်၊ ဟူသောအနေအထားနှင့် များများရမည်၊ သို့သော် အချိန်ကာလတစ်ခုတော့ စောင့်ရမည်ဟူသော အနေအထားတို့ကြား ညှိနှိုင်းရ ဖလှယ်ရအလျှော့အတင်းပြုရသော သဘောရှိသည် ဟူသောရှုမြင်ချက် ဖြစ်သည်။

ဘွန်–ဘောင်ဝပ်(ခ)က သည်အနေအထားနှစ်ခုကြား ရွေးချယ်မှုကို စီးပွားရေးကိစ္စတွင်ပါဝင်သူတို့၏ အချိန်နှင့်စပ်လျဉ်းသည့် ဆန္ဒစွဲရွေးချယ်မှု (subjective time preferences) ဟူ၍ သုံးနှုန်းပြောဆိုသည်။ စားသုံးသူတို့အနေနှင့် ကုန်ပစ္စည်းတစ်ခုကို ယခုလက်ငင်းရမှ ကျေနပ်မည်လား၊ သို့မဟုတ် အချိန်အတိုင်းအတာတစ်ခုထိ စောင့်ပါက သည့်ထက်ပိုရမည်ဆိုလျှင် လောလောဆယ် မသုံးစွဲဘဲ စောင့်ဆိုင်းနေမည်လား ဟူသည်ကို ရွေးချယ်ရတတ်သကဲ့သို့၊ လုပ်ငန်းရှင်များမှာလည်း ယခုလုပ်လက်စပုံစံဖြင့် ရရှိနေသည့် အကျိုးအမြတ်ကိုပဲ ဆက်ယူနေမည်လား၊ နောင် သည့်ထက်မက ပို၍ရနိုင်သည့် အလားအလာကို မျှော်ကာ လက်ရှိအကျိုးအမြတ်ကို ယာယီစွန့်လွှတ်လျက် လုပ်ငန်းအား သွယ်ဝိုက်ကုန်ထုတ်နည်းနာများဖြင့် အားဖြည့်သော အလုပ်ကို လုပ်မည်လား စဉ်းစားဆုံးဖြတ်ရသောသဘော ရှိပါသည်။

ယင်းသို့ အချိန်ဆိုင်းနိုင်ခြင်း မဆိုင်းနိုင်ခြင်းဟူသော ဆန္ဒစွဲရွေးချယ်မှုသဘောပေါ်တွင် အခြေခံကာပင် ဘွန်–ဘောင်ဝပ်(ခ)က သူ၏ အတိုးသီအိုရီ (theory of interest) ကို ဖော်စပ်ခဲ့ပါသည်။

ယင်းသို့ ဖော်စပ်ရာ၌ ဦးစွာပထမ ဘွန်–ဘောင်ဝပ်(ခ)က အတိုးနှင့်စပ်လျဉ်း၍ ယခင်ရှိနှင့်ခဲ့သည့် သီအိုရီများအားလုံးကို တစ်သီချကာ ခွဲခြမ်း

စိတ်ဖြာခြင်း ဝေဖန်သုံးသပ်ခြင်း ပြုပါသည်။ ယင်းသီအိုရီများထဲတွင် အတိုးဟူသည်ကို အရင်း၏ ထုတ်လုပ်နိုင်မှုစွမ်းအားပေါ်တွင် အခြေခံ၍ ရှင်းလင်းတင်ပြမှုမျိုး၊ အရင်းကို စားသုံးမှုမပြုဘဲ သည်းခံသိမ်းခဲ့ခြင်းအတွက် ရသင့်သောအရာဖြစ်သည် ဟူသောသုံးသပ်ချက်မျိုးများ ပါရှိသကဲ့သို့၊ အတိုးဟူသည် အမှန်စင်စစ်လုပ်သားတို့အား ခေါင်းပုံဖြတ်ခြင်းသာဖြစ်သည် ဟူသောရှုမြင်ချက်မျိုးလည်း ပါဝင်သည်။ ဘွန်-ဘောင်ဝဝ်(ခ)က သူ၏ အရင်းနှင့်အတိုး (Capital and Interest) အမည်ရှိ ကျမ်းအတွဲ (၁) (၁၈၈၄) တွင် အထက်က အယူအဆများ မှားယွင်းချွတ်ချော်ပုံ၊ ကျိုးကြောင်းဆီလျော်မှု မရှိပုံများကို ထောက်ပြဝေဖန်ထားသည်။ ၁၈၈၉ ခုနှစ်ထုတ် ၎င်းစာအုပ် အတွဲ (၂) တွင်မူ သူက အချိန်ပေါ်တွင် အခြေပြုသည့် သူ၏ အတိုးသီအိုရီကို တင်ပြခဲ့သည်။ ၎င်း၌ သူက အတိုးဟူသည် ရသင့်ရထိုက်သော အရာဖြစ်၍ အတိုးနှုန်းတို့သည်လည်း အပေါင်းလက္ခဏာဆောင်ရမည် (ဝါ) အကျိုးအမြတ် တစ်စုံတစ်ရာ ရှိစေရမည် ဖြစ်ကြောင်း ရှင်းလင်းပြောဆိုခဲ့သည်။

အစစ်အမှန်အတိုးနှုန်းများ အဘယ်ကြောင့် အပေါင်းလက္ခဏာဆောင်ဖို့လိုကြောင်း ရှေးယခင်က စီးပွားရေးပညာရှင်များလည်း ကြိုးစားရှင်းလင်းခဲ့ကြသည်။ သို့သော် မအောင်မြင်ခဲ့။

အတိုးနှုန်းကိစ္စကို စဉ်းစားသည့်နေရာ၌ အမည်ခံအတိုးနှုန်း (nominal interest rate) နှင့် အစစ်အမှန်အတိုးနှုန်း (real interest rate) ဟူ၍ ခွဲခြားစဉ်းစားဖို့လိုသည်။ အမည်ခံဟူသည်က တစ်ဦးနှင့်တစ်ဦး သဘောတူညီထားသည့်နှုန်းထား ဖြစ်သည်။ ဥပမာ၊ လူတစ်ယောက်က ဘဏ်မှ ငွေ ၁၀၀ ကို ၁၀ ရာခိုင်နှုန်း အတိုးဖြင့် တစ်နှစ်တာ ချေးငှားသည် ဆိုပါစို့။ နှစ်စတွင် ငွေ ၁၀၀ ယူပြီး နှစ်ဆုံးတွင် ငွေ ၁၁၀ ပြန်ပေးသည် ဖြစ်ရာ ဆပ်ငွေက ချေးငွေထက် ဂဏန်းအားဖြင့် ၁၀ ပိုသည်။ အဲသည် ၁၀(ရာခိုင်နှုန်း)သည် အမည်ခံအတိုး ဖြစ်သည်။ အစစ်အမှန်အတိုးနှုန်းကို အဲသည့်ဂဏန်းများသက်သက်ကို ကြည့်ပြီး ပြော၍မရ။ နှစ်စက ချေးလိုက်သည့် ငွေ ၁၀၀ ၏ ဝယ်နိုင်အား (purchasing power) နှင့် နှစ်ကုန်တွင်



ပြန်ရသည့် ငွေ ၁၁၀ ၏ ဝယ်နိုင်အားတို့ကို နှိုင်းယှဉ်ကြည့်ဖို့လိုသည်။ တစ်နှစ်အကြာ၌ အတိုး ၁၀ ရာခိုင်နှုန်း ရသည်ဆိုသော်လည်း ထိုနှစ်အတွင်း ကုန်ပစ္စည်းတို့၏ ဈေးနှုန်းက ၁၀ ရာခိုင်နှုန်း တက်မည် (ဝါ) ထိုနှစ်အတွင်း ငွေကြေးဖောင်းပွမှု ၁၀ ရာခိုင်နှုန်းရှိမည် ဆိုပါက ပြန်ရသော ၁၁၀ ၏ ဝယ်နိုင်အားသည် ချေးလိုက်သော ၁၀၀ ၏ ဝယ်နိုင်အားနှင့် အတူတူသာ ဖြစ်ရာ ငွေ ၁၀၀ ကို တစ်နှစ်လုံးလုံး ချေးထားပြီး အကျိုးအမြတ် လုံးဝ မခံစားရသောသဘော သက်ရောက်သည်။ တစ်နည်းဆိုရသော်၊ အမည်ခံအတိုး ၁၀ ရာခိုင်နှုန်းရသော်လည်း အစစ်အမှန်အတိုးက သုညသာ ဖြစ်သည်။

ထို့ကြောင့် အဓိပ္ပာယ်ဖွင့်သည့်သဘော ပြောရသော်၊ အစစ်အမှန်အတိုးနှုန်းဟူသည် အမည်ခံအတိုးနှုန်းမှ ငွေဖောင်းပွမှုနှုန်းကို နုတ်၍ရသောကိန်းဖြစ်သည် ဟုဆိုရပေမည်။

အစစ်အမှန်အတိုးနှုန်းနှင့်ပတ်သက်၍ ဘွန်-ဘောင်ဝဝ်(ခ)က အခြားအခြေခံတစ်မျိုးမှ ဖွင့်ဆိုပြသည်။ သူက အစစ်အမှန်အတိုးနှုန်း ဟူသည် စားသုံးသူအနေနှင့် လက်ငင်းစားသုံးခွင့်ရလိုမှုအတွက် အနာဂတ်တွင် စားသုံးခွင့်ရမည့် အထဲမှ စွန့်လွှတ်လိုက်ရသည့် အတိုင်းအတာပမာဏကို ဖော်ပြခြင်းဖြစ်သည် ဟုဆိုသည်။

ထို့နောက် ဘွန်-ဘောင်ဝဝ်(ခ)က အပေါင်းလက္ခဏာဆောင်သော အစစ်အမှန်အတိုးနှုန်းမျိုးသည် ရှိသင့်ရှိထိုက်ကြောင်း ရှုထောင့် ၃ မျိုးမှ ရှင်းလင်းသုံးသပ်ပြသည်။

ပထမက စီးပွားရေးဖွံ့ဖြိုးမှုရှုထောင့် ဖြစ်သည်။ လူတို့၏ ဝင်ငွေများသည် ကာလရွေ့လျားလာသည်နှင့်အမျှ တိုးတက်လာနေသော သဘောရှိရာ အနာဂတ်တွင် ပစ္စုပ္ပန်ထက် ပို၍ချမ်းသာလာစရာရှိသော လူများအနေနှင့် သည်ကနေ့ သုံးစွဲခွင့်ရမည့် ငွေတစ်ရာအတွက် နောက်တစ်နေ့တွင် တစ်ရာထက်မက ပြန်ပေးရမည်ဆိုလျှင်လည်း မပေးချင်စရာအကြောင်း မရှိဟု၍ သူ သုံးသပ်သည်။

ဒုတိယက အချိန်နှင့်စပ်လျဉ်းသည့် လူတို့၏ ဦးစားပေးရွေးချယ်မှုနှင့် သက်ဆိုင်သည်။ လူတို့၌ အနာဂတ်ထက် ပစ္စုပ္ပန်ကို ပို၍ အလေးထား တတ်သောသဘော (positive time preference) ရှိသည်ဟု ဘွန်–ဘောင်ဝပ်(ခ)က ဆိုသည်။ အနာဂတ်သည် မသေချာ။ ထို့ကြောင့် စားသုံးစရာရှိလျှင် ယခု စားသုံးချင်သည်။ နောင်တစ်ချိန်ကျလျှင် စားသုံးလိုသောဆန္ဒ ဆက်ရှိမှာ မရှိမှာ မသေချာ။ စားသုံးနိုင်သော အနေအထား ဆက်ရှိမရှိဆိုတာလည်း မသေချာ။ ကိုယ် ဘယ်နေ့သေမည်ဆိုတာလည်း ဘယ်သူမျှမသိ။ ထို့ကြောင့် ဖြစ်နိုင်မည်ဆိုလျှင် လတ်တလော စားသုံးချင်သည်။ ထို့ကြောင့် အနာဂတ်မှာ မိမိရရှိမည့် အရာကို သည့်ကနေ့ သူတစ်ပါးမှာ ရှိနေသည့် အရာနှင့် လဲ၍ရလျှင် လဲချင်သည်။ အဲသည် အတွက် တစ်ဘက်လူ ကျေနပ်အောင် လာဘ်ထိုးသောသဘောဖြင့် တစ်ခု တစ်ခု ပေးရမည်ဆိုလျှင်လည်း ပေးမည်။ အဲသည့်လာဘ်သည် အတိုး ဖြစ်သည် ဟူသောသဘော။

တတိယ။ သွယ်ဝိုက်ကုန်ထုတ်လုပ်မှု လုပ်ငန်းစဉ်တို့သည် ကုန် ပစ္စည်း ပိုမိုထွက်ရှိသော (ဝါ) အကျိုးကျေးဇူး ပိုမိုခံစားရသော အလုပ်များ ဖြစ်ရာ ယင်းတို့၌ ရင်းနှီးမြှုပ်နှံရန်အတွက် သူတစ်ပါးထံမှ ငွေချေးငှားသော သူသည် အပေါင်းလက္ခဏာဆောင်သော အစစ်အမှန်အတိုးမျိုးကို ပေးနိုင် သော အနေအထားရှိသည်။ ထိုအတိုးမျိုးပေးကာ ချေးငှားရန်လည်း ဝန်လေးစရာ အကြောင်းမရှိဟု ဘွန်–ဘောင်ဝပ်(ခ)က ပြောဆိုသည်။

အစစ်အမှန်အတိုးနှုန်းများ အဘယ်ကြောင့် အပေါင်းလက္ခဏာ ဆောင်ရမည်ဖြစ်ကြောင်း ယင်းသို့ ရှင်းလင်းတင်ပြပြီးသည့်နောက် တကယ် လက်တွေ့အနေအထားတွင် အတိုးနှုန်းများ သတ်မှတ်ဖြစ်ပေါ်ပုံအကြောင်း ကိုလည်း သူက ဆက်၍ရှင်းပြသည်။ သူ့ရှင်းလင်းချက်က ရောင်းလိုအား နှင့် ဝယ်လိုအားဆိုင်ရာ ပုံမှန်စိစစ်မှုမျိုးမှာပင် အခြေခံသည်။ ချေးငွေနှင့် စပ်လျဉ်းသည့် ရောင်းလိုအား ဝယ်လိုအား အနည်းအများ၊ တစ်နည်း ပြောရသော် ငွေထုတ်ချေးချင်သူတွေ၊ ၎င်းတို့ထုတ်ချေးချင်သော ငွေပမာဏ တွေက များနေသလား၊ သူများဆီက အတိုးပေးငွေချေးချင်သူတွေ၊ သူတို့



လိုချင်သော ငွေပမာဏတွေက များနေသလား ဟူသောအနေအထားများသာ ချေးငွေ၏ ဈေးနှုန်း (ဝါ) အတိုးနှုန်းကို သတ်မှတ်ပြဋ္ဌာန်းသည် ဟုဆိုလိုခြင်း ဖြစ်သည်။

သည့်ကဏ္ဍနှင့် စပ်လျဉ်း၍ ဘွန်–ဘောင်ဝပ်(ခ) တိုးချဲ့ဖြည့်ဆည်း ပြောဆိုခဲ့သည့် အပိုင်းက၊ ချေးငွေ ရောင်းလိုအား ဝယ်လိုအားတို့အပေါ် သွယ်ဝိုက်ကုန်ထုတ်လုပ်မှုများနှင့် စားသုံးသူတို့၏ အချိန်ဦးစားပေး ရွေးချယ်မှုများက အသီးသီး မည်သို့ သက်ရောက်လွှမ်းမိုးကြသည် ဟူသော အချက်နှင့် ပတ်သက်၍ ဖြစ်သည်။

ချေးငွေဝယ်လိုအားနှင့် စပ်လျဉ်း၍ ရှေ့ဘက်တွင် ဖော်ပြခဲ့သည့် အတိုင်း ဘွန်–ဘောင်ဝပ်(ခ) အမြင်၌ ကုန်ထုတ်လုပ်မှုဟူသည် ပစ္စည်းများ ကို ဤအသွင်မှ ထိုအသွင်သို့ ပြောင်းလဲခြင်းပင် ဖြစ်သည်။ သွယ်ဝိုက် ထုတ်လုပ်မှုဖြစ်စဉ်၌ ရောင်းကုန်ပစ္စည်းတစ်ခု ထုတ်လုပ်ရန်အတွက် ကြားအဆင့်များတွင် အခြားလိုအပ်သော ကုန်ပစ္စည်းအချို့ ဦးစွာရှိထားနှင့် ရသည်။ ယင်းအနက် အချို့ကို ငွေပေးဝယ်ရမည်ဖြစ်ပြီး အချို့ကိုမူ မိမိ ဘာသာပင် ထုတ်လုပ်ရမည်ဖြစ်ရာ သည်အတွက်လည်း လုပ်အားခနှင့် ကုန်ကြမ်းပစ္စည်းတန်ဖိုးများ ပေးဆောင်ရဦးမည်။ ထို့ကြောင့် သွယ်ဝိုက် ကုန်ထုတ်လုပ်မှုစနစ်များသည် နောင်တွင် အကျိုးရလဒ် ပိုမိုရရှိစေတာ မှန်သော်လည်း စတင်ချိန်၌မူ လုပ်ငန်းရှင်ထံမှ အရင်းအနှီးများစွာ ပို၍ တောင်းဆိုသောသဘော ရှိသည်။ လုပ်ငန်းအတွက် ကြားအဆင့်ပစ္စည်း ရည်မျှ များများစားစား စုစည်းသိုလှောင်ရန် လိုအပ်သလဲ၊ မိမိ၏ ရောင်းကုန် ပစ္စည်း ထွက်ရှိသည်အထိ မည်မျှကြာကြာ စောင့်ဆိုင်းရမည်လဲ ဟူသည့် အချက်များပေါ်တွင် မူတည်ကာ လုပ်ငန်းရှင်၌ ငွေလိုအပ်လာသည်၊ (ဝါ) လုပ်ငန်းရှင်တို့၏ 'ငွေဝယ်လိုအား (ချေးငှားလိုသောပမာဏ) (demand for money) ဖြစ်ပေါ်လာသည် ဟုဆိုရပေမည်။

ချေးငွေရောင်းလိုအား (supply of money) မှာမူ ငွေကြေး လက်ဝယ်ရှိသူတို့၏ အချိန်ကာလ ဦးစားပေးရွေးချယ်မှုများပေါ်တွင် မူတည် သည်ဟု ဘွန်–ဘောင်ဝပ်(ခ)က ဆိုသည်။ ငွေရှိသူက မိမိငွေကြေးနှင့်

လျော်ညီသော ကုန်ပစ္စည်းပမာဏတစ်ခုကို ယခု ရယူခံစားမည်လော နောင်တစ်ချိန် ရရှိမည့် ယင်းထက်ပိုမိုသော ပမာဏကို စောင့်ဆိုင်းမည်လော ဟူသောရွေးချယ်မှုမျိုး ဖြစ်သည်။ ရေရှည်အလားအလာကို မျှော်ကာ ထုတ်ချေးလိုသူတွေ များလျှင် ချေးငွေရောင်းလိုအား များသည်။ ထိုအခါ အတိုးနှုန်း ကျမည်။ အကယ်၍ ရေရှည်ကို သိပ်စိတ်မဝင်စား၊ သို့မဟုတ် စိတ်မချ၊ လတ်တလောက ပိုသေချာသည်ဟု ရှုမြင်သူတွေ များလျှင် ထုတ်ချေးလိုသူ နည်းမည်၊ ချေးငွေရောင်းလိုအား နည်းမည်။ သည်အခါ အထားမျိုးတွင် သွယ်ဝိုက်ကုန်ထုတ်လုပ်ရေးသမားများ အနေနှင့် လုပ်ငန်း အတွက် ရင်းနှီးမြှုပ်နှံလိုသော် ငွေရှင်တို့ထံ အစစ်အမှန်အတိုးနှုန်း များများ ကြီးပေးပြီး ချေးငှားရမည့်သဘော ရှိသည်။

အရင်းနှင့်အတိုးဆိုင်ရာ သူ၏ သီအိုရီများကို Capital and Interest ကျမ်းသုံးတွဲတွင် ရှင်းလင်းတင်ပြခဲ့ပြီးသည့် နောက်၌ ၎င်းအမြင် များကို ကိုင်စွဲလျက် ကားလ်မာ့က်(စ)၏ အယူအဆများကို သူ ဝေဖန် ချေဖျက်သည်။ ၁၈၉၆ ခုနှစ်ထုတ် ဘွန်–ဘောင်ဝပ်(ခ)၏ Karl Marx and the Close of His System စာအုပ်တွင် မာ့က်(စ) ပြောသကဲ့သို့ အလုပ်သမားများ ခေါင်းပုံဖြတ်ခံရသည် ဟူသောအချက်မှာ မမှန်ကန် ကြောင်း၊ အလုပ်သမားတိုင်းသည် သူ့ကာလ သူ့ဒေသအလျောက် တည်ရှိ နေသည့် လုပ်ခနှုန်းများကို ရကြခြင်း ဖြစ်ကြောင်း သူကဆိုသည်။ လုပ်သား များကြောင့် ဖြစ်ပေါ်သည့် ထွက်ရှိမှုပမာဏနှင့် ၎င်းတို့ရသော လုပ်အားခ ခြားနားချက်သည် ငွေကြေးစွန့်စားမြှုပ်နှံသူနှင့် သက်ဆိုင်သည့် လုပ်ငန်း အကျိုးအမြတ် (profit) ပင်ဖြစ်ကြောင်း၊ လုပ်သားများအနေနှင့် ၎င်းတို့ ထုတ်လုပ်သည့် ကုန်ပစ္စည်း၏ အနာဂတ်တန်ဖိုး (ဈေးကွက်သို့ ရောက်ရှိ သည့်အခါ ဖြစ်ပေါ်သည့် တန်ဖိုး) ကို အပြည့်အဝ မရရှိတာလည်း သဘာဝ ကျကြောင်း၊ အကြောင်းမှု လုပ်ငန်းရှင်အနေနှင့် လုပ်ငန်းစချိန်မှသည် ထုတ်ကုန်ပစ္စည်း ရောင်းချရသည်အထိ ကြာမြင့်သော ကာလတစ်လျှောက် လုံးအတွက် ရင်းနှီးငွေပေါ်တွင် ကျသင့်သည့် အတိုးကိုပါ ပေးနေရသော ကြောင့် ဖြစ်ကြောင်း၊ ထို့ကြောင့် ကုန်ပစ္စည်းများ ပိုမိုထွက်ရှိစေမည့် ပို



သွယ်ဝိုက်သော ကုန်ထုတ်လုပ်မှု စနစ်များအတွက် ငွေကြေးအရင်းအနှီး ရှာဖွေစုစည်းလုပ်ကိုင်သည့် လုပ်ငန်းရှင်အနေနှင့် လုပ်ငန်းမှ ထွက်ရှိလာ သည့် အကျိုးအမြတ်ဟူသည်ကို သူ့အားထုတ်မှုအတွက် ဆုလာဘ်အဖြစ် ခံစားမည်ဆိုက ခံစားထိုက်သည်သာဖြစ်ကြောင်း သူက ချေပပြောဆို ခဲ့သည်။

❖

သည်ဘက်ခေတ် ဩဇာကြီးမားသော စီးပွားရေးတွေးခေါ်ရှင်တစ်ဦး ဖြစ်သူ ဂျိုးဇက်ရှွမ်းပေတာ (Joseph Schumpeter 1883-1950) က ဘွန်–ဘောင်ဝပ်(ခ)အား ခေတ်အဆက်ဆက် ပေါ်ပေါက်ခဲ့သမျှ စီးပွားရေး တွေးခေါ်ရှင်များအနက် ထိပ်တန်း ၅ ဦး ၆ ဦးလောက် စာရင်းတွင် ထည့်သွင်းရမည့် ပုဂ္ဂိုလ်ဖြစ်သည် ဟုဆိုခဲ့သည်။ သို့သော် ရှွမ်းပေတာမှာ တက္ကသိုလ်၌ ဘွန်–ဘောင်ဝပ်(ခ)၏ တပည့်တစ်ဦးဖြစ်ခဲ့ရာ ပုဂ္ဂိုလ်စွဲ အနည်းနှင့်အများ ပါလိမ့်မည် ဟုယူဆရသည်။ အခြားပညာရှင် အများစု ကမူ သူ့အား ထိုမျှအထိ ကြီးကျယ်သည်ဟု မယူဆကြပါ။ မည်သို့ပင် ဖြစ်စေ အထက်တွင် ဖော်ပြခဲ့သည့် သူ၏ စီးပွားရေးသီအိုရီများ၊ အထူး သဖြင့်မူ ကုန်ထုတ်လုပ်မှုဖြစ်စဉ်တွင် လည်းကောင်း၊ အရင်းနှင့်အတိုး အကြောင်း စဉ်းစားသုံးသပ်ရာ၌ လည်းကောင်း အချိန်၏ အရေးပါမှုကို ရှင်းလင်းဖော်ထုတ်ပြသခဲ့ခြင်းများအတွက် သူ့အား လေးစားသိမှတ်ကြရဆဲ ဖြစ်ပါသည်။

# ကနွတ်ဝစ်(က)ဆဲလ်
## (၁၈၅၁ - ၁၉၂၆)



သူ့သက်တမ်း တစ်လျှောက်လုံးပင် ကနွတ်ဝစ်(က)ဆဲလ် (Knut Wicksell) က အလွန် အငြင်းပွားရသော ပုဂ္ဂိုလ်တစ်ယောက် ဖြစ်ခဲ့သည်။ မျိုးသမီးတစ်ယောက်နှင့် တစ်အိုးတစ်အိမ် ထူထောင်၍ နေသော်လည်း၊ အရေးပုံဆိုကာ တရားဝင်လက်ထပ်ခြင်း မပြုခဲ့။ ဘာသာရေးယုံကြည်မှု တစ်ခုဖြစ်သော၊ အပျိုစင်မိခင်၏ စင်ကြယ်သောပဋိသန္ဓေ (Immaculate Conception) ဟူသည်ကို ဟောပြောပွဲတစ်ခုတွင် သရော်လှောင်ပြောင် ပြောဆိုသဖြင့် ထောင်နှစ်လ ပြစ်ဒဏ်ချခြင်း ခံရဖူးသည်။ ထို့ပြင်၊ သားကျိုးမိန်းမ တန်းတူညီမျှခွင့်၊ ပဋိသန္ဓေ ထိန်းချုပ်ခွင့်၊ အရွယ်ရောက် ဆုတိုင်း မဲပေးခွင့် စသည်တို့နှင့်စပ်လျဉ်း၍ ဆွဲဒင်ပြည်တွင် ၎င်းအယူအဆ များ ခေတ်မစားသေးမီ အလွန်စောစီးစွာကတည်းက သူ လှုံ့ဆော်ပြောကြား ခဲ့သည်။

စီးပွားရေးရာ၌လည်း ဝစ်(က)ဆဲလ်၏ အမြင်များမှာ အခြား သူများနှင့် ကွဲလွဲကာ အတော်ပင် အငြင်းပွားရသောသဘော ရှိခဲ့သည်။

သူက ခွဲဝေမှုဆိုင်ရာ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီ (marginal productivity theory of distribution) ကို ကနဦး ဖော်ထုတ်ခဲ့သူ

တစ်ဦး ဖြစ်သည်။ သို့သော် သည်သီအိုရီကို အခြေခံကာ သူ စဉ်းစား ကောက်ယူခဲ့သည့် အချက်များက သည်သီအိုရီကိုပင် ကိုင်စွဲသည့် အခြား ပုဂ္ဂိုလ်များနှင့် လုံးဝ ဆန့်ကျင်ကွဲလွဲခဲ့သည်။ သူက စီးပွားရေးလောကတွင် အစိုးရက ထိထိရောက်ရောက် ပါဝင်ပတ်သက်သင့်သည် ဟုမြင်သည်။ မည်သို့မည်ပုံ ဝင်ရောက်စီမံခန့်ခွဲသင့်သည်ဟူသော မူဝါဒများလည်း သူ တင်ပြသည်။ သူနှင့်ခေတ်ပြိုင် အခြားပညာရှင်များ လုံးဝလက်မခံကြသော် လည်း သူကမူ သင့်တင့်လျောက်ပတ်သော စီးပွားရေးပေါ်လစီများအားဖြင့် ကြပ်မတ်မှု မပြုပါက ငွေကြေးဖောင်းပွမှု (inflation) နှင့် အလုပ်လက်မဲ့ (unemployment) ပြဿနာတို့သည် အချိန် အကန့်အသတ် မရှိ ဆက်လက်တည်ရှိနေလိမ့်မည် ဟုယုံကြည်ခဲ့သည်။

❖

ဝစ်(က)ဆဲလ်ကို ဆွီဒင်ပြည် စတော့ဟုမ်းမြို့တွင် ၁၈၅၁ ခုနှစ်က မွေးသည်။ မိဘများမှာ လူလတ်တန်းစားများ ဖြစ်သည်။ မိခင်က သူ ခြောက်နှစ်သားအရွယ်တွင်လည်းကောင်း၊ ဖခင်က သူ့အသက် ၁၅ နှစ်ခန့် တွင်လည်းကောင်း ကွယ်လွန်ရာ၊ ဦးလေးနှင့်အဒေါ်တို့၏ အုပ်ထိန်းမှု အောက်တွင် ကြီးပြင်းရသည်။ သို့သော် မိဘအမွေအနှစ် ကျန်ရစ်သဖြင့် ပညာကို ကောင်းစွာသင်ကြားခွင့်ရသည်။ ငယ်စဉ်က သင်္ချာနှင့် သဘာဝ သိပ္ပံဘာသာရပ်များတွင် စိတ်ဝင်စားသည်။ ၁၈၆၉ ခုနှစ်တွင် ဆွီဒင်ရှိ နာမည်ကျော် အပ္ပဆာလာတက္ကသိုလ်သို့ တက်ရောက်သည်။ တက္ကသိုလ် ဝင်စ သူ၏ ရည်မှန်းချက်က ပါရဂူဘွဲ့ရရန်နှင့် သင်္ချာပါမောက္ခအဖြစ် တာဝန်ထမ်းဆောင်ခွင့် ရရှိရန် ဖြစ်သည်။ သို့သော် သူ့ပညာရေးက တစ်ဖြောင့်တည်း မသွား၊ ရှည်လျားထွေပြားခဲ့သည်။ ကဗျာလင်္ကာကို သူ စိတ်ဝင်စားသွားသည်။ အမျိုးသမီးများ၌ ယောကျ်ားများနှင့် တန်းတူညီမျှ အခွင့်အရေး ရသင့်သည်ဟူ၍ သူ ယုံကြည်ခဲ့သည်။ ထို့ပြင် အခြား နိုင်ငံရေးရာကိစ္စများတွင်လည်း သူ ပါဝင်ပတ်သက်ခဲ့သည်။



၁၈၇၈ ခုနှစ်တွင် ကဗျာ ၂၅ ပုဒ် ပါဝင်သည့် သူ၏ ကဗျာစာအုပ် တစ်အုပ် ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သည်။ ၁၈၈၀ ကျော် နှစ်များအတွင်းမှ သူသည် ခေတ်သစ်မဲလ်သပ်(စ)ဝါဒီ (neo-Malthusian) တစ်ဦး ဖြစ်လာပြီး လူဦးရေသဘောတရားဆရာ မဲလ်သပ်(စ) (T. R. Malthus) ၏ အယူအဆများကို အခြေခံကာ၊ လူဦးရေ အလွန်အမင်းတိုးပွားခြင်း၏ အန္တရာယ်များ အကြောင်းကို ဆွီဒင်ပြည်အနှံ့အပြား လှည့်လည်ဟောကြား သည်။ လူဦးရေတိုးတက်မှုကို ထိန်းချုပ်နိုင်ရန်အတွက် ပဋိသန္ဓေ တားဆီးသော နည်းလမ်းများကို အများသူငါတို့ ကျင့်သုံးလိုက်နာကြရန် အကြံပေးသည်။ သည်ကိစ္စများဘက်တွင် အချိန်ပေးနေခဲ့သဖြင့် ပညာရေး နောင့်နှေးကာ သူ မူလ မျှော်မှန်းခဲ့သည့် သင်္ချာပါရဂူဘွဲ့ကို တက္ကသိုလ် ရောက်ပြီး ၁၅ နှစ်ခန့်အကြာ ၁၈၈၅ ခုနှစ်တွင်မှ ရရှိသည်။

သို့သော် သည်အချိန်၌ သူ၏စိတ်ဝင်စားမှုများက ပြောင်းလဲခဲ့ပြီ ဖြစ်သည်။ သူက သင်္ချာထက် စီးပွားရေးပညာကို လည်းကောင်း၊ လူမှု ပြုပြင်ရေး အတွေးအခေါ်များကို လည်းကောင်း ပို၍ အာရုံစိုက်မိနေသည်။ သို့နှင့်၊ ဗြိတိသျှ ပြတိုက်စာကြည့်တိုက်ကြီးတွင် ဂန္ထဝင်စီးပွားရေးပညာကျမ်း များကို ပြည့်ပြည့်ဝဝ လေ့လာဖတ်ရှုရန် ရည်ရွယ်၍ လန်ဒန်မြို့သို့ သွားရောက်ခဲ့သည်။ ထို့နောက်တွင် စီးပွားရေးပညာဆိုင်ရာ စာအုပ်စာတမ်း များ ရေးသားမည်၊ တက္ကသိုလ်၌ စီးပွားရေးပညာ သင်ကြားပို့ချမည် ဟူသောစိတ်ကူးဖြင့် ဆွီဒင်သို့ပြန်လာသည်။ သို့သော်၊ ထိုစဉ်က ဆွီဒင် တက္ကသိုလ်များတွင် စီးပွားရေးပညာကို ဥပဒေပညာမဟာဌာနက တာဝန်ယူ သင်ကြားလျက်ရှိရာ၊ စီးပွားရေးပညာသင်မည့် ဆရာသည် ဥပဒေဆိုင်ရာ အခြေခံဘွဲ့တစ်ခုတော့ ရရမည် ဟူသောသတ်မှတ်ချက် ရှိနေသည်။ သို့နှင့် ဥပဒေပညာဘွဲ့တစ်ခုရအောင် အပြေးအလွှား သင်ယူရသည်။ ဥပဒေဘွဲ့ကို ၂ နှစ်မပြည့်မီ သူရရှိသည်။ သို့သော် အဲသည့်အချိန်၌ သူ့အသက် ၄၈ နှစ် ရှိပြီ။ ၁၈၉၉ တွင် အပ္ပဆာလာတက္ကသိုလ်၌ နိုင်ငံရေးဘောဂဗေဒနှင့် ဥပဒေ ပညာကထိကအဖြစ် ခန့်အပ်ခြင်းခံရပြီး၊ ၁၉၀၀ ပြည့်နှစ်တွင် လွန်း(ဒ) (Lund) တက္ကသိုလ်၌ အချိန်ပိုင်းပါမောက္ခ၊ ထို့နောက်တွင် အချိန်ပြည့်

ပါမောက္ခ ဖြစ်လာသည်။ သို့သော် သူ၏ ဘဏ္ဍာသိုလ်ဆရာဘဝက အခြားသူများနှင့် နိုင်းစာသော် တိုတောင်းလှသည်။ ၁၉၁၆ ခုနှစ်တွင် အငြိမ်းစား ယူလိုက်ရသောကြောင့် ဖြစ်သည်။

❖

စီးပွားရေးပညာ နယ်ပယ်သို့ ဝစ်(က)ဆဲလ်၏ ဖြည့်ဆည်းမှုများ အထင်အရှား ရှိခဲ့သည်။ အဓိကမှာ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီ (marginal productivity theory)၊ ငွေကြေးသီအိုရီ (monetary theory)နှင့် ပြည်သူ့ဘဏ္ဍာရေး (public finance) ကဏ္ဍာရပ်များနှင့် ပတ်သက်သည်။

ဝစ်(က)ဆဲလ်နှင့် ဗြိတိသျှစီးပွားရေးတွေးခေါ်ရှင် တစ်ဦးဖြစ်သူ ဖိလစ်ဝစ်(က)စတိ(ဒ) (Philip Wicksteed) တို့သည် အစွန်းထွက်ထုတ်လုပ်မှုသီအိုရီနှင့် စပ်လျဉ်းသည့် စုပေါင်းခြင်းပြဿနာ (adding up problem) သို့မဟုတ် ထွက်ကုန်မစေ့ခြင်းပြဿနာ (product exhaustion problem) ဟူသည်ကို တစ်ဦးချင်း သီးခြားစီ အဖြေတွေ့ရှိခဲ့ကြသည်။ ဤပြဿနာက၊ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီသည် မည်သည့်အခါမျိုးတွင် လုပ်ငန်းတစ်ခု၏ ကုန်ထွက်အားလုံးကို ခွဲဝေပေးနိုင်သနည်း ဟူသောအချက်နှင့် သက်ဆိုင်သည်။ အစပိုင်းတွင် ဆိုခဲ့သည့်အတိုင်း ဝစ်(က)ဆဲလ်သည် ခွဲဝေမှုဆိုင်ရာ အစွန်းထွက်ထုတ်လုပ်မှုသီအိုရီကို စောစောပိုင်းကတည်းက လက်ခံကိုင်စွဲခဲ့သည့်ပုဂ္ဂိုလ် ဖြစ်သည်။ ၎င်းသီအိုရီ အလိုအရ လူတစ်ဦးချင်းတို့၏ ဝင်ငွေသည် လုပ်ငန်း၏ ဝင်ငွေစုစုပေါင်းထဲရှိ ၎င်း၏ အစွန်းထွက် ဖြည့်ဆည်းပါဝင်မှု အတိုင်းအဆပေါ်တွင် မူတည်သည် ဟူ၍ဖြစ်သည်။ သို့သော် ဤသို့ဆိုရာ၌ မဖြေရှင်းနိုင်သည့် အမေးပုစ္ဆာတစ်ခု တန်းလန်းကျန်ရစ်သည်။ ယင်းက၊ အစွန်းထွက်ထုတ်လုပ်မှုစွမ်းအားများ အားလုံးပေါင်းလဒ်၊ တစ်နည်းအားဖြင့် တစ်ဦးချင်းဝင်ငွေ အားလုံးပေါင်းလဒ်သည် လုပ်ငန်း၏ ထုတ်လုပ်မှုတန်ဖိုး စုစုပေါင်းနှင့် တူညီသလား မတူညီဘူးလား ဟူသောအချက် ဖြစ်သည်။



ဝစ်(က)ဆဲလ်ကတော့ ဤအချက်သည် စကေးလိုက်အထွက် (returns to scale) ပေါ်၌ မူတည်သည် ဟုဆိုသည်။ အဓိပ္ပာယ်က အသွင်းပိုင်းတွင် မည်မျှတိုးမြှင့်ပေးသော် အထွက်၌ မည်မျှတိုးသနည်း ဟူသောအချက်ပင် ဖြစ်သည်။ ဥပမာတစ်ခု ပြရသော်၊ ပြောင်းချည်းသက်သက် စိုက်ပျိုးသည့် စိုက်ခင်းတစ်ခု၌ စိုက်ဧကကို နှစ်ဆတိုးသည့်အခါ ပြောင်းအထွက်ကလည်း နှစ်ဆတိတိပင်တိုးသည် ဆိုပါစို့။ ပြောင်းအထွက်နှုန်းသည် ပုံမှန်ဖြစ်သည်၊ (ဝါ) ပုံသေစကေးကိုက် အထွက်နှုန်း (constant returns to scale) ရှိသည် ဟုခေါ်သည်။ ၎င်းဥပမာ၌ပင်၊ အကယ်၍ စိုက်ဧကကို နှစ်ဆတိုးသော်လည်း ပြောင်းအထွက်က နှစ်ဆပြည့်အောင် မတိုးပါက အထွက်နှုန်းသည် စကေးကိုက်ထက် လျော့သည် (decreasing returns to scale) ဟုဆိုပြီး၊ စိုက်ဧက နှစ်ဆတိုးချိန်တွင် အထွက်နှုန်း နှစ်ဆထက်ပိုပါက စကေးကိုက်ထက် ပိုသည် (increasing returns to scale) ဟုဆိုပါသည်။

ဤတွင် ဝစ်(က)ဆဲလ်က၊ လုပ်ငန်းတစ်ခု၌ ပုံသေစကေးကိုက် အထွက်မျိုး ရှိသည့်အခါမှသာ အစွန်းထွက် ထုတ်လုပ်မှု အားလုံးပေါင်းလဒ်သည် အထွက်ပစ္စည်းတန်ဖိုးနှင့် တူညီကြောင်း၊ ယင်းသို့မဟုတ်ဘဲ၊ စကေးကိုက်ထက် ပိုထွက်မည်ဆိုလျှင် အစွန်းထွက်ပေးချေမှု အစုစုပေါင်းလဒ်သည် အထွက်တန်ဖိုးထက် ပိုနေမည်ဖြစ်ပြီး၊ စကေးကိုက်ထက် လျော့ထွက်မည်ဆိုလျှင် မူအစွန်းထွက်ပေးချေမှု အစုစုပေါင်းလဒ်သည် အထွက်တန်ဖိုး စုစုပေါင်းထက် လျော့နေမည်ဖြစ်ကြောင်း ပြောဆိုသည်။

ဆက်လက်၍ ဝစ်(က)ဆဲလ်က၊ လုပ်ငန်းလောကအတွင်း ပြိုင်ဆိုင်မှု ရှိနေသည့် အချက်က လုပ်ငန်းများအား အနေတော်အရွယ်အစား (optimal size) ၌ လည်ပတ်လုပ်ကိုင်ဖြစ်အောင် တွန်းပို့ကြောင်း၊ ထိုအနေတော်အရွယ်အစား ဟူသည်ကား စကေးကိုက်အထွက်နှုန်း ရရှိနေသည့် အနေအထားပင်ဖြစ်ကြောင်း သူက ရှင်းပြသည်။ သူက လုပ်ငန်းများသည် U – ပုံသဏ္ဌာန် ကုန်ကျစရိတ် မျဉ်းကွေးကို ရင်ဆိုင်ရမှုပ်ရှား ရကြောင်း၊ အဓိပ္ပာယ်က၊ ပုံမှန်လုပ်ငန်းတစ်ရပ်အနေနှင့် အစတွင် ကုန်ထွက်

(output) တက်လာသည်နှင့်အမျှ ကုန်ကျစရိတ်က အချိုးအစားအ[...] ကျသွားကြောင်း၊ နောက်တွင် ဆက်မကျတော့ဘဲ ကုန်ကျစရိတ်သည် အတန်ကြာမျှ တစ်ပြေးညီအနေအထားတွင် ရှိနေပြီး၊ ၎င်းနောက်၌မူ ပြန်၍ မြင့်တက်လာကြောင်း ပြောဆိုသည်။ ယင်းသို့တက်ရသည့်အကြောင်းက လုပ်ငန်းတစ်ခု ဖွံ့ဖြိုးစကာလတွင် လုပ်ငန်းသမားသည် စကေးကိုက်ထက် ပိုသော အကျိုးကျေးဇူးကို ခံစားရသောကြောင့် ဖြစ်သည်။ ဥပမာ၊ ပြောင်းစိုက်သော လယ်သမားပဲ ဆိုပါစို့။ စိုက်ဧက အတန်အသင့် တိုးသော်လည်း ရှိရင်းစွဲထွန်စက်နှင့်ပင် ထွန်နိုင်၏။ ထွက်လာသော ပြောင်းကိုလည်း နဂိုရှိသော ကျီထဲမှာပင် ထည့်၍ဆံ့သေး၏။ အသွင်းပိုင်း (ကုန်ကျစရိတ်ပိုင်း) တွင် များများတိုးစရာ မလိုဘဲ အထွက်ပိုင်း (ထုတ်လုပ်မှုအပိုင်း) ကို သိသိသာသာ တိုးမြှင့်နိုင်သော သဘော ဖြစ်၏။ သို့သော် အတိုင်းအတာတစ်ခု ရောက်သောအခါ၌မူ စကေးကိုက်ထက် ပိုခံစားခွင့်ရနေသော အနေအထား ကုန်ဆုံးကာ အသွင်းနှင့်အထုတ် မျှသော (ဝါ) စကေးမှန်အနေအထားမျိုးသို့ ရပ်တည်လာရတော့မည် ဖြစ်သည်။ သည့်ထက်လွန်သော် တိုးချဲ့လာသော စိုက်ဧကကို ထွန်ယက်ရန်အတွက် လယ်ထွန်စက်အသစ်တစ်လုံး ဝယ်ဖို့ လိုအပ်လာမည်။ ကျီကိုလည်း တိုးချဲ့ရမည်။ ထိုအခါ အရင်းစိုက်ထုတ်ရမှု ပိုလာမည်။ သည်အထဲတွင်မှ တိုးချဲ့သည့် စိုက်ဧကက စောစောကလို မြေကောင်းချည်းမရ၊ နည်းနည်းညံ့သော မြေကိုပါ သုံးရမည်ဆိုလျှင် အထွက်က နည်းဦးမည်။ ပြီး၊ မြေယာ ပို၍ကျယ်ဝန်းလာသည့်အခါ စီမံခန့်ခွဲရေးအပိုင်း၌လည်း မနိုင်နင်းခြင်း သို့မဟုတ် စရိတ်စက ပိုမို ကုန်ကျခြင်းများ ရှိလာမည်။ ထိုအခါ အထွက်ပိုင်းတွင် စကေးကိုက်ထက် လျော့နည်းသော အနေအထားမျိုး ကြုံလာရပေမည်။

စီးပွားရေးလောကတွင် ပြိုင်ဆိုင်မှု ရှိခြင်းကြောင့် လုပ်ငန်းသမားတို့အနေနှင့် ကုန်ထုတ်လုပ်မှုကို တွက်ခြေအကိုက်ဆုံး အနေအထားတွင်သာ လုပ်ကိုင်ကြရသည်။ ယင်းကား၊ ပျမ်းမျှကုန်ကျစရိတ် အနည်းဆုံး အနေအထား (ဝါ) စကေးကိုက်အထွက်နှုန်းမျိုးရှိသည့် အနေအထားပင် ဖြစ်သည်။ သည်အနေအထားမျိုးတွင် လုပ်ကိုင်နိုင်ခြင်း မရှိသော လုပ်ငန်း



တစ်ခုသည် စရိတ်အသက်သာဆုံး လုပ်နေသည့် အခြားလုပ်ငန်းများက တွန်းထုတ်သဖြင့် လုပ်ငန်းလောကမှ ထွက်ခွာသွားရပေလိမ့်မည်။ ပြိုင်ဆိုင်မှုက လုပ်ငန်းတို့အား အသွင်းအထုတ်မျှသည့် အနေအထားတွင် ထိန်းပေးထားသည့်သဘော ဖြစ်သည်။ သည်အနေအထားတွင် ထုတ်လုပ်မှုအင်အားစုများအားလုံးသို့ ပေးသည့် အစွန်းထွက်ထွက်ကုန် စုစုပေါင်းသည် ၎င်းအင်အားစုများက ထုတ်လုပ်သည့် ထုတ်ကုန်တန်ဖိုးစုစုပေါင်းနှင့် တူညီသည်။ သည်အခါ ဝင်ငွေအားလုံးကို မည်သို့ခွဲဝေနိုင်ကြောင်း အစွန်းထွက်ထုတ်လုပ်မှုသီအိုရီက ရှင်းလင်းပေးနိုင်မည် ဖြစ်သည်ဟု ဝစ်(က)ဆဲလ်က ဆိုခဲ့သည်။

❖

စီးပွားရေးပညာသို့ ဝစ်(က)ဆဲလ်၏ ဒုတိယ ဖြည့်ဆည်းချက်တစ်ခုက ငွေကြေးသီအိုရီနှင့် ပတ်သက်သည်။

ဝစ်(က)ဆဲလ်တို့ခေတ်က ငွေကြေးသီအိုရီဟူသည် အဓိကအားဖြင့် ဈေးနှုန်း (price) များအပေါ် ငွေကြေး (money) ၏ သက်ရောက်ပုံအကြောင်းကို လေ့လာခြင်းသာ ဖြစ်ခဲ့သည်။ ငွေ သို့မဟုတ် အတိုးနှုန်းက တကယ့်စီးပွားရေး အပေါ်တွင်၊ တစ်နည်းအားဖြင့် ကုန်ထုတ်လုပ်မှု အလုပ်အကိုင်ရရှိမှု တို့အပေါ်တွင် မည်သို့သက်ရောက်သနည်း ဟူသည့် အချက်များကို စူးစမ်းလေ့မရှိကြ။ ဝစ်(က)ဆဲလ်က အတိုးနှုန်း အတက်အကျသည် စီးပွားရေးအနေအထားများပေါ်တွင် သက်ရောက်ကြောင်း ထောက်ပြပြောဆိုခြင်းဖြင့် ငွေကြေးသီအိုရီကို ပြောင်းလဲစေခဲ့သည်။

ဝစ်(က)ဆဲလ်က ငွေရင်းပေါ်တွင် သဘာဝကျသော အကျိုးခံစားခွင့် သို့မဟုတ် သဘာဝအတိုးနှုန်း (natural rate of interest) တစ်ခု ရှိသည် ဟုယူဆသည်။ ထိုသဘာဝနှုန်းသည် အသစ် တည်ထောင်လိုက်သော စက်ရုံအလုပ်ရုံ သို့မဟုတ် လုပ်ငန်းသုံးပစ္စည်း တစ်စုံတစ်ရာအတွက် ရရှိသည့် အကျိုးအမြတ်နှုန်းထား ဖြစ်သည်ဟု သူမြင်သည်။ အကယ်၍

အသစ် တီထွင်ဖန်တီးမှုများ၊ ထုတ်လုပ်မှုဆိုင်ရာ နည်းပညာ တိုးတက်မှုများ ရှိခဲ့လျှင် သဘာဝအတိုးနှုန်းသည် ပို၍တိုးမြင့်ကာ၊ ရင်းနှီးမြှုပ်နှံမှုမှ အကျိုးအမြတ် များများ ရရှိနိုင်သည်။

သဘာဝအတိုးနှုန်းနှင့် မတူဘဲ၊ ဈေးကွက်အတိုးနှုန်း (rate of interest) နှုန်းမှာမူ ဘဏ်လုပ်ငန်းရှင်တို့က ငွေချေးသူများထံမှ သတ်မှတ်တောင်းဆိုသော နှုန်းထားဖြစ်ပြီး၊ နှုန်းထားအနည်းအများကို ဘဏ်စနစ်က အဆုံးအဖြတ် ပြုပေသည်။

လုပ်ငန်းလုပ်မည့်သူများ အနေနှင့် အတိုးနှုန်းတို့၏ အနေအထားကိုကြည့်ကာ၊ အကယ်၍ သဘာဝအတိုးနှုန်းသည် ဈေးကွက်အတိုးနှုန်းထက် မြင့်နေမည် (သဘာဝအတိုးနှုန်းထက် သက်သာသောနှုန်းထားဖြင့် ငွေချေး၍ရနိုင်မည်) ဆိုက လုပ်ငန်းတွင် ရင်းနှီးမြှုပ်နှံရန်အတွက် ငွေချေးငှားလိုကြမည် ဖြစ်သည်။ အကြောင်းက၊ ရင်းနှီးမြှုပ်နှံမှုမှ သဘာဝနှုန်းထားအတိုင်း ထွက်ပေါ်မည့် အကျိုးအမြတ်သည် ချေးငွေအပေါ် ဈေးကွက်နှုန်းထားအတိုင်း ပေးရမည့် စရိတ်စက (အတိုး) ထက် ပိုမို နေနိုင်သောကြောင့် ဖြစ်သည်။

ထို့ပြင်၊ ဝစ်(က)ဆဲလ်က လုပ်ငန်းများတွင် ရင်းနှီးမြှုပ်နှံသောငွေပမာဏသည် စုငွေပမာဏထက် ပိုနိုင်ကြောင်း၊ အကြောင်းက လုပ်ငန်းများအတွက် ငွေပင်ငွေရင်း စိုက်ထုတ်မှုကို စုငွေဖြင့် မဟုတ်ဘဲ ချေးငွေ (အကြွေး)ဖြင့် ပြုလုပ်ခြင်းကြောင့် ဖြစ်ကြောင်း၊ [ဘဏ်မှထုတ်ပေးသည့် ချေးငွေ (loan) ဖြင့်ပင် ဘဏ်တွင် အပ်ငွေ (deposit) စာရင်းဖွင့်ပြီး အလုပ်လုပ်ကြခြင်းကြောင့် ဖြစ်ကြောင်း၊] သူကရှင်းပြသည်။

ၚင်းအနေအထားမျိုးတွင် ဖြစ်ပေါ်သည့် စီးပွားရေး ကျယ်ပြန့်မှု (economic expansion) သည် ထပ်ဆင့်တိုးပွားနိုင်သောသဘော၊ မိမိဘာသာ ဆက်လက်တည်တံ့စေနိုင်သော သဘောရှိကြောင်း သူကဆိုသည်။ အကြောင်းက၊ ရင်းနှီးမြှုပ်နှံမှုအပိုင်းတွင် ဝယ်လိုအား တိုးတက်နေသည့်အခါ လုပ်သားများအား စားသုံးကုန် (consumer goods) ထုတ်လုပ်သည့် လုပ်ငန်းစုများမှနေ၍ ရင်းနှီးကုန် (investment goods) ထုတ်လုပ်သည့်



လုပ်ငန်းစုများသို့ ရွေ့ပြောင်းမှု ဖြစ်ပေါ်သည်။ စားသုံးကုန် လျော့နည်းသွားသည့်အခါ စားသုံးကုန်ဈေးနှုန်းများ မြင့်တက်လာသည်။ သည်အခါ စားသုံးကုန်ထုတ်လုပ်သူများ အကျိုးအမြတ် ပိုမိုရရှိကြသဖြင့် လုပ်ငန်းတိုးချဲ့ချင်ကြသည်၊ (ဝါ) ပို၍ ရင်းနှီးမြှုပ်နှံချင်လာသည်။ ဤသို့ဖြင့်၊ ရင်းနှီးမြှုပ်နှံမှု တိုးချဲ့ခြင်းနှင့် စားသုံးကုန်ပစ္စည်းများ ဈေးနှုန်းတိုးမြင့်ခြင်း ဖြစ်စဉ်သည် လျော့နည်းသွားခြင်း မရှိဘဲ ဆက်လက် ဖြစ်ပေါ်နေလိမ့်မည်။ မည်သည့်အချက်ကမှလည်း ၎င်းဖြစ်စဉ်ကို နှေးကွေးသွားစေလိမ့်မည် မဟုတ်ဟု ဝစ်(က)ဆဲလ်က သုံးသပ်သည်။

အထက်ကနှင့် ဆန့်ကျင်လျက်၊ အကယ်၍ သဘာဝနှုန်းက ဈေးကွက်နှုန်းထက် လျော့ကျနေမည်ဆိုလျှင်မူ လုပ်ငန်းသမားတို့ ရင်းနှီးမြှုပ်နှံလိုသော ဆန္ဒ နည်းပါးကြလိမ့်မည် ဖြစ်သည်။ အကြောင်းက၊ ငွေချေးငှားပြီး လုပ်ငန်းကို တိုးချဲ့မည်ဆိုလျှင် ချေးငွေအတွက် ပေးရမည့် ဈေးကွက်အတိုးနှုန်းက ရင်းနှီးငွေမှရမည့် အမြတ်အစွန်း (ဝါ) ၎င်းငွေပေါ်တွင် တိုးပွားလာမည့် သဘာဝအတိုးနှုန်းထက် ပိုနေသောကြောင့် ဖြစ်သည်။ ထို့ကြောင့်၊ ရလဒ်အနေဖြင့် လုပ်ငန်းများ ထုတ်လုပ်မှု ကျဆင်းကာ အလုပ်လက်မဲ့များလည်း တိုးပွားလာမည်။ ထိုအခါ ဝယ်လိုအားကျ၍ ဈေးနှုန်းများကျမည်၊ ငွေကြေးသုံးစွဲမှုများလည်း လျော့နည်းသွားမည် ဖြစ်သည်။ အရောင်းလည်းကျ၊ ဈေးနှုန်းလည်း များများ မရသည့်အခါ လုပ်ငန်းများ အကျိုးအမြတ်နည်းသဖြင့် ရှိရင်းစွဲအလုပ်ကိုပင် စွမ်းအားပြည့် လုပ်ကိုင်လိုစိတ်ရှိကြမည် မဟုတ်။ စီးပွားရေး ကျုံ့လာနေသည့် ထိုအနေအထား (economic contraction) သည် ရင်းနှီးမြှုပ်နှံမှုများ တိုးတက်မလာမချင်း ၎င်းအတိုင်း ဆက်လက် တည်ရှိနေမည် ဖြစ်သည်။ သို့သော် ရင်းနှီးမြှုပ်နှံမှုများ တိုးတက်ဖို့ဆိုသည်ကလည်း သဘာဝအတိုးနှုန်းများ တက်လာမှ၊ သို့မဟုတ် ဈေးကွက်အတိုးနှုန်းများ ကျလာမှသာ ဖြစ်ပေါ်နိုင်ပေသည်။

အထက်က ခွဲခြမ်းစိတ်ဖြာမှုမှနေ၍ ပေါ်လစီရေးရာအတွက် ရှင်းလင်းပြတ်သားသော အဖြေတစ်ရပ် ထွက်ပေါ်သည်။ ယင်းက၊ ငွေကြေး

အာဏာပိုင်တို့အနေနှင့် ဈေးကွက်အတိုးနှုန်းနှင့် သဘာဝအတိုးနှုန်းတို့ ကွာဟမှု မဖြစ်ပေါ်အောင် ထိန်းသိမ်းကာကွယ်ပေးဖို့ ဖြစ်သည်။ ဈေးကွက် အတိုးနှုန်းကို သဘာဝနှုန်းနှင့် ညီမျှအောင် ထိန်းထားပေးနိုင်မှသာလျှင် စီးပွားရေး ရှင်သန်ကြီးထွားမှုနှင့် ငွေကြေးဖောင်းပွမှုတို့ ဆက်တိုက် တွဲဖက် ဖြစ်ပေါ်ခြင်းကိုလည်းကောင်း၊ စီးပွားရေး တုံ့ဆိုင်းနှေးကွေးမှုနှင့် အလုပ် လက်မဲ့ဦးရေ တိုးပွားမှုတို့ ဆက်တိုက် တွဲဖက်ဖြစ်ပေါ်ခြင်းကိုလည်းကောင်း ကာကွယ်တားဆီးပေးနိုင်မည် ဖြစ်သည်။

၎င်းခွဲခြမ်းစိတ်ဖြာမှုမှ ထွက်ပေါ်သည့် နောက်အချက် တစ်ခုက ငွေကြေးနှင့်အတိုးနှုန်း ဆက်သွယ်ပုံနှင့် ပတ်သက်သည်။ ၂၀ ရာစုအတွင်း အဓိကလက်ခံကြသည့် ငွေကြေးသီအိုရီအရ အတိုးနှုန်းကို ငွေကြေးပမာဏ (money supply) ကပြဋ္ဌာန်းသည် ဟုဆိုသည်။ ဝစ်(က)ဆဲလ်ကမူ ၎င်းနှင့် ဆန့်ကျင်လျက်၊ အတိုးနှုန်း အနည်းအများပေါ်တွင် မူတည်ကာ ဘဏ်တို့မှ ငွေထုတ်ချေးမှု နည်းခြင်းများခြင်း ဖြစ်ပေါ်သည်၊ ထို့ကြောင့် ငွေကြေး ပမာဏကို အတိုးနှုန်းက သတ်မှတ်ပြဋ္ဌာန်းသည်ဟု ယူဆခဲ့ပေသည်။

❖

ဝစ်(က)ဆဲလ်၏ တတိယဖြည့်ဆည်းမှုက ပြည်သူ့ဘဏ္ဍာရေးနှင့် ပတ်သက်သည်။ ဝစ်(က)ဆဲလ်က အစိုးရကဏ္ဍ ကြီးကြီးမားမား ပါဝင်သော ရောပြွမ်းစီးပွားရေး (mixed economy) မျိုးကို အားပေးသည်။ သူက ကုန်ကျစရိတ်နှင့် အကျိုးအမြတ် ဆက်စပ်စိစစ်သောနည်းဖြင့် သုံးသပ် တွက်ချက်ကာ နိုင်ငံပိုင်လုပ်ငန်းများ သိသိသာသာ တိုးတက်လုပ်ကိုင်ရန် အကြံပြုတင်ပြသည်။ လျှပ်စစ်ဓာတ်အားပေးလုပ်ငန်း၊ စာတိုက်ကြေးနန်း ရထားပို့ဆောင်ရေး စသည့် သဘာဝလက်ဝါးကြီးအုပ် လုပ်ငန်းများအားလုံး အများပြည်သူပိုင် ဖြစ်စေရန် သူ တိုက်တွန်းလှုံ့ဆော်သည်။ သည်လုပ်ငန်း များမှာ တစ်ဦးတည်း ချုပ်၍ လုပ်ကိုင်နိုင်မှ အဆင်ပြေတာ မှန်သော်လည်း သည်အတိုင်း လွှတ်ပေးထားလျှင်မူ ချုပ်ကိုင်ခွင့်ရထားသူတို့က ထုတ်လုပ်မှု



ကို ကန့်သတ်ကာ ဈေးနှုန်း မတန်တဆ တင်လာနိုင်သောသဘော ရှိသည်။ ထို့ကြောင့်၊ ၎င်းလုပ်ငန်းမျိုးကို အစိုးရက ပိုင်ဆိုင်ပြီး အစိုးရကိုယ်တိုင် စီမံခန့်ခွဲ လုပ်ကိုင်မှသာ ထုတ်ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများ အလုံအလောက် ထွက်ရှိပြီး၊ ဈေးနှုန်းသက်သာစွာလည်း ဝယ်ယူသုံးစွဲခွင့် ရကြလိမ့်မည်ဟု သူကရှုမြင်သည်။

ဤနေရာ၌၊ ဈေးနှုန်းတို့မှာ ပျမ်းမျှ ထုတ်လုပ်မှုကုန်ကျစရိတ်ထက် နိမ့်နေစရာအကြောင်းရှိရာ၊ အစိုးရပိုင်လုပ်ငန်းများ အနေနှင့် တောက် လျှောက်ပင် အနည်းနှင့်အများဆိုသလို အရှုံးပေါ်နေနိုင်သည်။ သို့သော်၊ ၎င်းအရှုံးကို အထွေထွေ အခွန်အတုတ်များမှ ရရှိသည့် ဘဏ္ဍာငွေဖြင့် စိုက်ထုတ်ကျခံသင့်သည်ဟု ဝစ်(က)ဆဲလ်ကဆိုသည်။ သူက၊ အစိုးရ လုပ်ငန်းများ အနေနှင့် ငွေကြေးအမြတ်အစွန်း ရရှိစရာ မလို၊ တိုင်းပြည်၏ စီးပွားရေးရင်းမြစ်များကို အကောင်းဆုံး ခွဲဝေဖြန့်ဖြူးပေးနိုင်ဖို့သာ အဓိက ဖြစ်သည် ဟုမှတ်ယူပေသည်။

ဝစ်(က)ဆဲလ်၏ ပြည်သူ့ဘဏ္ဍာရေးဆိုင်ရာ အခြား အမြင် တစ်ရပ်က အခွန်ကိစ္စနှင့် ပတ်သက်သည်။ သူက ထိုခေတ် ဆွီဒင်ပြည်၌ ရှိနေသည့် နှုန်းလျှော့အခွန်စည်းကြပ်မှု (regressive taxation) အပေါ် များစွာမှီခိုနေသော အနေအထားကို ပြောင်းလဲစေလိုသောသဘော ရှိသည်။ (နှုန်းလျှော့အခွန်စည်းကြပ်မှုဟူသည်က ဝင်ငွေများလာသည်နှင့်အမျှ အခွန်ကို နှုန်းထားလျှော့၍ ကောက်ခံသွားမှုကို ဆိုလိုသည်။) သူက ဝင်ငွေနည်းသူများအပေါ် ဖိစီးမှုဖြစ်ပေါ်စေသည့် ယစ်မျိုးခွန်၊ အကောက်ခွန် စသည်များကို လျှော့ချပြီး၊ လူတစ်ဦးချင်း သို့မဟုတ် ကုမ္ပဏီလုပ်ငန်း အသီးသီး၏ ဝင်ငွေများ၊ ပိုင်မြေ (estate) နှင့် အမွေအနှစ်ပစ္စည်းများ အပေါ်တွင် နှုန်းတိုးအခွန်စည်းကြပ်မှု (progressive taxation) ပြုလုပ်ရန် တိုက်တွန်းသည်။ (နှုန်းတိုးအခွန်စည်းကြပ်မှု ဟူသည်မှာ ဝင်ငွေများလာ သည်နှင့်အမျှ အခွန်ကို နှုန်းထားတိုး၍ ကောက်ခံသွားမှုကို ဆိုလိုသည်။) ထို့ပြင် ဆွီဒင်၌ ကျင့်သုံးလျက်ရှိသည့် ပစ္စည်းခွန် (property tax) စနစ် ကိုလည်း ပြုပြင်ရန် အကြံပေးသည်။ သည်နေရာ၌ သူ အဓိကတင်ပြသော

အချက်က တိုးတက်လာသော မြေတန်ဖိုးများထဲမှ အလုပ်မလုပ်ဘဲ တိုးလာသည့် အစိတ်အပိုင်းကို အခွန် ပိုမိုကောက်ခံရေး ဖြစ်သည်။ သူ အလုပ်လုပ်၍ ရသောဝင်ငွေကို အလုပ်မလုပ်ဘဲ ရရှိသော ဝင်ငွေထက် အခွန်နှုန်းလျှော့၍ ကောက်ခံစေလိုသောသဘော ရှိပေသည်။

တစ်ဖက်တွင်၊ အစိုးရအသုံးစရိတ်ပိုင်း၌ ဝစ်(က)ဆဲလ်၏ လူမှုရေးဝန်ဆောင်လုပ်ငန်းများ၊ အထူးသဖြင့် ပညာရေးဘက်တွင် ဘဏ္ဍာ ငွေ ဇိုးတက်သုံးစွဲရန် အကြံပြုသည်။ လူ တစ်ဦးချင်းတို့၏ ဝင်ငွေသည် အစွန်းထွက်ထုတ်လုပ်မှုစွမ်းအား (marginal productivity) အသီးသီး ပေါ်၌ မူတည်ပြီး၊ ၎င်းစွမ်းအား အနည်းအများက ပညာတတ်မြောက်မှု ပေါ်၌ မူတည်သည်ဖြစ်ရာ၊ ပညာရေးကဏ္ဍကို တိုးမြှင့်ပေးခြင်းအားဖြင့် ဝင်ငွေကွာဟမှုများ လျော့နည်းစေနိုင်သည်ဟု သူရှုမြင်သည်။ သို့သော် နိုင်ငံသားတိုင်း၏ စိတ်တွင် မိမိတို့ ပေးဆောင်ထားသည့် အခွန်အခများ အကျိုးကျေးဇူး တစ်စုံတစ်ရာ မိမိတို့ ပြန်လည်ရရှိသည်ဟု ခံစားမိစေရန် အတွက်၊ အစိုးရ ဘဏ္ဍာငွေကို ကဏ္ဍနယ်ပယ်စုံသို့ ကျယ်ကျယ်ပြန့်ပြန့် ဖြန့်ကြက်သုံးစွဲရန် အရေးကြီးကြောင်းလည်း သူက အလေးအနက် ပြောဆိုသည်။

ယင်းသို့၊ အများပြည်သူ့အသုံးစရိတ်နှင့် အခွန်အတုတ်ပိုင်းဆိုင်ရာ အဆိုပြုချက် အများအပြားကို လက်တွေ့ အကောင်အထည်ဖော်ဖြစ်သည် အထိ တိုက်တွန်းတင်ပြခဲ့ခြင်းကြောင့် ဝစ်(က)ဆဲလ်အား ဆွီဒင်ပြည် ရောပြွမ်းစီးပွားရေးစနစ်ကို တည်ထောင်သူအဖြစ် အသိအမှတ်ပြု ကြသည်။

❖

တက္ကသိုလ်ပါမောက္ခဘဝမှ အငြိမ်းစားယူပြီးနောက် ဝစ်(က)ဆဲလ် သည် ဆွီဒင်မြို့တော် စတော့ဟုမ်းသို့ ပြန်လည် ရွှေ့ပြောင်းနေထိုင်သည်။ အငြိမ်းစားဘဝတွင် သူ စိတ်ဝင်စားသော အလုပ်များကို ထက်သန်



တက်ကြွစွာ ဆက်လက် လုပ်ကိုင်သည်။ ဆွီဒင်ဗဟိုဘဏ် အကြီးအကဲ၏ အကြံပေးပုဂ္ဂိုလ်အဖြစ် သူ ဆောင်ရွက်သည်။ ပါလီမန်ရှိ ဘဏ်လုပ်ငန်းနှင့် ငွေဆိုင်ရာ ကော်မတီတွင်လည်းကောင်း၊ ဝင်ငွေခွန်နှင့် ပစ္စည်းခွန်များ ကောက်ခံမှုဆိုင်ရာ ကော်မတီတွင်လည်းကောင်း အဖွဲ့ဝင်တစ်ဦးအဖြစ် ဆောင်ရွက်သည်။ ဆွီဒင်၏ လက်ငင်းစီးပွားရေး ပြဿနာများကို ခွဲခြမ်းစိတ်ဖြာ သည့် ဆောင်းပါးစာတမ်းပေါင်း များစွာကို ရေးသားသည်။ ဆွီဒင် စီးပွားရေးပညာ အသင်းတွင် တက်ကြွစွာ ပါဝင်လှုပ်ရှားသည်။ နောင်အခါ စီးပွားရေးပညာ သမိုင်းတွင် စတော့ဟုမ်းကျောင်း (Stockholm School) ဟု အသိအမှတ်ပြုခံရမည့် စတော့ဟုမ်းအခြေစိုက် မျိုးဆက်သစ် စီးပွားရေး ပညာရှင်များအပေါ် ဝစ်(က)ဆဲလ်၏ အယူအဆများ များစွာလွှမ်းမိုး ခဲ့သည်။

# သော်စတိုင်း ဗက်ဘလင်

(၁၈၅၇ - ၁၉၂၉)



သော်စတိုင်းဗက်ဘလင် (Thorstein Veblen) မှာ သမားရိုးကျ စီးပွားရေး အယူအဆများကို ပြင်းပြင်းထန်ထန် စူးစူးရှရှ ဝေဖန်တတ်သူ တစ်ဦး ဖြစ်သည်။ သို့သော် ဝေဖန်ရုံသက်သက်မျှ မဟုတ်။ သူ၏ အမြင်သစ် အယူအဆသစ်များဖြင့်လည်း စီးပွားရေးပညာကို တိုးချဲ့ ဖြည့်ဆည်းသည်။ လူ့အဖွဲ့အစည်းအတွင်းရှိ လူမှုဓလေ့အဆောက်အအုံများ (societal institutions) သည် လူတစ်ဦးချင်း၏ ပြုမူလုပ်ကိုင်ပုံများ အပေါ် များစွာ သက်ရောက်မှုရှိကြောင်း သူ အလေးပေးပြောဆိုသည်။ သူက လူတို့၏ အပြုအမူများသည် ကျိုးကြောင်းသင့် စဉ်းစားဆင်ခြင်မှု၊ မိမိအတွက် အကျိုးရှိမရှိ ချင့်ချိန်တွက်ဆမှုတို့အပေါ်၌ မတည်ဘဲ၊ အကျင့်ပါ နေသော အလေ့အထများ၊ မနာလိုမှု၊ တုပပြိုင်ဆိုင်လိုမှု စသည့်စိတ်ခံစား ရိုက်များပေါ်တွင် အဓိက မူတည်နေလေ့ရှိသည် ဟုရှုမြင်သည်။ ထို့နောက်၊ ထိုသို့ လူ့အပြုအမူကို ဖြစ်ပေါ်စေသော စိတ်နေစိတ်ထားများကို အခြေခံကာ စီးပွားရေးအဆောက်အအုံတို့ ပုံမှန်ပြောင်းလဲဖြစ်ပေါ်နေပုံ အကြောင်းများကို ရှင်းလင်းပြသည်။

❖

ဗက်ဘလင်ကို အမေရိကန်ပြည်ထောင်စု ဝစ္စကွန်ဆင် ပြည်နယ်ရှိ ယာခင်းလေးတစ်ခုတွင် ၁၈၅၇ ခုနှစ်က မွေးသည်။ သူ့မိဘများမှာ နော်ဝေးပြည်မှ ပြောင်းရွှေ့လာကြသူများ ဖြစ်သည်။ ဝစ္စကွန်ဆင်ကျေးလက်၊ မင်နီဆိုးတာပြည်နယ်ကျေးလက် တို့တွင် သူ ကြီးပြင်းရသည်။ မိဘများမှာ ပညာရေးကို အလေးထားသူများဖြစ်၍၊ သားသမီးများကို သူတကာထက် ထူးချွန်အောင်၊ အဆင့်မြင့်ပညာများ သင်ကြားနိုင်အောင် မပြတ်တိုက်တွန်းလေ့ရှိသည်။

တက္ကသိုလ်ကျောင်းသားဘဝ၌ ဗက်ဘလင်သည် ထင်ရှားသော ဆရာကောင်းသမားကောင်းများနှင့် ပညာသင်ကြားခွင့်ရခဲ့၏။ ကာလတန် ကောလိပ်တွင် သူ့အား စီးပွားရေးပညာ သင်ကြားပေးခဲ့သည့် ဂျွန်ဘိတ်(စ) ကလတ်(ခ) (John Bates Clark) မှာ ဝင်ငွေခွဲဝေမှုဆိုင်ရာ အစွန်းထွက် ထုတ်လုပ်မှုသီအိုရီ (marginal productivity theory of income distribution) ကို စတင်ဖော်ထုတ်ခဲ့သည့် စီးပွားရေးပညာရှင်ကြီးတစ်ဦး ဖြစ်၏။ ဂျွန်(စ)ဟော့ပ်ကင်း(စ)တက္ကသိုလ်သို့ တက်ရောက်သည့်အခါ၌ လည်း အတွေးအခေါ်ပညာ (ဒဿနိကဗေဒ) ကို ကမ္ဘာကျော် တွေးခေါ်ရှင် ကြီးတစ်ဦးဖြစ်သူ ချားလ်(စ)ပီယာ့စ် (Charles Peirce) ထံတွင် သင်ယူ ခွင့်ရ၏။ ပီယာ့စ်မှာ အမေရိကန်ပြည်တွင် လက်ငင်းအကျိုးကြည့်ဝါဒ (pragmatism) ကို မျိုးစေ့ချခဲ့သူ ဖြစ်သည်။ ဂျွန်(စ)ဟော့ပ်ကင်း(စ)၌ပင် သူ့အား နိုင်ငံရေးဘောဂဗေဒပညာ သင်ကြားပို့ချခဲ့သည့် ဆရာ ရစ်ချတ် အီးလီ (Richard Ely) မှာလည်း အမေရိကန်စီးပွားရေးပညာရှင်များ အသင်းကို ဦးစီးတည်ထောင်ခဲ့သည့် ထင်ရှားသော ပုဂ္ဂိုလ်ကြီးတစ်ဦး ဖြစ်သည်။

ဤလို ဆရာကောင်းတွေနှင့် ကြုံရသည့်တိုင် မကျေနပ်နိုင်သဖြင့် ဂျွန်(စ)ဟော့ပ်ကင်း(စ) ကိုခွာကာ ယေးလ်တက္ကသိုလ်သို့ ရွှေ့ပြောင်း တက်ရောက်ခဲ့သည်။ ယေးလ်တွင် လူမှုရေးဆိုင်ရာ ဒါဝင်ဝါဒသမား (Social Darwinist) ကြီးတစ်ဦးဖြစ်သူ ဝီလျံ ဂရေဟမ်ဆမ္မနား (William Graham Sumner) ထံ၌ အတွေးအခေါ်ပညာကို ဆည်းပူးသည်။



ထိုအတွေးအခေါ်ပညာ (philosophy) နှင့်ပင် ၁၈၈၄ ခုနှစ်၌ ပါရဂူဘွဲ့ ရရှိသည်။

ပါရဂူဘွဲ့ရသော်လည်း သည်ပညာဖြင့် အလုပ်မရ။ တက္ကသိုလ် များတွင် အတွေးအခေါ်ပညာသင်ဆရာများအတွက် ရာထူးနေရာ သိပ်မရှိ ဖြစ်နေသည်။ သို့နှင့် မိမိဘာသာ စာအုပ်စာတမ်းများ လေ့လာဖတ်ရှုရင်း ခုနစ်နှစ်တာမျှ ကုန်လွန်ခဲ့သည်။ ထို့နောက်တွင်မူ၊ အလုပ်ရနိုင်သည့် ဘာသာရပ်တစ်ခုသို့ ပြောင်းရွှေ့ရန် ဆုံးဖြတ်ကာ စီးပွားရေးပညာ ဆည်းပူးရန်အတွက် ကော်နဲလ်တက္ကသိုလ်သို့ တက်ရောက်ခဲ့သည်။ ကော်နဲလ်တွင် တစ်နှစ်မျှ ကြာပြီးနောက် ဆရာရင်းဖြစ်သူ ဂျေလောရင့်(စ) လပ်(ဖ)လင်း (J. Laurence Laughlin) နှင့်အတူ ရှီကာဂို တက္ကသိုလ်သို့ ပြောင်းရွှေ့ခဲ့သည်။

ရှီကာဂို၌ ဆရာအဖြစ် ၁၄ နှစ်တာမျှ သူ ထမ်းရွက်ခဲ့သည်။ ထိုအတွင်း အလွန်အောင်မြင်ကျော်ကြား လူသိများသည့် စာအုပ်နှစ်အုပ် လည်း ရေးဖြစ်သည်။ တစ်အုပ်မှာ The Theory of the Leisure Class (၁၈၉၉) ဖြစ်၍၊ နောက်တစ်အုပ်မှာ The Theory of Business Enterprise (၁၉၀၄) ဖြစ်သည်။ သည့်အပြင် ဆောင်းပါးစာတမ်းပေါင်း မြောက်မြားစွာ ရေးသားဖြစ်သကဲ့သို့၊ ပညာရှင်လောကတွင် ထင်ရှားသည့် Journal of Political Economy (နိုင်ငံရေးဘောဂဗေဒဂျာနယ်) ကို လည်း တည်းဖြတ်ထုတ်ဝေခဲ့သည်။

ပညာဘက်တွင် ထိုမျှ အစွမ်းအစပြနိုင်ခဲ့သော်လည်း ရှီကာဂို တက္ကသိုလ်၌ ၁၄ နှစ်သာ ကြာသည်၊ လက်ထောက်ပါမောက္ခ အဆင့်မှ မတက်ခဲ့။ ရှီကာဂိုမှ ထွက်ပြီးနောက် အခြားကျောင်းတွေ တစ်ကျောင်းပြီး တစ်ကျောင်း ပြောင်းသည်။ နေရာမကျ။ တက္ကသိုလ်ကောလိပ်အာဏာပိုင် များက တခြားကျောင်းတွင် သူ့အတွက် နေရာကောင်းရနိုင်သည်ဟု ပြောဆိုကာ ရွှေ့ပြောင်းရန်သာ အကြံပေးကြသည်။

သည်လိုဖြစ်ရသည်က သူ၏ ပုဂ္ဂိုလ်ရေးဆိုင်ရာ အကြောင်းများ နှင့်သက်ဆိုင်သည်။ တစ်ချက်က၊ တက္ကသိုလ်ကျောင်းသူများ၊ ဌာနရှိ

အခြားအမျိုးသမီးများနှင့် ဖိမရေးရာပြဿနာများ ပေါ်ပေါက်တတ်ခြင်း ဖြစ်၍၊ နောက်တစ်ချက်က၊ သူတစ်ပါးကို ထိထိခိုက်ခိုက် နစ်နစ်နာနာ ဝေဖန်တတ်သောအကျင့် ဖြစ်သည်။ အထူးသဖြင့် တက္ကသိုလ်ဆရာများ စီးပွားရေးပညာရှင်များကိုဝေဖန်ခြင်းဖြစ်ရာ၊ သည်အချက်ကလည်း သူ့အား လူချစ်လူခင် နည်းစေသည်။ သည့်အပြင်၊ တက္ကသိုလ်တွင် အများသူငါ လိုက်နာဆောင်ရွက်လေ့ရှိသည့် ပုံမှန်အလုပ်များကိုလည်း သူက ဂရုစိုက် လုပ်ကိုင်လေ့မရှိပေ။ ဌာနတွင်းအစည်းအဝေးများကို မှန်မှန်မတက်။ စာသင်ခန်းတွင် ကျောင်းခေါ်ချိန်စာရင်း မကောက်ယူ။ ရုံးခန်းမှာ သတ်မှတ်ချိန်အတိုင်း မှန်မှန်မထိုင်။ ပြီး၊ ကျောင်းသားများ၏ အဖြေလွှာများကိုလည်း သေသေချာချာ စစ်ဆေးအမှတ်ပေးလေ့မရှိ။ ကောင်းသည် ညံ့သည် မခွဲခြား အဖြေလွှာမှန်သမျှကို တစ်သမတ်တည်း 'စီ' အဆင့်ချည်း ပေးလေ့ရှိသည်ဟု နာမည်ရသည်။ နောက်တစ်ချက်က စာသင်သည့်ကိစ္စနှင့်ပတ်သက်သည်။ ပညာပိုင်းတွင် ချွန်သော်လည်း သူက အသင်အပြ ကောင်းသူတစ်ဦး မဟုတ်ခဲ့။ စာသင်ချိန် သူ့အသံက ဆီမန်း မန်းသလို မပီမသ၊ ပို့ချချက်ကလည်း သပ်သပ်ရပ်ရပ် အစီအစဉ်တကျ မရှိ။ တစ်ခါတလေ ဘေးဘက်တွေ အရှိန်လွန်ပြီး ချော်ထွက်သွားသည်။ သည်တော့ သူ့အတန်းမှာ လူ တဖြည်းဖြည်း နည်းလာသည်။ အတန်းတစ်ခုဆိုလျှင် နောက်ဆုံး၌ ကျောင်းသားတစ်ယောက်သာ ကျန်တော့သည် ဟုဆိုပေသည်။

ဗက်ဘလင်အကြောင်း လူပြောများသည့် အခြားအကြောင်းတစ်ခုက အများနှင့်မတူသည့် သူ့နေပုံထိုင်ပုံနှင့် ပတ်သက်သည်။ သူ့အခန်းတွင် အိမ်ထောင်ပရိဘောဂ စနစ်တကျ မထားရှိဘဲ သေတ္တာခွံတွေ ပုံးတွေကိုပင် စားပွဲကုလားထိုင်အဖြစ် အသုံးပြုလေ့ရှိသည် ဟုဆိုသည်။ ထို့ပြင် အိပ်ရာခင်းတာ၊ ပန်းကန်ဆေးတာ စသည့် နေထိုင်စားသောက်မှုကိစ္စများကို အလကား အချိန်ကုန်သည့် ဗာဟီရများဟု သဘောထားကာ ဂရုစိုက် လုပ်ကိုင်မနေဘဲ ပစ်စလက်ခတ် ဖြစ်သလို နေတတ်သည်။ ထမင်းဟင်း ပန်းကန်တွေကို မဆေးကြောဘဲ စည်ပိုင်းတစ်လုံးထဲ စုပြုထည့်ထားပြီး ထည့်စားစရာ ပန်းကန် မရှိတော့ဘူးဆိုမှ ရေပိုက်နှင့် ဒလဟောထိုးချပြီး



ဆေးလေသည်။ မစ်ဇူရီပြည်နယ်တက္ကသိုလ်တွင် ဆရာအဖြစ် ထမ်းဆောင်စဉ်ကလည်း မိတ်ဆွေတစ်ယောက်၏ အိမ်အောက်ခြေ မြေတိုက်ခန်းကို အိမ်လုပ်ပြီး နေထိုင်သည်။ ဝင်ရန်ထွက်ရန်အတွက် မြေတိုက်ခန်း ပြတင်းပေါက်ကိုပင် တံခါးအဖြစ် အသုံးပြုသည် ဟုဆိုပေသည်။

❖

ဗက်ဘလင်၏ စီးပွားရေးအမြင်များကလည်း သူ၏ နေထိုင်မှုပုံသဏ္ဌာန်များလိုပင် အခြားသူများနှင့် တစ်မူကွဲပြားခြားနားလှသည်။

သူက လူ၏ စီးပွားရေးဆိုင်ရာ အပြုအမူများကို စဉ်းစားသုံးသပ်ရာ၌ မနုဿဗေဒနှင့် အခြားလူမှုရေးသိပ္ပံဘာသာရပ်များကိုပါ အသုံးချသည်။ ၎င်းဘာသာရပ်များဆိုင်ရာ ပညာရှင်တို့၏ ရှုထောင့်များမှ ကြည့်သည့်အခါ၊ လူအများတို့အနေနှင့် ရောင်းခြင်းဝယ်ခြင်းစသည့် စီးပွားရေးဆိုင်ရာ ကိစ္စရပ်များကို ဆောင်ရွက်ရာ၌ အကျိုးသင့် အကြောင်းသင့် စဉ်းစားဝေဖန်ကာ မိမိအတွက် အကျိုးရှိရာရှိကြောင်းကိုသာ ရွေးချယ်လုပ်ကိုင်တတ်သည် ဟူသော အယူအဆသည် မှားယွင်းသည်ဟု သူ မြင်လာသည်။ သူက လူတို့သည် ကျိုးကြောင်းသင့်မြတ် စဉ်းစားတတ်လေ့မရှိ။ ဓလေ့ထုံးစံများ၊ အကျင့်ပါနေသည့် အလေ့အထများအတိုင်း လိုက်၍လုပ်တတ်သည်။ ဘယ်ဟာသည် မိမိအတွက် အများဆုံး အကျိုးဖြစ်စေမည် ဟူသည်ကို မကြည့်တတ်ကြ ဟုသုံးသပ်သည်။

ဤသည်မှာ စောစောက ရှိနှင့်ခဲ့သည့် စီးပွားရေးဆိုင်ရာ အစဉ်အလာ ရှုမြင်သုံးသပ်ချက်များကို ပြောင်းပြန်လှန်လိုက်သည့် သဘော ဖြစ်သည်။

ဗက်ဘလင်ရေးသားသည့် စာအုပ်စာတမ်းများအနက် အထင်ရှားဆုံးမှာ သူ၏ ပထမဆုံးလက်ရာဖြစ်သည့် The Theory of Leisure Class ကျမ်း (၁၈၉၉) ဖြစ်သည်။ သည် စာအုပ်ကြောင့် သူ နေ့ချင်းညချင်း ထင်ရှားသွားသည်။ သည်စာအုပ်တွင် သူက လူအများ ကုန်ပစ္စည်း

ဝယ်ယူသုံးစွဲခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးပညာရှင်တို့၏ အစဉ်အလာအယူအဆကို စတင်ငြင်းဆန်ခဲ့သည်။ လူသည် စိတ်ချမ်းသာမှုအလို့ငှာ ဝယ်ယူစားသုံးမှုပြုခြင်း ဖြစ်သည်၊ မည်သည့်ပစ္စည်းကို ဝယ်ယူစားသုံးခြင်းဖြင့် မိမိအတွက် စိတ်ချမ်းသာမှု ပိုမိုရရှိနိုင်ကြောင်း မိမိဘာသာ သုံးသပ်ဆင်ခြင်ကာ ဤကုန်ပစ္စည်း ထိုပစ္စည်းဟူ၍ ခွဲခြားရွေးချယ်မှုပြုတတ်သည် ဟူသောအချက်များကို သူ ပယ်ချသည်။ သူက စားသုံးမှုနှင့်စပ်လျဉ်းသည့် ယဉ်ကျေးမှုသီအိုရီတစ်ရပ် (a cultural theory of consumption) ကို အစားထိုး တင်ပြသည်။ သူ့သီအိုရီအရမူ လူတို့ ဝယ်ယူစားသုံးမှုပြုရာ၌ အကျင့်ပါနေခြင်း၊ အစဉ်အလာ ထုံးဓလေ့သဖွယ်ဖြစ်နေခြင်း၊ တစ်စုံတစ်ရာအပေါ် အစွဲအလမ်းရှိနေခြင်း စသည့် ကျိုးကြောင်းဆင်ခြင်မှုနှင့် မသက်ဆိုင်သော အချက်များက များစွာ အဆုံးအဖြတ်ပြုသည် ဟုဆိုသည်။

လူတို့ စားသုံးမှုပြုခြင်းနှင့်စပ်လျဉ်း၍ အရေးကြီးသော နောက်အချက်တစ်ရပ်က သူတစ်ပါး အထင်ကြီးစေလိုခြင်း ဖြစ်သည်ဟု သူကဆိုသည်။ ဤသည်ကို သူက conspicuous consumption (ပပလွှားလွှား စားသုံးခြင်း) ဟူ၍ သုံးနှုန်းပြောဆိုသည်။ လူတို့အနေနှင့် ရှေးအစဉ်အဆက်ကပင် သည်လိုသုံးစွဲမှုများ ရှိခဲ့ကြောင်း နမူနာသာဓကများဖြင့် ပြောဆိုသည်။ ရှေးဦး ကြီးနိုင်ငယ်ညှဉ်းယဉ်ကျေးမှု လူ့အဖွဲ့အစည်းများ (predatory cultures) ၌ အချို့ပုဂ္ဂိုလ်များအနေနှင့် သူတကာထက် စွမ်းဆောင်နိုင်ခြင်း ကြီးကျယ်မြင့်မားခြင်းကိုပြသည့် လက္ခဏာများအဖြစ် အကျိုးမဲ့စားသုံးမှု (unproductive consumption) များ ပြုလုပ်တတ်ကြသည်ကို တွေ့ရသည်။ သည်ဘက်ခေတ်များတွင်လည်း တတ်နိုင်ကြောင်း၊ ချမ်းသာကြွယ်ဝကြောင်း၊ သူတစ်ပါးထက် အရေးပါကြောင်း ပြလိုသော သဘောအားဖြင့် ပပလွှားလွှားစားသုံးမှုများ ပြုလေ့ရှိကြသည်။ ဥပမာ၊ သူတစ်ပါးကို အဖိုးတန်လက်ဆောင်ပစ္စည်းများ ပေးခြင်း၊ ဈေးကြီးသည်ဆိုသော ကားမျိုးကိုမှ ဝယ်စီးခြင်း၊ ငွေကုန်ကြေးကျများသည့် ဧည့်ခံပွဲကြီးများ တခမ်းတနား ကျင်းပခြင်း စသည်များ ဖြစ်သည်။ မချမ်းသာ မကြွယ်ဝသူများ အောက်အလွှာလူတန်းစား ထဲတွင်လည်း သည်စားသုံးမှုမျိုးသည်



ပုံစံတစ်မျိုးဖြင့် ရှိနေတတ်ကြောင်း၊ ဥပမာ ယောကျ်ားတစ်ဦးတည်းရှာသောဝင်ငွေဖြင့် မပြည့်စုံ မဖူလုံသော်လည်း မိန်းမက အပြင်ထွက်အလုပ်မလုပ်ဘဲ နေခြင်းမျိုးသည် အဆိုပါသဘောသက်ဝင်ကြောင်း သူကဆိုသည်။

ဗက်ဘလင်၏ ပပလွှားလွှား စားသုံးမှု အယူအဆက လူ၏ စီးပွားရေးဘဝနှင့် စပ်လျဉ်းသည့် အစဉ်အလာအမြင်ကို ယိမ်းယိုင်သွားစေသည်။ ဈေးကွက်ထဲ၌ တစ်ဦးချင်းသော စားသုံးသူတို့ ငွေကြေး သုံးစွဲကြခြင်းသည် မိမိတို့အသီးသီး၏ လိုအင်ဆန္ဒပြည့်ဝစေမှု (ဝါ) အသုံးဝင်သော အရာကို ရရှိလိုမှုအတွက် ဖြစ်သည် ဟူသောအချက်ကို သူက ငြင်းပယ်သည်၊ စားသုံးသူတို့ ငွေကြေး သုံးစွဲကြခြင်းသည် မိမိမိတ်ဆွေ သို့မဟုတ် အိမ်နီးနားချင်းများ အထင်ကြီး အားကျကြစေရန်၊ မနာလိုစိတ်ဖြစ်ပေါ်စေရန် သို့မဟုတ် ၎င်းတို့နှင့် တန်းတူရည်တူ သုံးစွဲနိုင်ကြောင်းပြသရန်အတွက် ဖြစ်သည်ဟု သူကဆိုပေသည်။

၎င်းရှုထောင့်မှ ဆက်လက်စဉ်းစားသုံးသပ်သည့်အခါ၊ ဥပမာ၊ ဦးဘက အိမ်နီးချင်းများ အထင်ကြီးစေရန်အတွက် ဈေးကြီးသော ကားတစ်စီး ဝယ်စီးသည့်အခါ၊ သူ့အိမ်နီးချင်းသည်လည်း သူ့ထက် အဆင့်မနိမ့်စေလိုသဖြင့် အလားတူ တန်ဖိုးကြီးသော ကားတစ်စီး ဝယ်စီးသည်။ သည်အခါ နှစ်ဦးလုံး ငွေကုန်ပြီး ဘယ်သူကမှ ဘယ်သူ့ထက် မသာသဖြင့် နှစ်ဦးလုံး ငွေကြေး သုံးစွဲရကျိုးမနပ် ဖြစ်ရသည်။ အကယ်၍သာ ဦးဘ၏ အိမ်နီးချင်းက ဦးဘထက်သာရန်အတွက် ပို၍ဈေးကြီးသော ကားကို ဝယ်စီးပြမည်၊ ထိုအခါ ဦးဘကလည်း မင်းကသည်လိုလား ဟူသောသဘောဖြင့် ပို၍ပို၍ ဈေးကြီးသောကားကို ပြိုင်ဆိုင်ဝယ်ယူမည်ဆိုက၊ နောက်ဆုံးတွင် မိမိတို့ အမှန်တကယ် သုံးစွဲနိုင်သော အတိုင်းအဆထက် ကျော်လွန်သုံးစွဲမိကြသဖြင့် ကြွေးတင်ခြင်း၊ ကားဘက်တွင် အသုံးလွန်သွားသဖြင့် တခြားကိစ္စများတွင် မသုံးစွဲနိုင်တော့ခြင်း စသည့် စီးပွားရေးထိခိုက်မှုများကို တွေ့ကြရမည် ဖြစ်သည်။

ဤသည်က၊ စားသုံးသူတို့သည် မိမိငွေကြေးကို သုံးစွဲရာ၌ မည်မျှအထိ မဆင်မခြင် လုပ်ကိုင်နိုင်ကြောင်း ပြသခြင်း ဖြစ်သည်။ ထို့ကြောင့်၊ ဗက်ဘလင်၏ ပပလွှားလွှားစားသုံးမှု အယူအဆပေါ်လာသည့်အခါ၊ 'စားသုံးသူတို့ အကျိုးအမြတ် ချင့်တွက်တတ်မှု' (consumer rationality) အယူအဆသည် လည်းကောင်း၊ ယင်းနှင့်တွဲဖက်ဖြစ်ပေါ်သည့် စားသုံးသူအာဏာပိုင်စိုးမှု (consumer sovereignty) အယူအဆသည် လည်းကောင်း အခြေမခိုင် ဖြစ်သွားသည်။ လူတို့၏ စားသုံးမှု ပုံစံများသည် အခြားသူတို့၏ စားသုံးမှုများပေါ်တွင် များစွာမူတည်သည်၊ ယဉ်ကျေးမှု ဓလေ့စရိုက်များကလည်း ၎င်းတို့၏ စားသုံးမှုဆိုင်ရာ ဆုံးဖြတ်ချက်များ အပေါ် လွှမ်းမိုးသက်ရောက်သည် ဟုဆိုပါက၊ စားသုံးသူများသည် မိမိ လိုအပ်ချက်ကို မိမိသိကာ လွတ်လပ်စွာ ဆုံးဖြတ်ရွေးချယ် ဝယ်ယူသူများ ဟူ၍ မဆိုနိုင်တော့။ စားသုံးသူသည် ချို့ယွင်းချက် အားနည်းချက် အပြည့် ရှိသည့် သာမန်လူများ ဖြစ်သည်၊ သူတို့သည် မိမိ၌ ဘာလိုအပ်သည်၊ ဘာကို မိမိဝယ်ရမည် ဟူသည်ကို ကောင်းစွာ မဆုံးဖြတ် မရွေးချယ်တတ်၊ ထို့ကြောင့် ကြော်ငြာများကို ကြည့်သည်၊ ယဉ်ကျေးမှုဆိုတာကို ကြည့်သည်၊ ဘာတွေ ခေတ်စားနေသလဲ၊ တခြားသူတွေ ဘာတွေ ဝယ်နေသလဲ ကြည့်သည်၊ ပြီးတော့မှ မိမိငွေကြေးကို ထုတ်၍သုံးကြသည်။ လူတို့သည် မိမိနှင့် အံဝင်ခွင်ကျအဖြစ်ဆုံး မိမိအတွက် တန်ဖိုးအရှိဆုံး ပစ္စည်းကို ရွေးချယ် ဝယ်ယူလေ့ရှိသူများ မဟုတ်ဟု ဗက်ဘလင်က သုံးသပ်သည်။

❖

စားသုံးသူတို့၏ ငွေကြေးသုံးစွဲမှု အလေ့အထများအပြင် ဗက်ဘလင် စူးစမ်းလေ့လာသည့် အခြားနယ်ပယ်တစ်ခုက၊ ၂၀ ရာစု ခေတ်ဦးကာလ အမေရိကန် အရင်းရှင်စနစ်၏ ထူးခြားထင်ရှားသော လက္ခဏာရပ်များအကြောင်း ဖြစ်သည်။ သူက၊ ထိုကာလ အမေရိကန် စီးပွားရေးလောကတွင် စက်ယန္တရားကြီးများနှင့်၊ ငွေရရှိရေးဘက်ကိုသာ



ကြည့်ကာ လက်ရဲဇက်ရဲ လုပ်ကိုင်တတ်သည့် ငွေရှင်လုပ်ငန်းရှင် (robber baron) များ ကြီးစိုးသည့် စက်မှုစီးပွားရေးကဏ္ဍ အရှိန်အဟုန် မြင့်လာသည်။ ငွေကြေးအင်အားဖြင့် မလျော်မကန် လုပ်ကိုင်လာသော လုပ်ငန်းကြီးများကို ကျင့်ဝတ်သိက္ခာပိုင်းအရ ထိန်းချုပ်ကွပ်ကဲနိုင်စွမ်း မရှိ။ စီးပွားရေး အတက်အကျတို့ အရှိန်အဟုန် ပြင်းလာသည်။ လုပ်ငန်း နယ်ပယ်တစ်ရပ်ကို တစ်ဦးတည်းနီးပါး ချုပ်ကိုင်ထားနိုင်သည့် လက်ဝါးကြီး အုပ်လုပ်ငန်းကြီးများ၊ ဥပမာ ယူအက်(စ)စတီးလ်၊ စတင်းဒတ်ရေနံ စသည် တို့ ပေါ်ပေါက်လာနေသည်၊ စသည့်အချက်များကို အဓိက ရွေးထုတ် ပြသည်။ သူနှင့်ခေတ်ပြိုင် စီးပွားရေးပညာရှင် အများစုတို့က စီးပွားရေး တစ်ရပ်သည် တည်ငြိမ်သောမျှခြေ (stable equilibrium) အနေအထား သို့ မည်သို့မည်ပုံ ဦးတည်ရွေ့လျားသွားမည့်အကြောင်း အဓိက အာရုံ စူးစိုက်လေ့ရှိသော်လည်း၊ ဗက်ဘလင်ကမူ ကမ္ဘာ၌ ဖြစ်ပေါ်လျက်ရှိသည့် ပြောင်းလဲမှု (changes) များကိုသာ ရှင်းလင်းဖွင့်ဆိုနိုင်ရန် အားထုတ် လေ့ရှိသည်။

သည်အတွက် သူ လုပ်သည်က စီးပွားရေးလုပ်ငန်းသမား၏ လှုပ်ရှားမှု (business activities) နှင့် စက်ယန္တရားများ၏ လုပ်ငန်းစဉ် (machine process) တို့ကို ခွဲခြားကြည့်ခြင်း ဖြစ်သည်။ ထို့နောက် ယင်းနှင့်ဆက်စပ်၍ပင် စီးပွားရေးသမား (အရင်းရှင်) (capitalist) နှင့် အင်ဂျင်နီယာ (engineer) တို့ကို သူ ခွဲခြားသုံးသပ်သည်။ ဗက်ဘလင်က စီးပွားရေးလုပ်ငန်းတစ်ရပ်ကို ထူထောင်သော ငွေရှင် (အရင်းရှင်) သည် အကျိုးအမြတ် (profit) ရရှိရေး သက်သက်ကိုသာ အာရုံထားသည်၊ သူသည် ကုန်ပစ္စည်းထက် ၎င်းမှရရှိမည့် ငွေကိုသာ ပို၍ စိတ်ဝင်စားသည်၊ သူ့လုပ်ငန်းမှ ထုတ်လုပ်လိုက်သော ကုန်ပစ္စည်းများသည် အပေါစား အညံ့စား တန်ဖိုးမရှိသော အရာများ ဖြစ်ချင်ဖြစ်နေမည်၊ သို့သော် အဲဒါတွေမှ သူ့အတွက် အမြတ်အစွန်းရနေသရွေ့ကား သူ ထုတ်လုပ်နေမည် သာဖြစ်သည် ဟုဆိုသည်။

စက်ယန္တရား၏ လုပ်ငန်းစဉ် ဟူသည်ကမူ ကုန်ပစ္စည်း ထုတ်လုပ်ရာ၌ အသုံးပြုသည့် နည်းနာပိုင်း၊ လုပ်ကိုင်ဆောင်ရွက်ပုံအပိုင်းကို ဆိုသည်။ သည်လုပ်ငန်းစဉ်ကို အင်ဂျင်နီယာများက ပုံစံချမှတ်ခြင်းဖြစ်ပြီး ၎င်းတို့ပင် ကြီးကြပ်လည်ပတ်ရသည်။ လုပ်ငန်းရှင်ငွေရှင်များနှင့် မတူဘဲ အင်ဂျင်နီယာများမှာ ကုန်ပစ္စည်းထွက်ရှိမှု၊ ဝန်ဆောင်နိုင်မှု၊ စွမ်းရည်မြင့်မားမှု တို့ကို စိတ်ဝင်စားသည်၊ လက်ရာမြောက်မှုကို ၎င်းတို့ တန်ဖိုးထားသည်၊ စားသုံးသူတို့၏ လိုအင်ဆန္ဒပြည့်ဝစေမည့် အသုံးဝင်သော ကုန်ပစ္စည်းများ ထွက်ရှိသည် သူ့အလုပ်ဖြစ်သည်၊ စသဖြင့် ဗက်ဘလင်က ခွဲခြားရှုမြင်သည်။

ထို့နောက် သူက စီးပွားရေး အတက်အကျ သံသရာ (business cycle) များ ဖြစ်ပွားရခြင်းသည် စီးပွားရေးလုပ်ငန်းသမားတို့၏ လုပ်ရပ်များတွင် အရင်းခံကြောင်း သုံးသပ်ပြသည်။ လုပ်ငန်းသမားသည် အနာဂတ်တွင် ရရှိမည့် အမြတ်အစွန်းကို မျှော်ကာ ငွေချေးငှားပြီး အလုပ်လုပ်သည်။ ထိုချေးငွေတို့ကြောင့် စီးပွားရေးလုပ်ငန်းများ တိုးပွားလာသည်။ ကုန်ပစ္စည်းဈေးနှုန်းများလည်း တက်လာသည်။ အမြတ်အစွန်းတို့လည်း ပို၍ ရလာသည်။ အကျိုးအမြတ်ရတာ သေချာပြီဆိုလျှင် လုပ်ငန်းသမားသည် နောက်ထပ် အမြတ်အစွန်းပိုရမည့် လုပ်ငန်းများကို စဉ်းစားကြံဆလာမည်၊ လက်ရှိချောမွေ့နေသော လုပ်ငန်းအခြေအနေကို အကြောင်းပြု၍ နောက်ထပ် ငွေကြေးအများအပြား ပိုမို ချေးငှား ရရှိလာမည်။ ၎င်းကို ရင်းနှီးမြှုပ်နှံကာ အမြတ်အစွန်းများ ပိုရလာမည်။ သို့သော်၊ သည်လိုတက်သွားရင်း တစ်ချိန်၌ ရှေ့ဆက် သည့်အတိုင်း မြတ်စွန်းသွားရန် မသေချာသည့် အခြေအထားများ ကြုံလာရမည်။ သည်အခါ အချို့သော စီးပွားရေးသမားများက ထိုသို့ စီးပွားရေးကျုံ့သည့် အနေအထား (လုပ်ငန်းများ လျော့နည်းကျဆင်းသည့် အနေအထား) (contraction) တွင် အကျိုးအမြတ် ရရှိနိုင်မည့် အလုပ်မျိုးကို ရွေး၍လုပ်ကြလိမ့်မည်။ ငွေထုတ်ချေးပေးသူတို့က ချေးငွေများကို ပြန်သိမ်းလိမ့်မည်။ စီးပွားရေးလုပ်ငန်းများ နှေးကွေးတုံ့ဆိုင်းသည့် ကာလတစ်ခုကို ဖြတ်သန်းပြီးသော် လုပ်ငန်းသမားတို့က အမြတ်များများ ရနိုင်မည့် အခွင့်အလမ်းတို့ကို မြင်လာလိမ့်မည်။ ထိုအခါ ငွေချေးငှား



ရင်းနှီးကာ လုပ်ငန်းများ ထူထောင်လာ တိုးချဲ့လာကြပြန်မည်။

ဗက်ဘလင်၏ အဲသည့်အယူအဆက စီးပွားရေး အတက်အကျ သံသရာအကြောင်း သုံးသပ်ရေးသားကြသည့် အခြားသော ၂၀ ရာစု ခေတ်ဦးပိုင်း စီးပွားရေးပညာရှင်များနှင့် သိသိသာသာ ကွဲပြားခြားနားသွားသည်။ သူက စီးပွားရေး အဆောက်အအုံများ၌ မျှခြေအနေအထားသို့ ရွေ့လျားသွားနေသည့် အလားအလာ လုံးဝမမြင်ရ၊ ဘယ်သောအခါမှ ပြီးဆုံးနိုင်သည် မရှိသော မတည်ငြိမ်မှု၊ ဟိုဘက်သည်ဘက် လွဲနေယိမ်းနေမှုများကိုသာ မြင်တွေ့နေရသည် ဟုဆိုသည်။

ထို့ကြောင့်၊ စီးပွားရေးအဆောက်အအုံများ မျှခြေအနေအထားသို့ မည်သို့မည်ပုံ ရွေ့လျားရောက်ရှိသည် ဟူသော သုံးသပ်ချက်များသည် သိပ္ပံနည်းမကျ (ဝါ) မတိကျ မမှန်ကန်၊ စီးပွားရေးတစ်ရပ်အတွင်းရှိ အဓိကမဏ္ဍိုင် (institution) များ ပြောင်းလဲဖြစ်ပေါ်ပုံကို အဓိကထားစိုက်သုံးသပ်မှသာ မှန်ကန်နိုင်မည်ဟု သူကဆိုခဲ့သည်။

❖

သော်စတိုင်းဗက်ဘလင်မှာ နှစ်ဆယ်ရာစုခေတ်ဦးပိုင်း အမေရိကန် စီးပွားရေးပညာရှင်လောက၏ အထင်ရှားဆုံး ထိပ်သီးပုဂ္ဂိုလ် နှစ်ဦးသုံးဦးထဲတွင် ပါဝင်သူ ဖြစ်သည်။ စီးပွားရေးပညာထဲသို့ အခြားသော လူမှုရေးသိပ္ပံဘာသာရပ်များ၏ အသိအမြင်များကို သယ်ဆောင်ထည့်သွင်းပေးခြင်းဖြင့် စီးပွားရေးပညာကို ပို၍ ကျယ်ဝန်းပြည့်စုံအောင် သူ ဖြည့်ဆည်းပေးခဲ့သည်ဟု ယေဘုယျဆိုနိုင်သည်။ ပို၍ တိတိကျကျ ပြောလျှင်မူ၊ ယဉ်ကျေးမှုများ၊ ထုံးဓလေ့အဆောက်အအုံများနှင့် အကျင့်စရိုက်များက လူတို့၏ အပြုအမူကို ပုံဖော်ဖန်တီးသည် ဟူသောအချက်နှင့် ယင်းသို့ ပတ်ဝန်းကျင်အပေါ် မူတည်ကာ ပြောင်းလဲနေသော လူ့အပြုအမူများ (ဝါ) လူတို့၏ စားသုံးမှုအလေ့အထများက စီးပွားရေးအပေါ် သက်ရောက်ကြောင်း ရှုမြင်သုံးသပ်ချက်သည်ပင် သူ၏ အဓိကတွေ့ရှိချက် ဟုဆိုရပါမည်။

ထိုအကြောင်းကြောင့်ပင် စီးပွားရေးပညာလောကၠ ဗက်ဘလင်အား လူမှုရေးမဏ္ဍိုင်ပဓာနပြု စီးပွားရေးပညာအုပ်စု (institutionalist school of economics) ၏ ဦးဆောင်ပုဂ္ဂိုလ်ကြီးအဖြစ် သတ်မှတ်ပြောဆိုလေ့ ရှိကြပါသည်။

## အာဗင်းဖစ်ရှာ
## (၁၈၆၇ - ၁၉၄၇)



အာဗင်းဖစ်ရှာ (Irving Fisher) က ငွေကြေးနှင့်စီးပွားရေး ဆက်နွယ်မှု ပြဿနာများကို တောက်လျှောက် စူးစမ်းလေ့လာခဲ့သူ ဖြစ်သည်။ ငွေကြေးနှင့်အတိုးနှုန်း၊ ငွေကြေးဖောင်းပွမှု၏သဘော၊ စီးပွားရေး လုပ်ငန်းများအပေါ် ငွေကြေး၏ သက်ရောက်ပုံတို့ကို သုတေသနပြုကာ တွေ့ရှိချက် အများအပြားကို ဖော်ထုတ်တင်ပြခဲ့၍ သူ့အား ငွေကြေးဆိုင်ရာ စီးပွားရေးပညာ (monetary economics) ၏ ဖခင်ကြီး ဟူ၍ပင် ခေါ်ဝေါ် ခဲ့ကြသည်။

❖

ဖစ်ရှာကို ၁၈၆၇ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု နယူးယောက် ပြည်နယ်၊ ဆောင်ဂါတီး(စ)မြို့ကလေး၌ မွေးဖွားသည်။ ဖခင်မှာ ခရစ်ယာန် သာသနာ့ဝန်ထမ်းတစ်ဦး ဖြစ်၍၊ ငယ်စဉ်က အလွန် ဘာသာ တရား ကိုင်းရှိုင်းသော ပတ်ဝန်းကျင်တွင် ကြီးပြင်းရသည်။ ထိုစဉ်က ရရှိခဲ့သည့် မိမိကိုယ်ကို လေးစားယုံကြည်စိတ်၊ မိမိအလုပ်ပေါ်တွင်

ထက်သန်စွဲမြဲစိတ်တို့သည် သူ၏ ပုဂ္ဂိုလ်ရေးဘဝတွင်ရော ပညာရှင်ဘဝ၌ပါ ရာသက်ပန် စွဲမြဲခဲ့သည် ဟုဆိုနိုင်သည်။

ငယ်ရွယ်စဉ်ကပင် ပညာကို ကောင်းစွာ သင်ကြားခွင့် ရရှိပြီး သင်္ချာဘာသာ၌ ထူးချွန်ခဲ့သည်။ ကောလိပ်ကျောင်း တက်မည့်အခါ ယေးလ်တက္ကသိုလ်တွင် သင်ယူနိုင်ရန်အတွက် မိသားစုတစ်ခုလုံးပင် ယေးလ်တက္ကသိုလ်ရှိရာ နယူးဟေဗင်မြို့သို့ ပြောင်းရွှေ့ခဲ့သည်။ သူ့အတန်းတွင် နံပါတ် (၁) အဆင့်မှ ဘွဲ့ရပြီး၊ ယေးလ်တက္ကသိုလ်မှာပင် သင်္ချာနှင့် စီးပွားရေးပညာရပ်များကို ဆက်လက်လေ့လာသည်။

စီးပွားရေးပညာကို ဆရာကြီး ဝီလျံ ဂရေဟမ် ဆမ္မနား ထံ၌ စတင် ဆည်းပူးရသည်။ ဆရာ ဆမ္မနားမှာ လူမှုရေးဆိုင်ရာ ဒါဝင်ဝါဒ (Social Darwinism) သမား ဖြစ်သည်။ သူက လူမှုအသိုင်းအဝိုင်းထဲတွင် အကောင်းဆုံး ယှဉ်ပြိုင်နိုင်သူတို့သာ အမြဲ အောင်မြင်မှုရလေ့ရှိကြောင်းနှင့် အပြိုင်အဆိုင် ရုန်းကန် လှုပ်ရှားခြင်းဖြင့်သာ လူတို့၏ဘဝ တိုးတက် ကောင်းမွန်လာနိုင်သည် ဟု ယုံကြည်ကာ၊ ထိုယုံကြည်ချက်ကို ထက်သန် တက်ကြွစွာ ဖြန့်ချိလျက်ရှိသည်။ ဆရာဆမ္မနား၏ လမ်းညွှန်မှုဖြင့် ဖစ်ရှာက ယေးလ်တက္ကသိုလ်တွင် သင်ကြားပေးနေသည့် စီးပွားရေးပညာနှင့် လူမှုရေး သိပ္ပံဆိုင်ရာ သင်တန်းအားလုံးကို စုံစေ့အောင်တက်သည်။ သို့သော် ဆမ္မနား၏ အတွေးအခေါ် အယူအဆများကိုကား သူ စွဲလန်းသက်ဝင်ခဲ့ပုံ မရ။ သူ၏ ပါရဂူဘွဲ့ယူစာတမ်း အပါအဝင် ယေးလ်တက္ကသိုလ်၌ သူ ပြုစု ခဲ့သည့် စာတမ်းများ ကျမ်းများ၌ စီးပွားရေးဘာသာရပ်ထဲသို့ လူမှုရေးရာ သို့မဟုတ် ဒဿနဆိုင်ရာ အကြောင်းရပ်များ ထည့်သွင်းဖို့ထက် ကိန်း ဂဏန်း ပမာဏများအားဖြင့် တွက်ချက်တိုင်းတာပြဖို့သာ အားထုတ်လေ့ ရှိကြောင်း တွေ့ရသည်။

ယေးလ်တက္ကသိုလ်မှ ပါရဂူဘွဲ့ရရှိသည့် ၁၈၉၂ ခုနှစ်လောက်မှာ ပင် ဖစ်ရှာက ထိုခေတ် သင်္ချာဘောဂဗေဒပညာ လောက၌ အရေးပါသော ပုဂ္ဂိုလ်တစ်ဦးအဖြစ်အသိအမှတ်ပြုခံနေရပြီ ဖြစ်သည်။ ယေးလ်တက္ကသိုလ်က သူ့အား မဆိုင်းမတွပင် စီးပွားရေးပညာပါမောက္ခအဖြစ် ခန့်အပ်ခဲ့သည်။



နောက်တွင် ဆုတံဆိပ်နှင့် ဂုဏ်ထူးဆောင်ဘွဲ့တွေ တသီကြီးရသည်။ ၁၉၁၈ ခုနှစ်တွင် သူ့အား အမေရိကန် စီးပွားရေးပညာအသင်း၏ ဥက္ကဋ္ဌ အဖြစ် ရွေးကောက်တင်မြှောက်ကြသည်။ ၁၉၃၀ ခုနှစ်တွင် စီးပွားရေး အတိုင်းအတာပညာ (Econometrics) အသင်းကို ထူထောင်ရာ၌ ပါဝင်ပြီး၊ ထိုအသင်း၏ ပထမဆုံးဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည်။

❖

ဖစ်ရှာက သူ၏ စီးပွားရေးပညာ ကျွမ်းကျင်မှုနှင့် ငွေကြေး ဈေးကွက် နှံ့စပ်မှုတို့ကို အသုံးပြုကာ ဝေါလ်စထရီ ငွေကြေးဈေးကွက်တွင် တကယ် ဝင်ရောက်ကစားခဲ့သည်။ ၁၉၂၀ ကျော်နှစ်များအတွင်း စတော့ ရှယ်ယာ ရောင်းဝယ်ကစားသော အလုပ်ကို အကြီးအကျယ်လုပ်ရာ အချိန်တို အတွင်းမှာပင် ဒေါ်လာ သန်းပေါင်းများစွာ ကြွယ်ဝသူတစ်ဦး ဖြစ်လာ သည်။ ၁၉၂၉ ခုနှစ် စတော့ဈေးကွက် ပျက်သည့်အခါ၌မူ သူ့ဥစ္စာနေ ထက်ဝက်မျှ ဆုံးရှုံးခဲ့သည်။ သို့သော် ဈေးကွက်ပျက်ချိန် ဈေးအရမ်းထိုးကျ နေသည့် စတော့တွေ လိုက်ဝယ်ထားလျှင် နောင်တစ်ချိန် အကျိုးအမြတ် ရလိမ့်မည် ဟူသောတွက်ကိန်းဖြင့် စတော့အများအပြားကို ငွေချေးငှား၍ပင် သူ ဝယ်ယူသည်။ စတော့ဈေးက တော်တော်နှင့်တက်မလာဘဲ ဆက်၍ ဆက်၍ ထိုးကျနေသည့်အခါ သူ ချမ်းသာသမျှ ကုန်၍ ကြွေးပါတင်လေ သည်။ ကြွေးက များပြားလှသည်ဖြစ်ရာ သူ ကွယ်လွန်သည်အထိ ဆပ်၍ မကုန်တော့ပေ။

တစ်ဖက်တွင်၊ ဖစ်ရှာက သူ့ခေတ် လူ့အဖွဲ့အစည်းထဲရှိ အရေးကိစ္စ များစွာ၌ပင် စိတ်အားထက်သန်စွာ ပါဝင်ခဲ့ပြီး၊ ယင်းတို့နှင့် စပ်လျဉ်းသည့် ထင်ရှားသော စာအုပ်စာတမ်း အများအပြား ကိုလည်း ရေးသားခဲ့သည်။ အနာရောဂါ ကင်းစင်၍ အသက်ရှည် ကျန်းမာစေမည့် နေထိုင်မှု နည်းလမ်း များကို ဖော်ထုတ်ကာ၊ ၎င်းပုံစံများအတိုင်း လိုက်နာကျင့်သုံးကြဖို့ လူ အများကို စည်းရုံးလှုံ့ဆော်သည်။ အစာကို ကောင်းမွန်မျှတစွာ စားသုံးရန်၊

သင့်တော်သော ကျန်းမာရေးလေ့ကျင့်ခန်းများ မှန်မှန်ပြုလုပ်ရန် သူ တိုက်တွန်းသည်။ ဘဝသက်တမ်းတိုးမြှင့်ရေးအဖွဲ့ ဟူသည်ကို ၁၉၁၃ ခုနှစ်တွင် သူ ဦးဆောင်ထူထောင်သည်။ ဆေးလိပ်သောက်ခြင်း၊ အရက်သောက်ခြင်း၊ အသားစားခြင်း တို့ကို သူ ဆန့်ကျင်သည်။ အရက်သေစာ တားမြစ်ပိတ်ပင်ရေး၊ နိုင်ငံပေါင်းချုပ် အသင်းကြီးသို့ အမေရိကန်ပြည်ထောင်စု ဝင်ရောက်ရေး စသည့် ကိစ္စရပ်များအတွက် သူ များစွာ အချိန်ပေး၍ အားထုတ်ကြိုးပမ်းခဲ့သည်။

စီးပွားရေးပေါ်လစီနယ်ပယ်၌လည်း သူက တက်ကြွစွာပင် ပါဝင်လှုပ်ရှားခဲ့သည်။ သို့သော် ဝေါလ်စထရီ စီးပွားရေးရပ်ကွက်ထဲ ကိုယ်တိုင်ဝင်ရောက်လုပ်ကိုင်စဉ်ကနည်းတူပင် သည်နယ်ပယ်၌လည်း သူ အောင်မြင်မှု မရခဲ့။ ဘဏ်များအနေနှင့် အပ်ငွေများအားလုံးကို အပြင်သို့ ထုတ်မချေးဘဲ အရန်သင့် ထားရှိရန် စည်းကမ်းသတ်မှတ်ရေး (၁၉၃၅ ခုနှစ် စာတမ်း)၊ လူတစ်ဦးချင်းတို့အား ဝင်ငွေအစား သုံးစွဲမှု (expenditure) ပေါ်တွင် မူတည်၍ အခွန်ကောက်ခံရေး (၁၉၄၂ ခုနှစ် စာတမ်း)၊ ငွေကြေးဖောင်းပွမှုကို ထိန်းချုပ်နိုင်ရန်အတွက် ဒေါ်လာငွေကို ကုန်ပစ္စည်း အမျိုးအမည်စုံတို့ဖြင့် ကျားကန်ပေးရေး (၁၉၂၀ ခုနှစ် စာတမ်း) စသည့် သူ၏ တင်ပြချက်များကို အရေးတယူ စဉ်းစားမှု မပြုခဲ့ကြပေ။

❖

ပေါ်လစီရေးရာ အကြံပြုချက်များ လျစ်လျူရှုခံခဲ့ရသော်လည်း သီအိုရီပိုင်းဆိုင်ရာနှင့် ပတ်သက်၍မူ သူ့အား ပထမတန်းစား စီးပွားရေးပညာရှင်တစ်ဦးအဖြစ် လေးစားသိမှတ် ကြပါသည်။ သည်ကဏ္ဍ၌ သူ အဓိက စိတ်ဝင်စားသည်က ငွေကြေးသီအိုရီ (monetary theory) ဖြစ်သည်။ ငွေကြေး၊ အတိုးနှုန်းနှင့် ဈေးနှုန်းတို့ အပြန်အလှန် ဆက်စပ်ပတ်သက်နေကြပုံ အကြောင်းများကို စူးစိုက်လေ့လာပြီး၊ ငွေကြေးဟူသည်၏ သဘောသဘာဝများနှင့်၊ စီးပွားရေးတစ်ရပ်အပေါ် ငွေကြေး၏



သက်ရောက်ပုံများ အကြောင်းကို ရှင်းလင်းတင်ပြခဲ့ရာ၊ သီအိုရီပိုင်းဆိုင်ရာ၌ သူ၏ အဓိက ဖြည့်ဆည်းချက်များအဖြစ် အသိအမှတ်ပြုကြရသည်။

စင်စစ်၊ စီးပွားရေးပညာနယ်ပယ်တွင် သုံးစွဲနေသည့် ဝင်ငွေ (income)၊ အရင်း (capital) နှင့် ဓန (wealth) ဟူသည့် စကားရပ်များကို ပထမဆုံး တိတိကျကျ အဓိပ္ပာယ် သတ်မှတ်ဖော်ပြခဲ့သူမှာလည်း ဖစ်ရှာပင်ဖြစ်သည်။ အတိုးနှုန်းများကို အစစ်အမှန်အတိုးနှုန်း (real interest rate) နှင့် အမည်ခံအတိုးနှုန်း (nominal interest rate) ဟူ၍ ခွဲခြားသတ်မှတ်ခြင်းကို သူ စတင်ပြုလုပ်ခဲ့သည်။ ထို့ပြင်၊ money illusion (ငွေကြေးအလွဲမြင်ခြင်း) ဟူသောစကားလုံးကို စတင်သုံးစွဲသူမှာလည်း သူပင်ဖြစ်သည်။

ငွေကြေးအလွဲမြင်ခြင်း ဟူသည်က ငွေတစ်ဒေါ်လာနှင့် ထိုဒေါ်လာ၏ ဝယ်နိုင်အား (purchasing power) (သို့မဟုတ် ငွေကြေးဖောင်းပွမှု ဖြစ်ပြီးနောက် ၎င်းဒေါ်လာဖြင့် ဝယ်ယူ၍ ရနိုင်မည့်ပမာဏ) တို့ကို ခွဲခြားသိမြင်နိုင်စွမ်း မရှိခြင်းကို ဆိုသည်။ ဥပမာ၊ ဘဏ်အပ်ငွေ ဆိုပါစို့။ ဘဏ်အတိုးနှုန်းများ လျော့ကျသည့်အခါ အတိုးငွေပမာဏ ယခင်ကထက် လျော့နည်းရရှိခြင်း အတွက် ငွေအပ်သူတို့ မကျေမနပ် ဖြစ်တတ်ကြသည်။ သို့သော် ငွေကြေးဖောင်းပွချိန်၌ အတိုးနှုန်းမြင့်၍ ပေးသော်လည်း ၎င်းမှာ အမည်ခံ တိုးခြင်းမျှသာဖြစ်ပြီး တကယ်လက်တွေ့တွင် ယခင်ကရသည့် လျော့နည်းသော အတိုးလောက် တန်ကြေး မရှိသည်ကိုမူ သတိမမူမိဘဲ ရှိတတ်ကြသည်။ ဤသည်ကို ငွေကြေးအလွဲမြင်ခြင်းဟု ဖစ်ရှာက သုံးနှုန်းပြောဆိုခြင်း ဖြစ်သည်။

ယင်းသို့ ငွေကြေးအလွဲမြင်ခြင်း သဘောသည် နေရာတကာ၌ ရှိနေသည်ဟု ဖစ်ရှာက မှတ်ယူသည်။ စီးပွားရေးသံသရာ (business cycle) များ ဖြစ်ရခြင်းသည်ပင် ယင်းအကြောင်းကြောင့် ဖြစ်သည်ဟု သူက သုံးသပ်သည်။ သူက ကုမ္ပဏီများ စီးပွားရေးလုပ်ငန်းများသည် ငွေကြေးဖောင်းပွသော ကာလ၌ အမည်ခံအတိုးနှုန်းများ မြင့်တက်နေသည်ကို အတိုးနှုန်းများ အမှန်တကယ် တိုးတက်နေသည်ဟု မြင်ကာ

ငွေချေးယူခြင်း၊ ချေးငွေဖြင့် ရင်းနှီးမြှုပ်နှံခြင်းများ မပြုလုပ်ဘဲ နေကြသည်။ ထိုအခါ စီးပွားရေးလုပ်ငန်းများ ကျဆင်းရသည်။ တစ်ဖန်၊ စီးပွားရေး နေးကွေးကျဆင်းသဖြင့် အမည်ခံအတိုးနှုန်းများ လျော့ကျလာသည့်အခါ၊ လုပ်ငန်းသမားများက အစစ်အမှန် အတိုးနှုန်းများ ကျဆင်းနေသည်၊ ယခု အချိန် ချေးငှားလျှင် တွက်ချေကိုက်သည်ဟု ယူဆကာ ဘဏ်မှ ငွေချေးငှား၍ ရင်းနှီးမြှုပ်နှံမှုများ ပြုကြပြန်သည်။ ဤသို့ဖြင့် လုပ်ငန်းကိုင်ငန်းများ တိုးတက် လုပ်ရှားလာလျှင် စီးပွားရေး ကျယ်ပြန့်မှုနှင့်အတူ ငွေကြေးဖောင်းပွမှုလည်း ဖြစ်လာပြန်မည်။ သည်အခါ ဘဏ်များက ချေးငွေပေါ်မှ ရရှိသည့် အစစ်အမှန်အတိုး၏တန်ဖိုး လျော့ကျမသွားစေရန်အတွက် အမည်ခံအတိုးနှုန်းကို တိုးမြှင့်သတ်မှတ်လာရမည်။ သည်အခါ လုပ်ငန်းသမားတွေက အစစ်အမှန် အတိုးနှုန်းတွေ တက်သည်ဟု ငွေကြေးအလွဲမြင်ပြီး ဘဏ်မှ ချေးငှား ရင်းနှီး မြှုပ်နှံမှုများကို လျှော့ချရပ်စဲကြပြန်သည်။ စီးပွားရေး ကျယ်ပြန့်ခြင်း ကျုံ့သွားခြင်း (expansion and contraction) တို့သည် အထက်က သဘောအရ တစ်လှည့်စီ ပေါ်ပေါက်နေကြခြင်း ဖြစ်သည်ဟု ဖစ်ရှာက ရှုမြင်သည်။

ထို့ပြင်၊ စီးပွားရေးတစ်ရပ်လုံးအတွက် ငွေကြေးဖောင်းပွနှုန်းကို မည်သို့တိုင်းတာမည်နည်း ဟူသောပြဿနာကိုလည်း ဖြေရှင်းနိုင်ရန် သူ အားထုတ်ခဲ့သည်။ ရိုးရိုးပြောရသော် ငွေကြေးဖောင်းပွမှုဟူသည် ပုံမှန် မိသားစုတို့ ရင်ဆိုင်ကြရသည့် ကုန်ပစ္စည်း ဈေးနှုန်းအပြောင်းအလဲကို ဆိုလိုခြင်း ဖြစ်၏။ ဤနေရာ၌ မိသားစုတစ်ခု ပုံမှန်ဝယ်ယူလေ့ရှိသည့် ပစ္စည်းအမျိုးအမည် စာရင်းသည် အခြားမိသားစုတစ်ခု ဝယ်ယူလေ့ရှိသည့် ပစ္စည်းများနှင့် အမျိုးအမည်ချင်း ထပ်တူကျလိမ့်မည် မဟုတ်သကဲ့သို့ မိသားစုတစ်ခုတည်းပင် မိုးဥတု၌ ဝယ်ယူကြသော ပစ္စည်းများနှင့် ဆောင်းဥတု၌ ဝယ်ယူကြသော ပစ္စည်းများ ကွဲပြားခြားနားနိုင်ကြသည်။ ထို့ကြောင့် ထို မတူညီသော အနေအထား အမျိုးမျိုး ကြားမှနေ၍ ငွေကြေးဖောင်းပွနှုန်းသည် ဘယ်ရွေ့ဘယ်မျှ ရှိပါသည် (ဝါ) ကုန်ပစ္စည်းတို့၏ ဈေးနှုန်း အပြောင်းအလဲသည် မည်မျှရှိပါသည် ဟူ၍ ကိန်းဂဏန်းတစ်ခုတည်းဖြင့်



ချုပ်၍ ဖော်ပြဖို့မှာ အတော် ခက်ခဲသောသဘော ရှိသည်။

မည်သို့ပင်ဖြစ်စေ၊ ငွေဖောင်းပွနှုန်း တွက်ချက်သူတို့ အနေနှင့်၊ ယေဘုယျ မိသားစုတို့ ဝယ်ယူသုံးစွဲလေ့ရှိသည့် (အသုံးများသည့်) ကုန်ပစ္စည်း အမျိုးအမည်စာရင်းတစ်ခု ပြုလုပ်ကာ သက်ဆိုင်ရာကာလတစ်ခု၌ ၎င်းပစ္စည်းတို့၏ တန်ဖိုးသည် ယခင်ကနှင့် မည်မျှကွဲလွဲသွားကြောင်း (ယခင်ကထက် မည်မျှဈေးနှုန်း မြင့်တက်သွားကြောင်း) နှိုင်းယှဉ်ကြည့်သော နည်းဖြင့် တိုင်းတာတွက်ချက်လေ့ရှိကြပါသည်။ သို့သော် ဤသို့တွက်ချက်ရာ၌ တိမ်းစောင်းသွားနိုင်သည့် အကြောင်းတစ်ခုက၊ ကုန်ပစ္စည်းတစ်ခု ဈေးနှုန်းတက်လာလျှင် ၎င်းအား ဝယ်ယူသုံးစွဲနိုင်မှု လျော့နည်းသွားတတ်ခြင်း ဖြစ်၏။ ဥပမာ၊ ၁၉၇၀ ပြည့်လွန်နှစ်များအတွင်း အမေရိကန်ပြည်တွင် လောင်စာဆီဈေးနှုန်းများ တရကြမ်း ထိုးတက်ခဲ့ရာ၊ ထိုကာလအတွင်း လူအများတို့၏ လောင်စာဆီ သုံးစွဲနှုန်းများလည်း သိသိသာသာပင် ကျဆင်းသွားခဲ့သည်ကို တွေ့ရှိရသည်။ ထို့ကြောင့်၊ ငွေကြေးဖောင်းပွနှုန်း တွက်ချက်သူအနေနှင့် အများသုံးကုန်ပစ္စည်း အမည်တစ်ခုဖြစ်သော 'လောင်စာဆီ' နှင့်စပ်လျဉ်းသည့် ကိန်းဂဏန်းများကို ယူသောအခါ၊ ယခင် ဈေးမတက်မီက သုံးစွဲခဲ့ကြသည့် အရေအတွက် (ပမာဏ) ကို ယူမည်လော၊ ဈေးတက်ပြီးချိန် သုံးစွဲသည့် အရေအတွက်ကို ယူမည်လော၊ ဘယ်ကိန်းဂဏန်းကို ယူ၍ တွက်ချက်မည်လဲ စဉ်းစားစရာ ရှိလာသည်။ နှစ်ဆယ်ရာစု နှောင်းပိုင်းကာလတွင်မူ တိုင်းပြည်တိုင်းပင် ငွေကြေးဖောင်းပွနှုန်းကို တွက်ချက်ရာ၌၊ ကုန်ပစ္စည်း အမျိုးအမည်စုတစ်ခုနှင့် စပ်လျဉ်း၍ ဈေးမတက်မီ အချိန်က လူတို့ သုံးစွဲခဲ့ကြသည့် အရေအတွက်များပေါ်တွင် မူတည်၍ တွက်ချက်လေ့ရှိကြပါသည်။ တိုင်းပြည်များအနေနှင့် သည်စနစ်ကို ကျင့်သုံးခြင်းမှာ လက်တွေ့လုပ်ကိုင်ရာ၌ သက်သာလွယ်ကူသော သဘောကြောင့် ဖြစ်ပါသည်။ စားသုံးသူတို့၏ ဝယ်ယူမှုအလေ့အထ စစ်တမ်းများ ကောက်ယူပြီးမှ တွက်ချက်ဖို့ဆိုလျှင် အချိန်ရော စရိတ်စကပါ များစွာ ကုန်ကျမည်ဖြစ်ရာ၊ ၎င်းစစ်တမ်းမျိုးကို နှစ်အနည်းငယ်တွင် တစ်ကြိမ် လောက်သာ ပြုလုပ်နိုင်ကြသည်။ သို့သော်၊ အထက်က ဆိုခဲ့သည့်

ဈေးမတက်မီ ကာလက သုံးစွဲခဲ့ကြသည့် အရေအတွက် ကိန်းဂဏန်းများကို မူတည်၍ တွက်ချက်သည့်အခါ၊ စားသုံးသူတို့အနေနှင့် ဈေးနှုန်းများ ပြောင်းလဲသွားသော်လည်း ကုန်ပစ္စည်းသုံးစွဲမှု ပုံစံများ မပြောင်းလဲဟု ကောက်ယူရာရောက်သဖြင့်၊ ငွေဖောင်းပွနှုန်း တွက်ရာ၌ တိမ်းစောင်းမှု ဖြစ်စေပေမည်။

ဖစ်ရှာက၊ ဈေးမတက်မီ သုံးစွဲခဲ့သည့် အရေအတွက်မျိုးပေါ်တွင် အခြေခံ၍ တွက်ပါက ငွေဖောင်းပွနှုန်းသည် တကယ်အရှိထက် ပိုနေလိမ့်မည် ဖြစ်ကြောင်း သူ၏ The Making of Index Numbers စာတမ်း (၁၉၂၂) တွင် ထောက်ပြခဲ့သည်။ အကြောင်းက၊ လူတို့အနေနှင့် ရုတ်တရက် ဈေးအလွန်တက်လာသော ပစ္စည်းမျိုး (ဥပမာ - လောင်စာဆီ) ကို မူလကထက် လျှော့ပေါ့သုံးစွဲကြမည်ဖြစ်ရာ၊ တစ်ဖက်တွင် ၎င်းပစ္စည်း ဈေးတက်ခြင်းက ငွေဖောင်းပွနှုန်းတက်အောင် အထောက်အကူပြုတာမှန်သော်လည်း၊ တစ်ဖက်တွင်မူ ယခင်က များများသုံးစွဲခဲ့သော ၎င်းပစ္စည်းကို လျှော့ပေါ့သုံးစွဲလာကြခြင်းကလည်း ယင်းပစ္စည်းအတွက် ကုန်ကျသည့် ငွေပမာဏကို လျှော့ကျစေခြင်းဖြင့်၊ ၎င်းကြောင့် သက်ရောက်မည့် ငွေဖောင်းပွမှုကို ပြန်ထိန်းပေးနိုင်သောကြောင့် ဖြစ်သည်။

တစ်ဖန်၊ ဈေးတက်ပြီးသည့်နောက်တွင်မှ ၎င်းကုန်ပစ္စည်းများ ဝယ်ယူသုံးစွဲမှု ပမာဏကို လိုက်လံစာရင်းကောက်ယူကာ ယင်းကိန်းဂဏန်းတို့ကို အခြေခံပြီးတွက်မည် ဆိုပြန်လျှင်လည်း၊ သိသိသာသာ ဈေးတက်သွားသော ပစ္စည်းများကို ယခင်ကလောက် ဝယ်ယူသုံးစွဲမှု မပြုကြတော့သည့်အချက် (စားသုံးသူတို့၌ ဝယ်နိုင်အား သိသိသာသာ လျော့ပါးသွားသည့်အချက်) ကို ချန်လှပ်ခဲ့ရာရောက်ပြီး၊ တွက်ချက်ရရှိသည့် ငွေဖောင်းပွနှုန်း ရလဒ်သည်လည်း အစစ်အမှန်ထက် လျော့နည်းနေမည် ဖြစ်သည်။ ထို့ကြောင့် ဖစ်ရှာက၊ ငွေကြေးဖောင်းပွမှုကို တိုင်းတာမည့် စံအညွှန်းကိန်း (ideal index number) တစ်ခုရရှိလိုလျှင် တိုင်းတာရေးအတွက် ရွေးချယ်ထားသည့် ကုန်ပစ္စည်း အမျိုးအမည်စုပါ ပစ္စည်းတစ်ခုချင်း၏ ဈေးမတက်မီ ဝယ်ယူသုံးစွဲသော ပမာဏနှင့် ဈေးတက်ပြီးချိန် ဝယ်ယူသုံးစွဲသော ပမာဏ



တို့ကို ပျမ်းမျှခြင်းချ၍ တွက်ချက်မှသာ အမှန်နှင့် နီးစပ်နိုင်မည်ဟု အကြံပြုခဲ့သည်။

❖

စီးပွားရေးပညာရပ်သို့ ဖစ်ရှာ ဖြည့်ဆည်းပေးခဲ့သည်များအနက်၊ အတိုးနှုန်း (interest rate) တို့ကို မည်သည့်အချက် (factor) များက သတ်မှတ်ပြဋ္ဌာန်းသနည်း၊ မည်သည့်အချက်များက ငွေကြေးဖောင်းပွမှု (inflation) ဖြစ်ပေါ်စေသနည်း ဟူသည်များနှင့်စပ်လျဉ်း၍ ခွဲခြမ်းစိတ်ဖြာပြခဲ့ခြင်းတို့မှာ အရေးပါသည်။

အတိုးနှုန်းဆိုင်ရာ ဖစ်ရှာ၏ သီအိုရီကို ဘောဂဗေဒကျောင်းသားများ သင်ကြားနေကြရဆဲ ဖြစ်သည်။ စီးပွားရေးတစ်ရပ်အတွင်း အတိုးနှုန်းများ ပြဋ္ဌာန်းဖြစ်ပေါ်ပုံအကြောင်းနှင့် စပ်လျဉ်း၍ သူ ပိုင်းခြားဝေဖန်ပြပုံမှာ တိကျမှန်ကန်ကြောင်း စီးပွားရေးပညာရှင် အများစုတို့က လက်ခံထားကြသည်။

The Theory of Interest စာတမ်း (၁၉၃၀) တွင် ဖစ်ရှာက၊ အတိုး (interest) ဟူသည် ပစ္စည်းတစ်စုံတစ်ရာအား ထုတ်လုပ်မှု (production) တွင် သုံးစွဲခြင်းမှ ထွက်ပေါ်သည့် ဝင်ငွေစီးဆင်းမှု (income flow) အဖြစ် ရှုမြင်သင့်ကြောင်း၊ အထူးသဖြင့် ဆိုရသော် အတိုးဟူသည် မိမိပိုင်ဥစ္စာပစ္စည်းကို ကုန်ပစ္စည်း ထုတ်လုပ်ရာ၌ အသုံးပြုရန် ခွင့်ပြုသော သူထံသို့ စီးဆင်းသော ဝင်ငွေဖြစ်ကြောင်း သူက တင်ပြခဲ့သည်။ လူတစ်ယောက်က မိမိပိုင်နေဥစ္စာကို သုံးစွဲမပစ်ဘဲ လုပ်ငန်းတစ်ခုသို့ ချေးငှားသည့်အခါ ယင်းနေဥစ္စာကို ကုန်ပစ္စည်း ထုတ်လုပ်မှုဖြစ်စဉ်၌ ထည့်သွင်းသုံးစွဲနိုင်ကြသည်။ သည့်အတွက် ၎င်းလူ၌ အတိုးငွေရရှိခြင်းသည် မိမိနေဥစ္စာကို လတ်တလော မစားသုံးဘဲ၊ ဆိုင်းငံ့ပေးထားခြင်းအတွက် ဆုလာဘ်အဖြစ် ခံစားရခြင်း ဖြစ်သည်။ လူတို့၏ သဘောမှာ ရယူခံစားပိုင်ခွင့်ရှိသော အရာကို လက်ငင်းပင် ခံစားလိုစိတ် ရှိကြစမြဲဖြစ်ရာ၊ ယင်းသို့ မခံစားဘဲ

နောက်တစ်နှစ် နောက်နှစ်နှစ် စသဖြင့် စောင့်ဆိုင်းခိုင်းမည်ဆိုလျှင် ယင်းအတွက် တစ်စုံတစ်ရာတော့ ပေးရမည်သာ ဖြစ်သည်ဟု သူက ရှုမြင်သည်။ ထိုအချက်ကို အမိကပြုကာ ဖစ်ရှာ၏ သီအိုရီကို အတိုးဆိုင်ရာ အချိန်ဦးစားပေး သီအိုရီ (time-preference theory of interest) ဟူ၍ ခေါ်ဝေါ်လေ့ရှိကြပါသည်။

ဖစ်ရှာ့အလိုအရ အတိုးနှုန်းများကို သတ်မှတ်ပြဋ္ဌာန်းသည့် အင်အားနှစ်ရပ်ရှိသည် ဟုဆိုသည်။ ယင်းတို့မှာ ရောင်းလိုအားနှင့် ဝယ်လိုအား ဖြစ်သည်။ ရောင်းလိုအားဘက် (supply side) ၌ တစ်ဦးချင်း သောသူတို့ အနေနှင့် လတ်တလောဝင်ငွေနှင့် အနာဂတ်ဝင်ငွေ တို့အနက် ဘယ်အရာကို ဦးစားပေး ရွေးချယ်ကြမည်လဲ ဟူသောအချက် ရှိသည်။ ကိုယ့်ငွေကြေးကို လတ်တလော မသုံးစွဲဘဲ သူတစ်ပါးအား ကာလ တစ်စုံတစ်ရာ ချေးငှားထားပါက အတိုး မည်မျှရမည်လဲ၊ ထိုကာလ ကုန်ဆုံး ချိန်တွင် မည်မျှ များများ ပို၍ သုံးစွဲနိုင်ခွင့် ရှိမည်လဲ ဟူသောအချက်ပေါ်တွင် မူတည်စဉ်းစားကာ မိမိ စုဆောင်းငွေကို သူတစ်ပါးအား ချေးငှားထားလိုသူ ဦးရေ အနည်းအများ ဖြစ်ပေါ်မည်။ အတိုးနှုန်းများလျှင် ထုတ်ချေးလိုသူ များမည်၊ အတိုးနှုန်းနည်းလျှင် ထုတ်ချေးလိုသူ နည်းမည်ဟု ယေဘုယျ မှတ်ယူနိုင်သည်။

အလားတူ ဝယ်လိုအားဘက် (demand side) တွင်လည်း ငွေချေးယူမည့် သူတို့အနေနှင့်၊ ထိုငွေဖြင့် ရင်းနှီးမြှုပ်နှံမှုပြုနိုင်စရာ အခွင့် အလမ်း မည်ရွေ့မည်မျှ ရှိသလဲ၊ လူအရင်းအနှီး အပါအဝင် အရင်း (capital) ၏ ကုန်ထုတ်လုပ်မှုစွမ်းအား (productivity) ဘယ်လောက်များများ ရှိနေသလဲ (ဝါ) ချေးငှားရင်းနှီးမြှုပ်နှံခြင်းဖြင့် မည်မျှ အကျိုးအမြတ် ရရှိနိုင် သလဲ ဟူသောအချက်များကို စဉ်းစားကြရမည် ဖြစ်သည်။ ကုန်ထုတ်လုပ်မှု စွမ်းအား တကယ် တိုးတက်မည်ဆိုက အမြတ်အစွန်းလည်း တိုးပွားမည် ဖြစ်ရာ လုပ်ငန်းရှင်တို့က လုပ်ငန်းကို တိုးချဲ့လိုကြမည် ဖြစ်သည်။ ထို သည်အတွက် လိုအပ်မည့် ငွေကြေးကို ၎င်းတို့ ချေးငှားကြလိမ့်မည်။ လုပ်ငန်းချဲ့လိုသူတွေ များသော် (ဝါ) ဝယ်လိုအားများသော် အတိုးနှုန်းကို



တိုးမြှင့်ပေးကြလိမ့်မည်။ ငွေရှင်တို့က ထုတ်ချေးလိုသော ငွေပမာဏနှင့် လုပ်ငန်းသမားတို့ ချေးယူလိုသော ငွေပမာဏများ တူညီနေချိန်၌ရှိသည့် အတိုးနှုန်းကိုမူ မျှခြေအတိုးနှုန်း (equilibrium rate of interest) ဟူ၍ သတ်မှတ်သည်။

ဖစ်ရှာက ရောင်းလိုအား နှင့် ဝယ်လိုအား တို့အပေါ် လွှမ်းမိုး သက်ရောက်သော အင်အားများအကြောင်း ဖော်ပြပြီးနောက်တွင်၊ ယင်း အင်အားများ ကိုယ်တိုင်သည်လည်း တည်ငြိမ်မှု မရှိကြောင်း ပြောဆိုသည်။ ထို့ပြင်၊ ရောင်းလိုအားနှင့် ဝယ်လိုအား တို့အပေါ်၌ ဖော်ပြခဲ့သည့် စီးပွားရေး အကြောင်း အချက်များအပြင် မြီစားနှင့်မြီရှင်တို့၏ အသိဉာဏ် ဗဟုသုတ အသုံးစွဲသည့် အလေ့အထ၊ မိမိကိုယ်ကို ထိန်းချုပ်နိုင်စွမ်း အနည်းအများ၊ ရှေ့နောက် ချင့်တွက် တိုင်းတာတတ်သည့် စွမ်းရည် စသည့် လူမှုရေးရာနှင့် စိတ်ဓာတ်ရေးရာ အကြောင်းအချက်များကလည်း လွှမ်းမိုးသက်ရောက်မှု ရှိကြောင်း သူ တင်ပြခဲ့သည်။

၁၉၁၁ ခုနှစ်တွင် ဖစ်ရှာက လဲလှယ်မှုညီမျှခြင်း (equation of exchange) ဟူသောအမည်ဖြင့် ယနေ့ ထင်ရှားလျက်ရှိသည့် ညီမျှခြင်း တစ်ခုကို ဖော်ထုတ်ကာ၊ ယင်းဖြင့် ဈေးနှုန်းဖောင်းပွခြင်း (price inflation) ၏ အကြောင်းရင်းများကို တင်ပြခဲ့သည်။ MV = PQ ဟူ၍ ရေးသားသည့် ၎င်းညီမျှခြင်းတွင် M သည် money supply (ငွေကြေး ပမာဏ) ဖြစ်၍၊ V (Velocity) မှာ တစ်နှစ်တာကာလအတွင်း ငွေပမာဏ တစ်ခုအား ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ ဝယ်ယူရာတွင် သုံးစွဲသည့် အကြိမ် အရေအတွက် (ဝါ) ငွေလည်ပတ်နှုန်း ဖြစ်သည်။ P (Price) မှာ ကုန်ပစ္စည်း သို့မဟုတ် ဝန်ဆောင်မှု၏ ဈေးနှုန်း ဖြစ်၍၊ Q မှာ ၎င်းကုန် ပစ္စည်း သို့မဟုတ် ဝန်ဆောင်မှုပမာဏ (quantity) ဖြစ်သည်။ ထို့ကြောင့် MV = PQ ၏အဓိပ္ပာယ်မှာ၊ ငွေပမာဏ နှင့် ၎င်းငွေ၏ လည်ပတ်နှုန်း မြှောက်လဒ်သည် ကုန်ပစ္စည်း – ဝန်ဆောင်မှုဈေးနှုန်း နှင့် ယင်း၏ အရေ အတွက် (ပမာဏ) မြှောက်လဒ်နှင့် တူညီသည်၊ တူညီရမည် ဟူ၍ဖြစ်သည်။ ဥပမာ၊ ပြင်သစ်ပြည်၏ စီးပွားရေး ဆိုပါစို့။ ၎င်းရှိ ငွေကြေးပမာဏသည်

ဖရန့်ငွေ ၁ ထရီလီယံမျှဖြစ်ပြီး၊ တစ်နှစ်တာအတွင်းတွင် ယင်းဖရန့်ငွေ အသီးသီးသည် ငွေပေးချေရာများတွင် ပျမ်းမျှခြင်း ၇ ကြိမ်စီ ပါဝင်ခဲ့ရသည် ဆိုပါက၊ ထိုတစ်နှစ်တာအတွင်း စားသုံးသူတို့ ဝယ်ယူသုံးစွဲသည့် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုတို့၏ တန်ဖိုးစုစုပေါင်းသည် ဖရန့်ငွေ ၇ ထရီလီယံ ရှိရမည် ဟူသောသဘော ဖြစ်သည်။ ၎င်းဖရန့်ငွေ ၇ ထရီလီယံသည် ပြင်သစ်ပြည်၏ အမျိုးသားထုတ်ကုန် (national output) ပမာဏ သို့မဟုတ် စုစုပေါင်း ပြည်တွင်းထုတ်ကုန် (gross domestic product) အားလုံး၏ တန်ဖိုးပင် ဖြစ်သည်။

MV = PQ ညီမျှခြင်းကို အခြေခံကာ ဖစ်ရှာက ငွေဖောင်းပွမှု ဖြစ်ပေါ်စေနိုင်သည့် အနေအထား သုံးရပ်ကို ထုတ်ဖော် ရှင်းလင်းပြသည်။ ပ နံပါတ် (၁) မှာ၊ အကယ်၍ V နှင့် Q နှစ်ခုလုံးသည် ကိန်းသေ (constant) ဖြစ်မည်ဆိုက တန်ဖိုး (price) များသည် ငွေကြေးပမာဏ (money supply) ပေါ်တွင်မူတည်၍ ပြောင်းလဲခြင်း ဖြစ်လိမ့်မည် ဟူသောအချက် ဖြစ်သည်။ တစ်နည်းပြောရသော်၊ စီးပွားရေးတစ်ရပ်အတွင်း ငွေကြေး ပမာဏ များပြားလွန်းနေလျှင် ငွေဖောင်းပွမှု ဖြစ်ပေါ်သည် ဟူ၍ ဆိုလိုခြင်း ဖြစ်သည်။ ဒုတိယမှာ၊ အကယ်၍ M နှင့် Q တို့သာ ကိန်းသေများ ဖြစ်မည် ဆိုက တန်ဖိုးများသည် ငွေလည်ပတ်နှုန်း (velocity) ပေါ်တွင် မူတည်၍ ပြောင်းလဲလိမ့်မည် ဟူသောအချက် ဖြစ်သည်။ အဓိပ္ပာယ်က၊ ငွေဖောင်းပွခြင်းသည် လူတို့က မိမိတို့ငွေကြေးကို အလွန် လျင်မြန်စွာ သုံးစွဲနေကြခြင်းကြောင့်၊ သို့တည်းမဟုတ် စီးပွားရေးအဆောက်အအုံက ထုတ်လုပ်ပေးနိုင်သည့် ကုန်ပစ္စည်း အရေအတွက်ထက် ပို၍ ဝယ်ယူသုံးစွဲရန် လုံးပန်းနေကြခြင်းကြောင့် ဖြစ်သည် ဟုဆိုလိုခြင်း ဖြစ်ပါသည်။ တတိယမှာ၊ အကယ်၍ M နှင့် V တို့သာ ကိန်းသေများ ဖြစ်ကြမည်ဆိုလျှင် တန်ဖိုးများသည် ကုန်ပစ္စည်း အရေအတွက် အနည်းအများပေါ်တွင် မူတည်၍ အတက်အကျ ဖြစ်ကြလိမ့်မည် ဟူသောအချက် ဖြစ်သည်။ တစ်နည်းပြောသော် ကုန်ပစ္စည်းများ ပါးရှားခြင်းသည်လည်း ငွေဖောင်းပွခြင်းကို ဖြစ်စေနိုင်သည် ဟူသောသဘော ဖြစ်ပါသည်။



အထက်က စိစစ်ချက်ကို နောက်တစ်ဆင့်တက်ကာ ဖစ်ရှာက၊ M, V နှင့် Q တို့အပေါ် သက်ရောက်စေနိုင်သည့် အချက်များကို ဆက်လက်လေ့လာသည်။ ယင်းအနက် အရေးပါဆုံး တစ်ချက်က၊ လူတို့၏ ငွေကြေးသုံးစွဲမှု အလေ့အထနှင့် ငွေကြေးရရှိပုံ နည်းလမ်းများသည် ငွေလည်ပတ်နှုန်း အပေါ်၌ မည်သို့မည်ပုံ သက်ရောက်ကြောင်း ခွဲခြမ်းသုံးသပ်ခြင်း ဖြစ်သည်။ ဥပမာ၊ အကယ်၍ ပြင်သစ်ပြည်၌ လုပ်သားအားလုံးပင် လစဉ် လအစပိုင်း၌ လုပ်ခငွေရရှိကြသည် ဆိုပါစို့။ ထိုငွေအားလုံးကို တစ်လတာ ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ ဝယ်ယူရာ၌ ၎င်းတို့ သုံးစွဲကြမည်ဆိုက၊ လကုန်ပိုင်း ရောက် ရောက်သည့်အခါ ငွေအားလုံးသည် လုပ်ငန်းရှင်တို့ လက်ဝယ်သို့ ပြန်လည်ရောက်ရှိကာ၊ ထိုငွေများဖြင့်ပင် နောက်လအတွက် လုပ်ခ လစာငွေကို ပြန်၍ ပေးကြမည် ဖြစ်သည်။ ထို့ကြောင့် သည်ဥပမာအရမှု ပြင်သစ်ဖရန့်ငွေအားလုံးတို့သည် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုတို့ ဝယ်ယူသည့်နေရာ၌ တစ်နှစ်အတွင်း ၁၂ ကြိမ်မျှ အသီးသီး ပါဝင်ခဲ့ရသည်ဖြစ်၍ ငွေလည်ပတ်နှုန်း (velocity) သည် ၁၂ ဖြစ်သည် ဟုမှတ်ယူရပါမည်။ အကယ်၍သာ၊ အထက်ကကဲ့သို့ မဟုတ်ဘဲ၊ ပြင်သစ်လုပ်သားများအား လုပ်ခငွေကို တစ်လလျှင် နှစ်ကြိမ်၊ လအစနှင့် လအလယ်တို့၌ တစ်ဝက်စီ ခွဲ၍ပေးမည် ဆိုပါစို့။ ငွေထုတ်လိုက်၊ သုံးစွဲလိုက်၊ နောက်တစ်ကြိမ် ပြန်ထုတ်လိုက်နှင့် လည်ပတ်နေသောနှုန်းသည် တစ်နှစ်လျှင် ၁၂ ကြိမ် အစား ၂၄ ကြိမ် (velocity = ၂၄) ဖြစ်လာပေမည်။

ထို့နောက်ဆက်၍ ဖစ်ရှာက၊ လုပ်ခငွေရရှိခြင်းတို့သည် အထက်က ဆိုသည့်အတိုင်း တစ်လ တစ်ကြိမ်၊ သို့မဟုတ် တစ်လ နှစ်ကြိမ် စသဖြင့် ပုံမှန်သာ ဖြစ်လေ့ရှိရာ၊ ယင်းကြောင့်ပင် ငွေလည်ပတ်နှုန်းသည်လည်း အပြောင်းအလဲ နည်းပါးမည် (ဝါ) ကိန်းသေသဘောရှိမည် ဟုသုံးသပ်သည်။ ထိုအခါ စီးပွားရေး အတက်အကျ (economic fluctuation) များ ဖြစ်ရခြင်း၏ အဓိကအကြောင်းရင်းသည် ငွေကြေးပမာဏ (money supply) ပြောင်းလဲခြင်းကြောင့်သာ ဖြစ်သည်ဟူ၍ ကောက်ချက်ချစရာ ရှိလာသည်။ ဖစ်ရှာက၊ ငွေကြေးပမာဏ ပြောင်းလဲလျှင် ကုန်ပစ္စည်းတန်ဖိုးတွင်

လည်းကောင်း၊ ကုန်ပစ္စည်းအထွက်တွင် လည်းကောင်း ပြောင်းလဲမည် ဖြစ်ကြောင်း၊ ကုန်ဈေးနှုန်း ကြီးမြင့်ချိန်တွင် လည်ပတ်ငွေပမာဏကို လျှော့ချပေးခြင်းဖြင့် ဈေးနှုန်းများ ကျဆင်းစေနိုင်ပြီး၊ လည်ပတ်ငွေကို တိုးမြှင့်ပေးပါက ဈေးနှုန်းများ မြင့်တက်လာနိုင်ကြောင်း ပြောဆိုခဲ့သည်။ သည်ဘက်ခေတ် ထင်ရှားသော စီးပွားရေးပညာရှင် မီလတန် ဖရီး(ဒ)မင်း (Milton Friedman) နှင့် အခြား ငွေကြေးပမာဏပြု စီးပွားရေးပညာရှင် (monetarist economist) များကမူ ငွေကြေးပမာဏ ပြောင်းလဲမှုကြောင့် ဈေးနှုန်းပြောင်းလဲခြင်းသည် ရေရှည်၌သာ ဖြစ်ပေါ်နိုင်သည်ဟု ဝေဖန် ထောက်ပြကြပါသည်။

❖

၂၀ ရာစု ပထမပိုင်းကာလ အမေရိကန်စီးပွားရေးပညာ လောက၌ အခြားသူများထက် သိသိသာသာ ထူးခြားထင်ရှားသော ပုဂ္ဂိုလ်နှစ်ဦး ရှိသည်။ ယင်းအနက် တစ်ဦးမှာ သော်စတိုင်း ဗက်ဘလင် (Thorstein Veblen) ဖြစ်၍၊ ကျန်တစ်ဦးမှာ အာဗင်းဖစ်ရှာ ဖြစ်သည်။ ဗက်ဘလင်က ဖစ်ရှာထက် နှစ်အနည်းငယ်စောကာ ယေးလ်တက္ကသိုလ်သို့ တက်ရောက် ခဲ့သူ ဖြစ်ပြီး၊ အထွေထွေ ပရိသတ်လောက၌ သူ့စာအုပ်များက ပို၍ ပျံ့နှံ့ ကျော်ကြားသည်။ သို့သော်၊ စီးပွားရေးပညာရှင်များအကြား ယနေ့တိုင် ထင်ရှားသည့် လဲလှယ်မှုညီမျှခြင်း အပါအဝင် သီအိုရီပိုင်းဆိုင်ရာ ဖြည့်ဆည်းချက်များအတွက် ဖစ်ရှာအား ပညာသမားတို့ ပို၍ လေးစား သိမှတ်ကြသည် ဟုဆိုပါသည်။

ဖေမြင့်



အောင်မြင်ကြီးပွားရေးကျမ်းဝတ္ထု

ကျောက်မီးသွေးလုပ်ငန်းရှင်ကြီးတစ်ဦး၏ ရုံးခန်းဝ၌ ကုဗပုံ ရောမ ကျောက်မီးသွေးတုံးကြီးတစ်တုံး ချထားပြီး ယင်း၏ မျက်နှာစာတစ်ဖက်တွင် သူ့အား သူကြွယ်ဘဝသို့ ပို့ဆောင်ပေးခဲ့သည့် အရေးပါဆုံး စာအုပ်နှစ်အုပ်ကို ချိတ်ဆွဲပြသထားသည်။ ယင်းအနက် တစ်အုပ်သည် ယခု 'ဘောဂီလုံမှာ အချမ်းသာဆုံးပုဂ္ဂိုလ်' ဖြစ်သည်။

# ဖေမြင့်

# ဘောဂီလုံမှာ အချမ်းသာဆုံးပုဂ္ဂိုလ်

[ စာမူခွင့်ပြုအမှတ် - ၅၀၁၂၁၂၀၅၀၉ ]